# ဟယ်လင် ကယ်လာ

# ကျမ၏ ဘဝဖြစ်စဉ်

## ဒုတိယတွဲ



ဟယ်လင်ကယ်လာကိုယ်တိုင်ရေး၍ နေရောင် ဘာသာပြန်သည်

# ဟယ်လင်ကယ်လာ

## ( ကျွန်မ၏ ဘဝဖြစ်စဉ် )

## ( ဒုတိယတွဲ )

# HELEN KELLER

## STORY OF MY LIFE

ဟယ် လင် ကယ် လာ ကိုယ် တိုင် ရေး၍-
နေရောင်ဘာသာပြန်သည်။

ပြည်သူ့ရှေ့ဆောင်သတင်းစာပုံနှိပ်တိုက်။
၄[illegible] မင်္ဂလာလမ်း၊ စမ်းချောင်းရပ်။ ရန်ကုန်မြို့။

မြန်မာဘာသာဖြင့် ပဌမနှိပ်ခြင်း—အုပ်ရေ ၆၀၀၀။
၁၉၅၅-ခု။ မေလ။ ဒုတိယတွဲ။



မစ္စဟယ်လင်ကယ်လာ ဆရာမ–မစ္စဆူလီဗင်နှင့်
မစ္စတာ ဂျိုဇက် ဂျက်ဖါဆင်

## (အမှာ)

ဟယ်လင် ကယ်လာ ကိုယ်တိုင် ရေး သား သော အထုပ္ပတ္တိထူးကြီးကို ပထမတွဲအဖြစ် ပုံနှိပ်ထုတ်ဝေခြင်း ပြုကဲ့သည်။ ဒုတိယတွဲတွင်ကားဟယ်လင်ကယ်လာကိုယ်တိုင် မိတ်ဆွေများထံ ရေးသာသော စာများအနက်၊ သူမ၏ကြိုးပမ်းအားထုတ်ပုံများ၊အတွေ့အကြုံဗဟုသုတများကိုဖေါ်ပြသော ပေးစာများမှ ကောက်နှုတ်ချက်များကို ဒုတိယပိုင်းအဖြစ် ဖေါ်ပြထားပါသည်။

တတိယပိုင်းမှာ မစ္စဟယ်လင်ကယ်လာအား ငယ်စဉ်ကာစ၍၊ ပညာသင်ကြားပေးရသော ဆရာမ မစ္စအင်နီဆူလဗင်ကိုယ်တိုင် တပည့်မကလေး ပညာသင်ကြားရေးနှင့်ပါတ်သက်၍၊ မိတ်ဆွေပညာရေးဆိုင်ရာပုဂ္ဂိုလ်များထံ ရေးသားချက်များမှ ကောက်နှုတ် ဖေါ်ပြချက်များဖြစ်ပါသည်။

ဤအမျိုးသမီးကြီးမှာ ၁၉၅၅–ခု။ နှစ် ဆန်း စ က ကမ္ဘာအရပ်ရပ်သို့ လှည့်ပါတ်လျက် ကမ္ဘာ့မျက်မမြင် လောကသားတို့၏ ဘဝ မြှင့်တင်ရေးအတွက် ဆောင်ရွက်လျက်ရှိခဲ့ရာ ဗမာနိုင်ငံတော်သို့ ၁၉၅၅-ခု၊မေလ လည်လောက်တွင် ရောက်ရှိလာသည်။

မြန်မာ နိုင်ငံတော်၏ မျက်မမြင် လောက သားတို့ ဘဝအခြေအနေ တိုးတက်ရေး အ တွက် ဟော ပြော ကြိုးပမ်းဆောင်ရွက်ခြင်းများပြုလုပ်ခဲ့သည်။

# နိဒါန်း

ဟဲလင်ကယ်လာ၏ စာများမှာ အရေးကြီးပါသည်။ သူ့ ဘဝ၏နောက်ဆက်တွဲအဖြစ်အပျက်တရပ်သာလျှင်မက သူမ၏ရင့်သန်လာသော အတွေးအခေါ်နှင့် သိမြင်မှတ်သားချက်၏ ပြရုပ်တခုပါ ဖေါ်ပြထားခြင်း ဖြစ်ပါသည်။ သူမ၏ကြီးထွားလာသော အသက်အရွယ်အားဖြင့် သူမသည် ချင့်ချိန်နိုင်းဆ၍ ဖေါ်ပြနိုင်စွမ်း ဝေဖန်နိုင်စွမ်း ရှိခဲ့ပြီ ဖြစ်ပေသည်။

၎င်းစာများသည် နားပင်း၍ မျက်စိမမြင်သော မိန်းကလေးတယောက်၏ အပြုအမူ လုပ်ဆောင်ချက်များ အဖြစ် မှတ်သားဘွယ်ရာ သက်သက်မဟုတ်စေကာမူ၊ အံ့ဩ၍ ထူးဆန်းထွေလာ ဘတ်စရာကား ဖြစ်ပါပေသည်။ ထိုစာများမှာ သူမ၏ပဉ္စမပိုင်း ငယ်ရွယ်စဉ် ပညာ သင်လျက်ရှိသော အချိန်ကာလမှ ကောင်းနိုးရာရွေးချယ်ထားခြင်းဖြစ်သည်။ အကောင်းဆုံးသောစာများမှာ သူမကိုယ်တိုင် တွေ့ကြုံခံစားချက်များကို ပြောပြခြင်းနှင့် သူမ၏အတွေ့အကြုံအရ သူမက ကမ္ဘာကို အချက်အလက်မျိုးစုံ တင်ပြထားခြင်းလဲဖြစ်ပေသည်။ ကြိုဘင်မိုးရိခ်ဘွယ်ရာ ပုပင်သောကမှုများ၏ရှေ့ ပြေးတွေးထင်ချက်အမြင်များမှာအရေးမကြီးသော်လည်း သူမပြောပြချက်များတွင် ရုပ်သုများ၊ ခွေးများ၊ ကြက်ငှက် မွေးမြူရေး ဌာနမှ ကြက်ကလေးများ၊ စသည်တို့ကို စမ်းသပ်၍အာရုံခံစားခြင်း ' မိမ့်ဘတ်သိုလို

မြူးစ်’၏ ရွှေရေးဆောင်ထဲဝယ် ကိုယ်ခန္ဓာအစိတ်အပိုင်း
များ တုံတုံရီရီနှင့် အဘယ်ကဲ့သို့ ရပ်တည်ခဲ့ရ သည့်ကို
ပေါ်လွင်စေခြင်းစသည်များမှာ အရေးအကြီးဆုံးအချက်
အလက်များပင် ဖြစ်ပါပေသည်။ သူမ၏ စာပိုဒ်များထဲမှ
မှရှင်းလင်းသည့် များကို သူမ ရေးသားသော စာတပုဒ်
ထက်မကာ ပိုမို၍ မေးလာခြင်း နိုင်ပါသည်။ သူမဘဝ
သည် အခြားသောသူများကဲ့သို့ ဖြစ်စွမ်းသာအောင် ကြိုး
စားခဲ့ဘူးပါသည်ဟူသော အကြောင်းပြချက်ကို အနည်း
ငယ်မျှ နှိုင်းယှဉ်ကြည့်ရှု သင့်ပေသည်။ ထိုကြောင့်ပင်
သူမသည် မကြာခဏ သူမကိုယ်တိုင် သိရှိမှတ်သား ခဲ့ရ
ခြင်းများသာမက အခြားသူများ၏ နား-ချက်စိမှ အကြား
အမြင်တို့ကိုပါ အရာခပ်သိမ်း ဖော်ပြထားခြင်း ဖြစ်ပါ
ပေသည်။

သူမ၏စာများထဲမှ အကောင်းဆုံး အကြောင်းတခုမှာ
သူမှအား စာရေးရန် သင်ကြားသမှုပြုသော လေ့ကျင့်
ခန်းများ အရေးအခင်းတရပ်ဖြစ်ပေသည်။ သူမသည်
ကျေးလက်တောရွာအသီးသီး၊ တိုင်းပြည်မြို့ပြအရပ်ရပ်
၌၊ အမျိုးမျိုးနေထိုင်ခဲ့၍ သူမ၏ ဆွေမျိုးသားချင်းများ၊
မိတ်ဆွေသူငယ်ချင်းများနှင့်လည်း တကွဲတပြားစီနေထိုင်
ခဲ့ရဘူးသူဖြစ်ပေသည်။ သူမ၏ မိတ်ဆွေများမှာ လူအမျိုး
မျိုး သွင်ဟန်သကွဏာ အစားစား ရှိကြ၍ သူမအတွက်
မကြာခဏ မဟုတ်စေကာမူ၊ ချိန်ခါမပြတ် အခွင့်အရေး

သင့်တိုင်း အနှစ်နှာခံလိုက်လျောကြသည်ဟု ကျွန်ုပ်တွေး ထင်မိပေသည်။ သို့ကြောင့်ပင် သူမသည် စာကောင်းစွာ ရေးသားရန် လိုအပ်ချက်များကို သိမြင်မှတ်သား နိုင်မိခြင်း ဖြစ်ပေသည်။ သူမသည် မိမိ အတွေးအခေါ်များကို ပွင့်လင်းစွာပင် အချင်းနှီးဆုံးသော သူမ၏ မိတ်ဆွေများ ထံသို့ စာနှင့် ရေးသားသမျှ ပြုခဲ့ပေ သည်။ သူမ သည် ဒေါက်တာ 'ဟိုလ်မိစ်' နှင့် ဘုန်းတော်ကြီး 'ဘရုခ်စ်' တို့ကိုပြောပြသော 'ဂျိတ်ကီကလေး'ပုံဝတ္ထုကဲ့သို့ကလေး ငယ်တယောက်၏ ဒဏ္ဍာရီပုံဝတ္ထုကို သူမကြားဘူးခဲ့သလို ရိုးသားစွာ ပြန်လည် ပြောပြခြင်းမှာ နှစ်သက်ဖွယ်ရာသာ ဖြစ်လျက် သစ်ပင် ပန်းပင်များ သို့မဟုတ် ပထဝီပညာအရ စကားပြေရေးသားခြင်း ပြုအံ့သော သင်ခန်းစာ မှတ်တန်းတင်ခြင်းလည်း ဖြစ်ပေသည်၊ သူမ၏စကားလုံးသစ်များကို စီကုံးရေးသားခြင်း ကြားဘူးသော အခါရုံတွင် ထင်မှတ်သောစကားများကို ကျက်တူရွေးစကားသင်သကဲ့သို့ ထပ်တလဲလဲသုံးစွဲခြင်းမှာ ပျော်ရွှင်ဖွယ်ရာ ကောင်းသည်နှင့်အမျှ ညွှန်ကြားချက်များလည်း ပါဝင်ပေသည်။ သူမရေးသားသော စာများတွင် သူမ၏ သင်ကြားချက်များကို ပြန်လှန်ဖော်ပြခြင်း၊ သူမတွေ့ရှိရသည့် စကားလုံးသစ်များနှင့် ဗဟုသုတ အတွေ့အကြုံသစ်များကို သူမ၏ စာများထဲတွင် ထည့်သွင်း ရေးသားထားပေသည်။

ထို့ကြောင့် မစ္စကဲလာ၏ စာများထဲမှ ဤရွေးချယ်

ကောက်နှုတ်ချက် များမှာ ကြဲရွယ်ချက် နှစ်ချက်ရှိပေသည်။ ထိုကြံရွယ်ချက် နှစ်ချက်တွင် သူမ၏ဘဝ ရိုပြေ သာယာရေးအတွက် အားကြိုးမာန်တက် ဆောင်ရွက်ထူထောင်ခြင်းနှင့် ရာပေါင်းများစွာသော စာများထဲမှ အရေးပါ အရာရောက်သည့် သူမှဘဝကို မပျက်စီး မပြိုလဲ့အောင် အစွမ်းကုန် ထိန်းသိမ်း လာခဲ့ခြင်းတို့ပင် ဖြစ်ပေသည်။ များစွာသော ထိုစာများမှာ ခရစ်သက္ကရာဇ် ၁၀၉၂-ခုနှစ် မတိုင်မီက မျက်မမြင်များအတွက် ပါကင်စ် စာသင်ကျောင်းမှထုတ်ဝေသော စာများကို ဖော်ပြထားခြင်း ဖြစ်ပါပေသည်။ ယိုနှစ်အထိ စာများအား လုံးကားရေးထုံးရေးနည်း၌ ကလေးများအားစိတ်ဝင်စားစွာ ငွန့်ငွန့်စားစားဒိဂရီရအောင်သင်ကြားနိုင်ချန်ပုန်ဖြတ်ပုန်သွင်းစသည်များကို အသေးစိပ်မကျန် စံနစ်တကျ ပုံနှိပ်ထားခြင်းကိုပြထားပေသည်။ထိုကြောင့် ဤအခါများသည် မစ္စကဲလာ၏ စာပေ အစစ်အမှန်များကို မပျက် မယွင်းအောင် ထိန်းသိမ်း စောင့်ရှောက်ခြင်းဖြင့် ပြန်လည်ထုတ်ဖော် သမှု ပြုခြင်း ဖြစ်ပေသည်။ ၁၀၉၂ ခုနှစ် နောက်ပိုင်းမှစာများမှာ ကိုယ်ရေး ရာဇဝင်၏ အရေးပါ အရာရောက်သော အရေးအကြီးဆုံး အကောင်းဆုံးစာ အရေးအသားဟန်များကို ရွေးချယ်ကာ ဖော်ပြထားခြင်း ဖြစ်သည်။ ပုဒ်ဖြတ်၊ ပုဒ်သွင်း စာလုံးပေါင်းများမှာ ဤအရာခပ်သိမ်း မစ္စကဲလာရေးသားထားသည့်အတိုင်း အစစ အရာရာ ကျွန်ုပ်စောင့်ရှောက် သိမ်းဆည်းထားသည်ဖြစ်

ရာ ယခုဖော်ပြသည့်တို့ကား မူရင်းစာများနှင့် တိုက်ဆိုင်ခြင်းရှိသည်ကို ဝန်ခံပါသည်။ သူမ၏စာများကို ရွေးချယ်ခြင်းမှတပါး ကျွန်ုပ်သည်။ တခြားဖြတ်တောက် ပြင်ဆင်ခြင်း မပြုလုပ်ပါ။

စာများကို သက္ကရာဇ်၏ ခုနှစ် လခက် အစဉ်အတိုင်း ဖော်ပြထားပါသည်။ ဘုန်းတော်ကြီး ဘရှ ခ် စ် ဒေါက်တာဟိုလ် မီး စ် နှင့် ဗွစ်တီးယားတို့ထံမှ စာ တ စောင်နှစ်စောင်သာလျှင် သူတို့ ပြန်စာ ရေးသားပြီး ကြသည့်နောက် လျှင်မြန်စွာ ထည့်သွင်းခြင်း ပြုပါသည်။ ခရာဇ်သက္ကရာဇ် ၁၈၀၁ ခုနှစ်၏ အရေးကြီးသောစာ ၂ စောင် ၃ စောင်မှတပါး ဤရွေးချယ် ထည့်သွင်းသည့် စာများမှာ ၁၈၀၀ ပြည့်နှစ်အထိဘဲ ဖြစ်ပါသည်။ ထိုနှစ်တွင် မျက်စေ့မမြင်နားမကြားရှာသော မစ္စကယ်လာမှာ ကောလိပ်ကျောင်းသို့ ဝင်ရောက်သင်ကြားလေသည်။ ယခုအချိန်၌ သူမသည် အမျိုးသမီးကြီးတဦး ဖြစ်လာ၍ သူမ၏ ပြည့်စုံသောစာများသည်။ မည်သူမဆိုလေ့လာဆုံးဖြတ်သင့်ပေသည်။ သူမရေးသားခဲ့သော စာများအနက် ဤစာများလောက် တခြားကောင်းမွန်သော စာများမရှိဟု ထင်ပါသည်။ အကောင်းဆုံး စာများကို ရွေးချယ် ထည့်ခြင်းဖြင့် ကမ္ဘာပေါ်တွင် မျက်မမြင်နားပင်းနေပါလျက် ကမ္ဘာကျော်ပညာတတ်ပုဂ္ဂိုလ်တဦးဖြစ်လာခြင်းမှာ သူမ တယောက်သာလျှင် ရှိသေးကြောင်း သိသာ ထင်ရှား

စေသည်သာ မက သူမ၏ တိုးတက် ကြီးပမ်း ချက်ဖြင့် အောင်မြင်လာခဲ့ကြောင်းကိုပါ လေ့လာနိုင်မည်ဖြစ်ပါ သတည်း။

ဖိလစ်(ပ်)စ် ဘရုခ်စ်ထံသို့ ပေးစာအချို့မှ ပုံတူကူး ယူထားသော စာမူချင်းဖြစ်သည်။

ဘော့စ်တွန်မြို့
မေ ၁–ရက် ၁၈၉၁–ခုနှစ်

ကျမ၏ချစ်စွာသော မစ္စတာ ဘရုခ်စ်ရှင့်,

ထွန်းလင်းတောက်ပသော၍မေ့ဒေးတွင်ပဲလင်သည် ရှင့်ထံသို့ ချစ်မြတ်နိုးစွာ ဆုတောင်းပတ္တနာ သဝဏ်လွှာ တစောင် ရေးသားပေးပို့ လိုက်ပါသည်။ ရဟန်းဘောင်သို့ ရှင်ကူးပြောင်းသွားခြင်းကို ယခုပင် ကျမ၏ဆရာမက ပြောပြပါသည်။ အရပ်ရပ်တွင် ရှိသော ရှင့်မိတ်ဆွေများမှာ သူတို့၏ လွန်စွာချစ်မြတ်နိုးသူဘယောက် သာသနာ့ ဘောင်သို့ ကူးပြောင်းသွားသည်ကို များစွာဂုဏ်ယူခြင်းဖြင့် ပျော်ရွှင်နေကြပါသည်။ ရဟန်းတော်တပါး၏ ပြုကျင့်ရမည့်လမ်းစဉ်မှာမည်သို့ဖြစ်ကြောင်းကျမလုံးဝနားမလည်ပါ၊ သို့ရာတွင် ထိုလုပ်ငန်းမှာ ကောင်းမွန်၍ ကူညီမှု ပြုအပ်သော အလုပ်ဝတ္တရား ဖြစ်ရမည်ဟု ကျမယုံကြည် မိပါသည်။ ကျမ၏ ချစ်မြတ်နိုးသော မိတ်ဆွေမှာ ရဲရဲရင့်ရင့် ပညာရှင်ဖြစ်၍ ထိုအလုပ်ကို ပြည့်ပြည့်ဝဝ လိုလား နှစ်သက်ခြင်း အတွက် ဝမ်းမြောက် မိပါသည်။ ထိုအကြောင်းကို ရှင်ပြောပြနိုင်လိမ့်မည်ဟုလည်း အလွန်

တရာ လှပစွာပင် ကျမ တွေးတော စဉ်းစား နေမိ ပါ သည့်ရှင့်။

× × × × ×

ခရစ်သက္ကရာဇ် ၁၈၈၇-ခုနှစ်မှ၊ ၁၉၀၁ ခုနှစ်ထိစာများ။

မစ္စဆူလီဗင်သည် ခရစ်၏သက္ကရာဇ် ၁၈၈၇-ခုနှစ် မတ်လ (၃)ရက်နေ့တွင် ဟဲလင်လယ်လာအား စတင်၍ သင်ကြားပါသည်။ သုံးလခွဲ သင်ကြားပြီးနောက် ပဌမ စာလုံးကို သူမ၏လက်ထဲသို့ စာလုံးပေါင်း ထည့်ပေးပြီး သူမသည် ဤစာကို ခဲတန်ဖြင့် ရေးသားခဲ့ပေသည်။

သူမ၏ ဝမ်းကွဲညီအမ အင်နာမစ္စက် ဂျော့ တီ တာနာ ထံသို့ ၇-နှစ်သမီးအရွယ် စာသင်စအချိန် ရေးသားသော စာ။

တာစ်ကမ်ဘီယာနယ် အလာဘာမာမြို့
ဇွန်လ ၇-ရက်နေ့ ၁၈၈၇-ခုနှစ်။

အင်နာထံသို့ ဟဲလင် စာရေးလိုက်ပါသည်၊ ဂျော့ကို ကြက်သွေးရောင် သစ်တော်သီး ပေးလိမ့်မည်၊ ဗှက်ကို ပစ်လိမ့်မည်၊ ဂျက်ကဟဲ လင်အား သကြားလုံးပေးလိမ့် မည်၊ ဆရာဝန်သည် မင်လ်ဒရက်ကို ဆေးပေးလိမ့်မည်၊ မေမေက မင်းလ်ဒရက်အား အဝတ်သစ်ဆင်လိမ့်မည်။

(လက်မှတ်မပါ)

သူမသည် ထိုနှစ်မှာပင် အိမ်မှထွက်၍ ခရီးတိုအလည် အပေါ်တ်သွားစဉ်၊ ၂၅-ရက် ကြာပြီးနောက် သူမ၏မိခင်

ထံသို့ စာရေးလိုက်ပါသည်၊ စာလုံး နှစ်လုံးမှာ လုံးဝ အဓိပ္ပါယ် မရှိသလောက် နီးနီးဖြစ်၍ စာကြောင်း အသီးသီးမှာမျက်စေ့မမြင်ဘဲ ရေးသည့်အလျောက်ဒေါင့်တန်း စောင်းလျက်ရှိပေသည်။

မစ္စက်ကိတ်အက်ဒမ်စ်ကဲလာထံသို့–

မောင့်တ်စ်ပွစ်လီး၊ အလာဘာမာ၊

ဇူလိုင်လ ၁၂–ရက် ၁၈၈၇–ခုနှစ်၊

ဟဲလင် မေမေထံသို့စာရေးလိုက်ပါသည်၊ ဖေဖေက– ဟဲလင်အား ဆေးပေးခဲ့သည်၊ မင်းလ်ဒရက်သည်၊ ခြေတွဲလောင်းချ၍ ထိုင်လိမ့်မည်၊ မင်းလ်ဒရက်က ဟဲလင်ကို နမ်းသည်၊ဆရာမကဟဲလင်ကို သစ်တော်သီးပေးခဲ့သည်၊ ကျွဲမှာ အိပ်ရာထဲတွင် ဖျားနေသည်၊ ကျွဲလက်ခေါင်း နာကျင် နေသည်၊ အင်နာကလဲ ဟဲလင်ကို လိမ္မော်သီး ပေးခဲ့သည်၊ခွေးကြီးမတ်တတ်ရပ်ခဲ့သည်။

လက်မှတ်စစ်က လက်မှတ်ကိုဖေါက်ညှပ်ခဲ့သည်။ ဖေဖေ က ကားထဲတွင် ဟဲလင်အား သောက်ရေပေးခဲ့သည်။

ကာလိုတာသည် ဟဲလင်အား ပန်း များ ပေး လိုက် သည်။ အင်နာသည်ဟဲလင်သို့ လှပသောဦးထုပ်သစ်ဝယ် လိမ့်မည်။ ဟဲလင်က ဖေဖေအား ပွေ့ဖိုက်၍ နမ်းလိမ့်မည်။ ဟဲလင် အိမ်သို့ လာလိမ့်မည်၊ ဘွားဘွားသည် ဟဲလင်ကိုချစ်ပါသည်။

ဝှတ်ဘှိုင်
(လက်မှတ်မပါ)

ထို့နှစ်စက်တဘ်ာလသို့ ရောက်လာသောအခါဟဲတင် ၏အရေးအသားများမှာ တိုတက်လာ၍ အတွေးအခေါ် တို့လည်း ပိုမိုတိုးချဲ့လာပေသည်။

ဘော့စ်တွန်တောင်ပိုင်း၌ ပါကင်စ် စာသင်ကျောင်း မှ မျက်မမြင် မိန်းကလေးများသို့

တာစ်ကမ်ဘီယာ၊ စက်တဘ်ာလ ၁၈၈၇-ခုနှစ်

ဟဲလင်သည် မျက်မမြင် မိန်းကလေးများအတွက် စာ တစောင် ရေးသားလိမ့်မည်။ ဟဲလင်နှင့်ဆရာမတို့သည် မျက်မမြင်မိန်းကလေးများကို ကြည့်ရှုတွေ့ဆုံရန် လာကြ လိမ့်မည်။ ဟဲလင်နှင့်ဆရာမတို့သည် ဘော့စ်တွန်သို့ ရေ နွေးငွေ့ကားထဲ၌ သွားကြလိမ့်မည်။ ဟဲလင်နှင့်မျက်မ မြင် မိန်းကလေးများသည် ရယ်စရာမောစရာ ရရှိကြလိမ့် မည်။ မျက်မမြင် မိန်းခလေးများသည် လက်ချောင်းများ ဖြင့် စကားပြောနိုင်ကြသည်။ ဟဲ လင် သည် မ ၈ တာ အနက်စ်နေ့ဗ် ကိုတွေ့လိမ့်မည်။ မစ္စတာ အနက်စ်နေ့ဗ် သည် ချစ်ခြတ်နိုး၍ ဟဲလင်ကိုနမ်းလိမ့်မည်။ ဟဲလင်သည် မျက်မမြင် မိန်းကလေးများနှင့် အတူ ကျောင်းသွားလိမ့် မည်၊ ဟဲလင်သည်မျက်မမြင်မိန်းကလေးများကဲ့သို့စာရေး နိုင်၊ စာလုံးပေါင်းနိုင်၊ ရေတွက်နိုင်၊ စာဘတ်နိုင်သည်။ မင်လိဒချက်က ငိုယိုသည်။ ပချင့်စ်နှင့် ဂျမ်ဘို (ခွေးများ) ဘော့စ်တွန်မြို့သို့ သွားကြလိမ့်မည်။ ဖေဖေသည်ဝမ်းဘဲ များကိုသေနတ်နှင့်ပစ်၍ ဝမ်းဘဲများမှာ ရေထဲသို့လိမ့်ကျ ၍၊ ဂျမ်ဘိုနှင့် မာမီဘို့က ရေထဲ၌ ရေကူး၍ ဝမ်းဘဲများ

ကိုယူခဲ့ကာ ဖေဖေထက်ထဲသို့ ထည့်သည်။ ဟဲလင်ခွေး များနှင့်ကစားသည်။ ဟယ်လင်သည်ဆရာမနှင့်အတူ မြင်း ကျောပေါ်သို့တက်၍စီးသည်။ ဟယ်လင်သည်လက်ထဲရှိ မြက်ကို ပုင်နီသို့ပေးသည်။ ဆရာမသည် မြန်မြန်သွား ရန် ပုင်နီကို ကြာပွတ်နှင့် ရိုက်သည်။ ဟယ်လင်သည် မျက်စိမမြင်ပါ။ ဟယ်လင်သည် မျက်မမြင် မိန်းကလေး များအတွက် စာအိပ်ထဲ၌ စာထည့်လိမ့်မည်။

ဥဘ်ဘိုင်
ဟဲလင်ကယ်လာ

ရက်သတ္တပါတ်အနည်းငယ် ကြာခဲ့သည့် နောက်ပိုင်း တွင် သူမ၏စာရေးသားပုံဟန်မှာ ချောချောမောမောနှင့် မှန်ကန် လာသလောက် ဖြစ်လာ ပါသည်။ စာရေးသား ခြင်းတွင် လွတ်လွတ် လပ်လပ် ရေးတတ်သူ တဦးကဲ့သို့ စိတ်ကူးမှု ပြေပြစ် လာပါသည်။ သူမသည် အကြောင်း အရာများကို ချန်လှပ်၍ ဝါကျရိုး အတိတ်ကာလ ရေး သားမှုအတွက်(ခဲ့သည်)ကိုသုံးစွဲသော်လည်း၊ ဝေါဟာရ စကား အသုံးအနှုံးတွင်မှု တိုးတက်လာခဲ့ပေသည်။ ဤ စာမှာကလေးသူငယ်များ လောက အတွင်း၌ အများသုံး ဝေါဟာရ စာတစောင် ဖြစ်ပါသည်။

ပါကင်စ် စာသင်းကျောင်းမှမျက်မမြင်မိန်းကလေးများသို့

တဆ့ စ် ကမ်ဘီယာ အောက်တိုဘာလ ၂၄ ရက်၊

၁၈၈၇ ခုနှစ်။

ချစ်ဖွယ်ကောင်းသော မျက်မမြင်မိန်းကလေးများ။

ရှင်တို့ထံ ကျမ စာတစောင် ရေးလိုက်ပါမည် လှပသော ခုံစေ့င်းကလေးအတွက် ရှင်တို့အား ကျမ ကျေးဇူးတင်ပါသည်။ ထိုခုံစေ့င်းပေါ်တွင် မင်ဖစ်၌ မေမေ့ ထံသို့ အကျိုးအကြောင်းကို ကျမ စာရေးသားလိုက်ပါ သည်၊ မေမေနှင့် မင်ဒရက်တို့ ဗုဒ္ဓဟူးနေ့က အိမ်မှလာခဲ့ ကြသည်။ မေမေသည် ကျမအတွက် လှပသော အဝတ် တထည် သစ်နှင့် ဦးထုပ်သစ် တလုံး ယူလာခဲ့ပါသည်။ ဖေဖေမှာ ဟောင့်စ်ဗွင်းလ် သို့ သွားပါသည်။ သူသည် ကျမထံသို့ သစ်တော်သီးများနှင့် သကြားလုံးများ ယူခဲ့ ပါသည်။ ကျမနှင့် ဆရာမ တို့သည် ရှင်တို့နှင့် တွေ့ရန် ဘော့စ်တွန်မြို့သို့ လာကြပါမည် နင်စီမှာကျမ၏ယမင်း ရုပ်ဖြစ်ပါသည်။ သူမကငိုတတ်သည်။ ကျမသည် နင်စီ အိပ်ပျော်သွားရန် လှုပ်ရှားပေးနေရသည်၊ မင်လ်ဒရက် များနေသည်။ သူမကျန်းမာလာရန်အတွက် ဆရာဝန်က ဆေးပေးပါလိမ့်မည်။ ကျမနှင့်ဆရာမတို့သည် တနင်္ဂနွေ နေ့ကဘုရားရှိခိုးကျောင်းသို့သွားခဲ့ကြသည်။မစ္စတာလိန်း ကစာအုပ်ကိုဖတ်၍ရှင်းလင်းပြောဟောသည်။အမျိုးသမီး ကြီးကသံစုံတူရိယာကို တီးသည်။ ကျမသည် လူကြီးအ တွက်တောင်းထဲတွင်ငွေစထည့်ပေးခဲ့သည်။ကျမ၏ဆံပင် ကိုလှပစွာ ဆရာမကခွေလိပ်ပေးသဖြင့်၊ ကျမသည် သပ် ယပ် တင့်တယ်သောမိန်းကလေး ဖြစ်လာလိမ့်မည်။ ကျမ သည် ငယ်ရွယ်သူမိန်းကလေးများအားပွေ့ဖိက်၍နမ်းရှု

လိမ့်မည်။ မစ္စတာ အနက်စ်နေဘ္ဝစ်မှာ ကျမကို တွေ့ရန် ရောက်လာပါလိမ့်မည်။

ဝွတ်–ဘိုင်။

ဟဲလင်ကယ်လာ

ပါကင် စာသင်ကျောင်း၏ဒါရိုက်တာလူကြီးမင်း

မစ္စတာ မစ်ခ်ချီဗင်လ်အနက်စ်နေဘ္ဝစ် ထံသို့–

တဘ္ဝစ်ကမ်ဘီယာ,နိုဝင်ဘာလ ၁၈၈၇ ခုနှစ်။

ချစ်လှစွာသော မစ္စတာ အနက်စ်နေဘ္ဝစ်ထံသို့ ကျမ စာတစောင်ရေးသားပါလိမ့်မည် ကျမနှင့်ဆရာမတို့တွင် အရုပ်ကားများ ရှိကြပါသည်၊ ဆရာမက အရုပ်ကားကို လူကြီးမင်းထံသို့ ပို့လိုက် ပါလိမ့်မည်။ ဓါတ်ပုံရိုက်သူ သည် အရုပ်ကားများကို ပြုလုပ်ပါသည်။လက်သမားက အိမ်သစ်များကိုဆောက်လုပ် ပါသည်။ ဥယျာဉ်မှူးသည် မြေကြီးပေါ်တွင် ပေါက်ပြားနှင့်တူးဆွ၍ ဟင်းသီးဟင်း ရွက်များကို စိုက်ပျိုးကြပါသည်။ ကျမ၏ယမင်းရုပ်နင်စီ မှာ အိပ်ပျော်နေပါသည်။ သူမ ဖျားနေ ပါသည်။ မင်လ် ဒရက်မှာ ကျန်းမာလာပါသည်။ဦးလေးဖရင့်စ်မှာ ဒရယ် ပစ်ထွက်သွားပါပြီ။ သူအိမ်ပြန်လာသောအခါ ကျမတို့ သည် နံနက်စာအတွက် ဒရယ်သား ရရှိလာကြ ပေလိမ့် မည်။ ကျမသည် ဘီးတပ်ထားသော လှည်းပေါ်သို့ ဒီး၍ ဆရာမက တွန်းပေးခဲ့ ပါသည်၊ စင်ဆန်က ကျမအား

ပြောင်းဖူးပေါက်ပေါက်ပွင့်နှင့် သစ်ကြားသီးများပေးခဲ့ပါသည်။ ညီအစ်မဝခ်ိဳးကွဲ ရိုစာမှာ သူမမေမေနှင့် တွေ့ရန် ထွက်သွားပါပြီ။ လူများသည် တနင်္ဂနွေ နေ့တွင် ဘုရားရှိခိုး ကျောင်းသို့ သွားကြ ပါသည်။ ကျွမ်းသည် သေတ္တာနှင့်မြေခွေးအကြောင်းကို ကျမ၏စာအုပ်၌ဘတ်ခဲ့ပါသည်။ မြေခွေးသည် သေတ္တာထဲ၌ ထိုင်နိုင် ပါသည်။ ကျမ၏ စာအုပ် ထဲတွင် ကျမ စာဘတ်ခြင်းကို နှစ်သက်ပါသည်။ လူကြီးမင်း ကျမကို ချစ်မြတ်နိုးပါ၊ ကျမလည်း လူကြီးမင်းကို ချစ်ခင်လေးစားပါသည်။

ဝွတ်ဘိုင်
ဟဲလင်ကယ်လာ

ဒေါက်တာ အလက်ဇန္ဒာ ဂရာမ်ဟာမ်ဘဲလ် ထံသို့

တဥ့်စ်ကမ်ဘီယာ, နိုဝင်ဘာလ ၁၈၈၇-ခုနှစ်

ချစ်စွာသော မစ္စတာဘဲလ်

ကျမသည်ပျော်ရွှင်စွာဖြင့် ရှင့်ထံသို့ စာတစောင်ရေးလိုက်ပါသည်၊ ဖေဖေက ရှင့်ထံသို့ အရုပ်ကား ပို့လိုက်ပါလိမ့်မည်။ ဖေဖေ၊ ဒေါ်ဒေါ်နှင့် ကျမတို့သည်ရှင်နှင့်တွေ့ရန် ဝါရှင်တန်သို့ လာခဲ့ကြပါသည်။ ရှင့်လက်ပတ်နာရီကို ကျမကစားခဲ့သည်။ ကျမ ရှင့်ကို ခင်မင်ပါသည်။ ဝါရှင်တန်၌ ကျမ ဆရာဝန်ကို တွေ့ခဲ့ရပါသည်။ သူက ကျမ မျက်လုံးများကို စိုက်၍ ကြည့်ရှုခဲ့ပါသည်။ ကျမ စာအုပ်ထဲ၌ ပုံဝတ္ထုများကို ဘတ်နိုင်ပါသည်။ ကျမသည် နားကြားမျက်မြင် မိန်းကလေးကဲ့သို့ ရေတွက်နိုင်၊စာလုံး

ပေါင်းနိုင်၊ စာရေးသားနိုင်ပါသည်။ ကျမ ညီမကလေးမှာ လမ်းလျှောက်နိုင်၊ ပြေးလွှားနိုင်ပါသည်။ ကျမတို့ ချမ်းဘိုနှင့် ရယ်မောကြပါသည်။ ပရင့်စ် မှာ ကောင်းသောခွေးမဟုတ်ပါ။ ငှက်များကိုရအောင် သူမဘမ်းနိုင်ပါ။ ချစ်ဖို့သည် ခိုကလေးများကို ကိုက်သတ်ခဲ့ပါသည်။ ကျမ ဘမ်းနည်းမိသည်။ ရက်ဒ်မှာ အမှားအယွင်းကို မသိပါ။ ဇွန်လထဲတွင် ဆရာမ၊ မေမေနှင့် ကျမတို့ ဘော့စ်တွန်သို့ သွားကြပါလိမ့်မည်။ မျက်မမြင် မိန်းကလေးများကို ကျမကြည့်ရှုပါမည်။ နင်စီလဲ ကျမနှင့်အတူ သွားလိမ့်မည်။ သူမသည် ကောင်းသော ယမင်းရုပ်တရုပ်ဖြစ်ပါသည်။ ဖေဖေက ကျမအတွက် လှပသော လက်ပတ်နာရီအသစ်ဝယ်ပေးလိမ့်မည်။ ညီမဝမ်းကွဲတော် အင်နာက ကျမအား းလှပသော ယမင်းရုပ်တရုပ် ပေးလိုက်ပါသည်။ ထိုအရုပ်၏အမည်မှာ အဲလီ ဖြစ်ပါသည်ရှင့်

ငွတ်ဘိုင်
ဟဲလင်ကယ်လာ

နောက်တနှစ်၏အစဦးကာလ၌ ၈ နှစ်သမီးအရွယ်တွင် သူမ၏ဝေါဟာရစကား အရေးအသားများမှာ လေးနက်မှန်ကန်လာပါသည်။ ရောင်စုံ ရောသွက်နေသော ဝိသေသနများထဲတွင် နာမဝိသေသနများ ပိုမိုပေါ်လွင်လာပါသည်။ ဝါကျအစီအစဉ် လှပချောမွေ့မှု ဗဟုသုတ သူမတွင် မချိရှိ နိုင်သော်လည်း ကျွန်ုပ်တို့၏ အဘိဓါန်ထဲမှ

ထက်မြက်ရှုး၍သော စကားလုံးမှန်များကို ထုတ်ဖော်မှတ်သား နိုင်သည့်သာမက အကြောင်းရင်း အဓိပ္ပါယ်ပေါ်လွင်အောင် ကျွန်ုပ်တို့ သုံးစွဲကြသကဲ့သို့ သူမ သည့်လဲ စကားလုံးများကိုကြွယ်ဝစွာ သုံးစွဲနိုင်လာပါသည်။ ဤစာမှာ ပါကင်စ် မျက်မမြင် ကျောင်းရှိ ကျောင်းသူမ ထံ ယောက်ထံသို့ ရေးသားလိုက်ခြင်း ဖြစ်ပါသည်။

မစ္စစာရာတွမ်ခ်လင်စန် ထံသို့

တာစ် ကမ်ဘီယာ၊အလာ

ဇန္နဝါရီလ ၂–ရက်နေ့၊ ၁၈၈၈ ခုနှစ်။

ချစ်စွာသော စာရာရေ....

ဤနေ့နံနက် ၅င်ထံသို့ စာရေးလိုက်ရသဖြင့် ကျမဝမ်းသာမိပါသည်။မကြာမီကျမထံသို့မစ္စတာအနက် စ် လာရောက် တွေ့ဆုံမည်ကိုလည်း မျှော်လင့်နေပါသည်။ ဇွန်လထဲတွင် ကျမဘော့စ်တွန်မြို့သို့သွားပါဦးမည်။ ဘော့စ်တွန်မြို့မှ ဖေဖေ အတွက် ကော်လာ ကောင်းများ စင် မ် စန်အတွက် လည်စီးများကို ကျမ ဝယ်ယူပါမည်။ မစ္စ ဘက်တီနှင့် သူမ ကျောင်းနေဘက်များကို ကျမတွေ့ခဲ့ရပါသည်။ သူတို့သည် လှပသော နှစ်သစ်ကူး သစ်ပင်တပင် ပြုလုပ်၍ ၎င်းသစ်ပင်ပေါ်တွင် ကလေးငယ်များအတွက် လှပသောလက်ဆောင်များ ထားကြပါသည်။ ကျမတွင် ခွက်ကြီးတလုံး ၄က်ကလေးနှင့် သကြားလုံးများရှိပါသည်။ နှစ်သစ်ကူးအတွက် ကျမတွင် ချစ်စရာ ပစ္စည်းများ အများအပြားရှိပါသည်။ ဒေါ်ဒေါ်က ကျမ

အားဖြင့် နင်စီအတွက် အထည် အဝတ် များနှင့် အထည် သေတ္တာတခုပေးပါသည်။ ကျမသည် မေမေနှင့် ဆရာမ တို့ကို ခေါ်၍ ပါတီသို့ သွားခဲ့ပါသည်။ ကျမတို့သည် ကကြိုးစကားကြီးနှင့် သစ်ကြားသီး များ သကြားလုံး များ ကိတ်မုန့်များ လိမ္မော်သီး များကို စားကြပါသည်။ ကျမသည် ယောကျ်ားကလေးများ မိန်းကလေးများနှင့် ပေါ်ရယ်မောမောပျော်ရွှင်ခဲ့ပါသည်။ မစ္စတ် ဟော့ပ်ကင်စ်က ကျမထံချစ်စရာကောင်း သော လက်စွပ် တစ်ကွင်း ပို့လိုက် ပါသည်။ ကျမသည် သူမနှင့်တကွ မျက်မမြင်မိန်းကလေးများကို ချစ်ခင် လေးစားပါသည်။

ယောကျ်ားကြီးများနှင့် လူကလေးများတို့သည်။ စက်ရုံများထဲ၌ ကော်ဇောများ ယက်လုပ်ကြပါသည်။ သိုးမွေးကို သိုးများမှ ရပါသည်။ ယောကျ်ားကြီးများသည် ကပ်ကျေးကြီးများဖြင့် သိုးကောင်မှ သိုးမွှေးများကိုဖြတ်ညှပ်ယူ၍ စက်ရုံသို့ပို့ကြပါသည်။ ယောကျ်ားကြီး များနှင့် မိန်းမကြီးများတို့သည် စက်ရုံထဲတွင် သိုးမွှေးများကို အထည်အလိပ်ပြုလုပ်ကြပါသည်။

ဝါခွမ်းများမှာ ယာကွင်းများထဲ၌ အကြီး အကျယ် ပေါက်ရောက်ကြပါသည်။ ယောကျ်ားကြီးများ၊ လူကလေးများ၊မိန်းကလေးများနှင့် မိန်းမကြီး များမှာ၊ ဝါကို ဝါပင်မှ ကောက်ယူကြပါသည်။ကျမတို့သည် ဝါခွမ်းမှ ချည်ထည်များ၊အပ်ချည်များကိုပြုလုပ်ကြရသည်။ဝါပင်သည် လှပသော အဖြူနှင့် အနီရောင်ပန်းများ ပွင့်ကြပါ

သည်။ ဆရာမသည် သူမ အဝတ်အထည်ကို ဆုတ်ပစ်ခဲ့သည်။ မင်လ်ဒရက်က ငိုယိုပါသည်။ကျမသည် နင်စိကို ထိမ်းရဦးမည်။ မေမေသည် ကျမအားဘော့စ်တွန်မြို့သို့ သွားရန် ချစ်စရာကောင်းသော အဝတ်အထည်နှင့် ရင်သွမ်းထည့် အသစ်များကို ဝယ်ပေးပါလိမ့်မည်။ ဖေဖေနှင့် ဒေါ်ဒေါ်အတူ ကျမသည် နေ့ခ်စ်ဗင်လီသို့ထွက်ခဲ့ပါသည်။ ဘက်စီမှာ ချိန့်၍ ငယ် ရွယ် ပါ သေး သည်။ မစ္စက်သွန်ခ်ဆင်၏ ကြက်ကလေးများက 'လီယာလား' ၏ ကြက်ကလေးများကို သေအောင်ခွပ်ကြသည်။ အိဘ္ဂါမှာ ကျမ အိပ် ယာ ထဲ တွင် အိပ် ပါ သည်။ ကျမ သည် ကောင်းသော မိန်းကလေး များကို ချစ်ခင် နှစ်သက်ပါသည်။

ခွတ်ဘိုင်။
ဟဲလင်ကယ်လာ။

နောက်စာနှစ်စောင်မှာ၊ တင်နက်စီနယ်မင်ဖစ်စ်မြို့သို့ သူမ၏ ဆွေမျိုးများထံဖနွဝါရီလထဲ၌ အလည် သွား ၍ က ရေးသား ပေါ်ပြချက်များ ဖြစ်ပါသည်၊ သူမအား ဝါဂွမ်းလဲလှယ်ရေးဌာနသို့ ခေါ်သွားပါသည်။သူမသည် ကျောက်သင်ပုန်းကြီးများနှင့်မြေပုံများကို စမ်းသပ်တွေ့ရှိရသောအခါ၊ 'လူကြီးများကျောင်းသွားကြသလား 'ဟု သူမက မေးမြန်းလိုက်ပါသည်။ သူမသည် ကျောက်သင်ပုန်းကြီးပေါ်တွင် လက်ရှိလူကြီးလူကောင်းများ၏ အမည်

အားလုံးကို ရေးသားခဲ့ပါသည်။ မင်ဖစ်–မြို့၌၊ သူမ ရှိနေ စဉ် သူမသည် မစ်စီစီပီမြစ်တွင်းသွား မီးသင်္ဘောကြီးတစင်းပေါ်သို့ တက်ရောက်ခဲ့ပါသည်။

မဂ္ဂတာ မစ်စ်ချီရယ်လ် အနက်စ်နေ့စ် ထံသို့
တဲ့စ်ကမ်ဘီယာ၊ အလာ၊
ဖေဖော်ဝါရီလ ၂၄–ရက် ၁၈၈၈–ခုနှစ်
ကျွမ်း၏ချစ်စွာသော မဂ္ဂတာအနက်စ်နေ့စ်

မျက်မမြင် ကျောက်သင်ပုန်းထဲ၌၊ ရှင့်အတွက် စာတစောင်ကို ရေးသားရသဖြင့် ကျွမ်းဝမ်းမြောက်ဝမ်းသာဖြစ်မိပါသည်။ ဤနေ့ နံနက်တွင် လူစီယင်သွန်ပ်ဆန့် ထံမှ စိုင်အိုလက် ပန်းများတစီး၊ နန္ဒင်းစိမ်းပင်များ၊ စပလင်ပင်များကို ကျွမ်းထံသို့ပို့ လိုက်သည်၊ တနင်္ဂနွေနေ့က အဒဲလင်းမော့စ်သည် ကျွမ်းထံသို့ချစ်စရာကောင်းသောယ်မင်းရုပ်တရုပ်ကို ယူခဲ့ပါသည်။ ထိုအရုပ်မှာ နယူးရောက်မြို့မှ ယူခဲ့ခြင်းဖြစ်ပါသည်၊ သူမ၏နာမည်ကို အဒဲလင်း ကယ်လားဟု အမည်ပေးထားပါသည်၊ သူမသည်သူမ၏မျက်လုံးများကိုပိတ်နိုင်၍၊ သူမ၏လက်မောင်းများကို ကွေးနိုင်၍၊ အောက်သို့ထိုင်နိုင်၍၊ တည့်တည့်မတ်မတ် ရပ်နိုင်ပါသည်၊ သူမကိုလှပသော အနီရောင်အဝတ်အထည် တရုံဆင်ထားပါသည်။ သူမသည် နင်စီ၏ညီမဖြစ်၍ ကျွမ်း–မှာ သူတို့မိခင်ဖြစ်ပါသည်။ အလီမှာ သူတို့၏ညီအမဝမ်းကွဲဖြစ်ပါသည်။ နင်စီမှာ ဆိုးသောကလေးတယောက်ဖြစ်၍

မင်ဖစ်သို့ ကျွဲသွားနေစဉ်အခါ သူမသည် ကျယ်လောင်စွာ ငိုကြွေးသမှုပြုပါသည်။ ကျွမ သူ့ကို တုတ်တချောင်းနှင့်ရိုက်ပါသည်။

မင်လ်ဒရက်သည် စားကြွင်းစားကျန်များကိုကြက်ကလေးချားသို့ ကျွေးမွေးပါသည်။ ကျွမသည် ညီခငယ်ကလေးနှင့်ကစားချန် လိုလားပါသည်။

ဆရာမနှင့် ကျွမတို့သည် ဒေါ်ဒေါ် နန်နီနှင့် ဘွားဘွားတို့ကိုတွေ့ရန်မင်ဖက်စ်သို့ ထွက်ခဲ့ကြပါသည်။ လူစီမှာ ဒေါ်ဒေါ်နန်နီ၏ ကလေးဖြစ်ပါသည်။ ဆရာမက ကျွမအား လှပသော အဝတ်သစ်တစုံ လက်အိတ်များ ချေအိတ်ရှည်များနှင့် ကော်လာများကို ဝယ်ပေးခဲ့ပါသည်။ ဘွားဘွားက ကျွမအား ပူနွေးသော ဖလန်နယ်များကို အထည်အဝတ်ချုပ်လုပ်ပေး၍ ဒေါ်ဒေါ်နန်နီက ကျွမအား ရင်ထွမ်းများ ချုပ်ပေးပါသည်။ လေဒီက ကျွမအား လှပသော ဦးထုပ်တလုံးပေးပါသည်။ ကျွမသည် ရောဘတ်မစ္စတာ ဂရေဗ်စ်၊ မစ္စက်ဂရေဗ်စ်၊ နက် တာ လိုင်း ကလေး၊ မစ္စတာဖါချစ်၊ မစ္စတာခယို၊ မေရီနှင့်တကွလူတိုင်းကိုတွေ့ရန်လာခဲ့ပါသည်။ ကျွမသည် ရောဘတ်နှင့်ဆရာမကိုတော့ ချစ်ပါသည်။ ယနေ့အဘို့ သူမက စာများဆက်လက်မရေးလိုကြောင်း ပြောပါသည်။ ကျွမ မော ပန်းနွမ်းနယ်နေပါပြီ။

ကျွမသည် မစ္စတာဂရေ့ဗ့်၏ အိပ်ထောင်ထဲ၌သကြားသေတ္တာကို တွေ့ရပါသည်။ ဖေဖေက အိမ်နှင့်တူသော

ရေနွေးငွေ့မောင်း စက်လှေသင်္ဘောကိုကြည့်ရှုရန် ကျမတို့အား ခေါ်သွားပါသည်။ လှေသည် အလွန်ကြီးသော မြစ်ထဲတွင်ရှိပါသည်။ ယိုတ်နံစ်သည် ယနေ့ မြက်များ ရိတ်ရန် ကွင်းထဲ၌ လယ်ထွန်နေပါသည်။ မြူးလ်က ထွန်ကို ဆွဲယူလာပါသည်။ မေမေသည် ဟင်းသီး ဟင်းရွက်ခင်းများကို ဥယျာဉ်သဘွယ် ပြုလုပ်လိမ့်မည်။ ဖေဖေက ဖရဲသီး၊ ပဲသီးစိမ်း တောင့်နှင့် ပဲတောင့်ပင် များကို စိုက်ပျိုးပါလိမ့်မည်။

ဝမ်းကွဲညီအမတော် ဘဲလ်သည် ကျမတို့နှင့် တွေ့ရန် စနေနေ့တွင် ရောက်လာပါလိမ့်မည်။ မေမေသည် ညစာအတွက် ရေခဲမုန့် ပြုလုပ်ပါလိမ့်မည်။ ကျမတို့သည်ညစာ အတွက်ကိတ်မုန့်နှင့်ရေခဲမုန့်များကို စားကြပါမည်။ လူစိမ်းသွန်မိမိ ဆန်းမှာ ဖျားနေပါသည်၊ ကျမသူ့အတွက် ဝမ်းနည်းမိပါသည်။

ဆရာမနှင့် ကျမတို့ ကွင်းပြင်ထဲသို့ လမ်းလျှောက်ရန် ထွက်ခဲ့ကြပါသည်။ ကျမသည် ပန်းပင်များနှင့် သစ်ပင်များ အဘယ်ကဲ့သို့ ပေါက်ရောက်ကြသည်ကို လေ့လာသင်ကြားခဲ့ပါသည်။ နေသည်အရှေ့မှထွက်၍ အနောက်ဘက်သို့ဝင်ပါသည်။ ရှက်ဖိမီးလ်မှာ မြောက်ပိုင်းတွင်ရှိ၍ တဲ့စ်ကမ်ဘီယာမှာ တောင်ပိုင်း၌ရှိပါသည်။ ကျမတို့သည် ဇွန်လတွင် ဘော့စ်တွန်မြို့သို့ သွားကြပါမည်။

ကျွန်မသည် မျက်မမြင်ကလေးများနှင့် ရယ်မောပျော်ရွှင်ရလိမ့်မည် ဖြစ်ပါသည်။

ဝွတ်ဘိုင်
ဟယ်လင်ကယ်လာ

နောက်တစောင်တွင် ဦးလေးမော်ရီဆိုသည်မှာ ကင့်တာကီနယ် နေ့်မင်ဒီမြို့မှ မစ္စတာ မောရစ်ဆင် ဟက်ဒီ ဖြစ်ပါသည်။ ၎င်းသည်။ ကလေးဘဝ အရွယ်ကပင် မျက်မမြင်နားမကြားဖြစ်ခဲ့သူ ဖြစ်ပါသည်။ သူသည် ဩဝါဒကထာ စာပေအချို့ကိုရေးသားသောစာရေးဆရာ တဦးဖြစ်ပေသည်။

မစ္စတာမောရစ်ဆင်ဟက်ဒီ သို့
တဲ့စ် ကန်ဘီယာအလာ ဘာမားပြည်
မတ်လ ၁ ရက်နေ့ ၁၈၈၈ ခုနှစ်။

ကျွန်မ၏ချစ်စွာသော ဦးလေးမော်ရီ–

ရှင့်ထံသို့စာတစောင်ရေးသားပေးပို့ရသည်အတွက် ကျွန်မ ဝမ်းမြောက်လှပါသည်။ ကျွန်မရှင့်ကို ခင်မင်မှုရှိပါသည်။ ကျွန်မရှင်နှင့် တွေ့ရလျှင် ရှင့်ကို ပွေ့ဖက်ခါ နမ်းမည် ဖြစ်ပါသည်။

မစ္စတာ အနက်စ်နေ့စ်သည် ကျွန်မနှင့် တွေ့ရန် တနင်းလာနေ့က ထွက်လာပါပြီ ထွန်းလင်းတောက်ပ၍ ပူနွေးသော နေရောင်ခြည်အောက်ဝယ် ကျွန်မသည် ရော ဘတ်နှင့်အတူ ကြိုးခုန်ခြင်း၊ ပြေးလွှားကစားခြင်းကို ချစ်မြတ်နိုးပါသည်။ ကျွန်မသည် လက်စ်ဖင်တန်ကီ၌ နေ

လိုင်သော မိန်းကလေးကို သိပါသည်၊ သူ့အမည်မှာ ကက်သရင်းဟော့ ပ် ဆန်ဖြစ်ပါသည်။

ကျမသည် ဇွန်လထဲတွင် မေမေ့ဆရာမတို့နှင့် အတူ ဘော့ စ် တွန်မြို့သို့သွားကြပါမည်၊ ကျမသည် မျက်မမြင်မိန်းကလေးများနှင့် ရယ်ရယ်မောမော ပျော်ရွှင်ရပါလိမ့်မည်။ မစ္စတာဟေး လ် သည် ကျမထံ လှပသော ပုံဝတ္ထုပေးပို့ လိုက်ပါလိမ့်မည်။ ကျမသည် ကျမ၏ စာအုပ်ထဲ၌ ဝက်ဝံများ၊ ကျားများ၊ ခြင်္သေ့များ အကြောင်း ပုံဝတ္ထုများကို ဘတ်ရှုပါသည်။

မင် လ် ဒချက်သည် ဘော့ စ် မြို့သို့ သွားလိမ့်မည်မဟုတ်ပါ သူမကငိုလို့ဘဲ နေပါသည်။ ကျမသည် ညီမငယ်ကလေးနှင့်ကစားရန် နှစ်သက်ပါသည်။ သူမသည် ချိန့်၍ ငယ်ရွယ်သူကလေးဖြစ်ပါသည်။ အိပ်ရာမှာ ကျန်းကျန်းမာမာ ရှိပါသည်။

ယိတ် န် စ် သည် ပုရွက်ဆိတ် များကို ယိတ် န် စ် ကိုက်ကြသည်။ ယိတ် န် စ် သည် ဥယျာဉ်ထဲ၌ တူးဆွနေပါသည်။ မစ္စတာအနက် စ် နေ ဘ စ် မှာ သီမွှေ်သီးများကို ကြည့်ရှုခဲ့ပါသည်။ သူတို့သည် ရွှေရောင်ဝင်းသော သစ်တော်သီးများနှင့် သဏ္ဌာန်တူပါသည်။

ရောဘတ်သည် ကျမနှင့် တွေ့ရန် တနင်္ဂနွေနေ့တွင် ရောက်လာပါလိမ့်မည်၊ နေရောင်ခြည် တောက်ပသောလျှင် ကျမသည် သူနှင့်အတူ ပျော်ရွှင်စွာကစားပါမည်။ ကျမ၏ညီမဝမ်းကွဲတော် ဖရင့် ခ် မှာ လူးဝစ်ဗွ ီ လ် မြို့၌

နေထိုင်ပါသည်။ ကျမသည် မစ္စတာဖါရစ် စ်၊ မစ္စက်ဂရေဗ် စ်၊ မစ္စတာမယို၊ မစ္စတာဂရေဗ် စ် တို့နှင့် တွေ့ရန် မင်ဖစ် စ် မြို့သို့ နောက်တကြိမ် လာပါဦးမည်၊ နာတာလိုင်းမှာ ကောင်းသော မိန်းကလေးတဦးဖြစ်၍ ငိုယိုခြင်း မပြုပါ သူသည်ကြီးထွားလာပြီးဖြစ်သော်လည်း မစ္စက်ဂရေဗ် စ်က သူ့အား တိုတောင်းသော အထည် အဝတ်များ ချုပ်လုပ်ပေးပါသည် နာတာလိုင်းမှာ ရထားကလေးတခုရှိပါသည်။ မစ္စတာမယိုသည် ဒပ် ခ် တောင်ကုန်းသို့ ရောက်ရှိခဲ့၍ အိမ်သို့ ပန်း လှလှများကို ယူခဲ့ပါသည်။

အချစ်များစွာနှင့် တကြိမ် နမ်းလိုက်ပါကြောင်း
ဟယ်လင် အေ ကယ်လာ

မေလကုန်လောက်တွင် မစ္စက်ကဲလာ၊ ဟယ်လင်နှင့် ဆရာမ မစ္စသူလီဗင်တို့သည် ဘော့စ် တွန်မြို့သို့ စတင်ထွက်လာခဲ့ကြပါသည်။ လမ်းခရီးတွင် သူတို့သည် ဝါရှင်တန်မြို့သို့ ရက်အနည်းငယ်ရပ်နား ဖြုံးတီးခဲ့ကြပေသည်။ ၎င်းမြို့တွင်သူတို့သည် ဒေါက်တာ အလက်ဇန္ဒာ ဂရာဟာမ်ဘဲလ် နှင့် သမတ ကလီဗင်လင့် တို့ကို တွေ့ခဲ့ကြရသည်။ မေလ ၂၆ ရက်နေ့တွင် သူတို့သည်ဘော့စ်တွန်မြို့သို့ ရောက်ကြ၍ ပါကင် စ် စာသင် ကျောင်းသို့ ထွက်ခဲ့ကြသည်။ ၎င်းနေရာတွင် ဟယ်လင်သည် မလာမှီ နှစ်ကာလက စာပေးစာယူဖြင့် ဆက်သွယ်ခဲ့သော မျက်မမြင် မိန်းကလေးများနှင့် တွေ့ရပေသည်။

ဇူလိုင်လ စောစောပိုင်းတွင် သူမသည် ဗရူးစတာမြို့ မချာချူဆက် တ် စ် တို့သို့ ထွက်ခဲ့၍ နွေရာသီ ရက်များတွင် အနားယူရင်းအချိန် ဖြုန်းခဲ့ပေသည်။ ဤနေရာတွင်ပင်ခါကသူမစာရေးသားခဲ့သောပင်လယ်၏ရှေးဦးစွာက လှုကြည်ဆယ်ခြင်းခံလိုက်ရပေသည်။

မစ္စမေရီစီ မူးရီးထံသို့—

ဘော့စ်တွန်မြို့ မချာချူဆက် ပြည်၊

စက်တင်ဘာလ ၁၈၈၉ ခု။

ကျွန်မ၏ ချစ်စွာသော မစ္စမူးရီ

ရှင်၏ ချစ်လှစွာသော မိတ်ဆွေမ က လေး ထံမှ စာကောင်းတစောင်ရရှိလျှင်၊ ရှင်အလွန်တရာ ဝမ်းမြောက်မည် မဟုတ်ပါလား၊ရှင်သည် ကျွန်မ၏မိတ်ဆွေဖြစ်သဖြင့် ကျွန်မသည် ရှင့်အားအလွန်တရာချစ်မြတ်နိုးပါသည်။ကျွန်မ၏ ညီမ ရတနာကလေးမှာ။ ယခုကောင်းစွာ ကျန်းမာပါသည်။ သူမသည် ကျွန်မ၏ လှုပ် ကုလားထိုင် ကလေးထဲတွင် ထိုင်ရန် နှစ်သက်၍ သူမ၏ကြောင်ကလေးကို သိပ်ရန် ထည့်ထား ပါသည်။ ရှင်ကော–ချစ်စရာ ကောင်းသော မင်လ်ဒရက်ကလေးကို ကြည့်ရန်နှစ်သက်လိမ့်မည်လား။ သူမသည် အလွန်လှသော မိန်းကလေးတယောက် ဖြစ်လာပါသည်။ သူမ၏ မျက်လုံးများမှာ အလွန်ကြီး၍ အပြာရောင်ရှိပါသည်။သူမ၏ပါးအစုံမှာ နူးညံ့ချောမွေ့၍ ပိုင်းကာ နှင်းဆီရောင်လျှမ်းနေပါသည်။ သူမ၏ဆံပင်မှာ လွန်စွာတောက်ပြောင်၍ ရွှေရောင်ထနေပါသည်။သူမ

သည် ကျယ်လောင်စွာ မငိုသောအခါ အလွန်ကောင်း၍ ရွှင်ပြုံးချိုသာသောမျက်နှာပေးရှိသည့် ကလေးမ ဖြစ်ပါသည်။ နောက်နှစ် နွေရာသီတွင် မင်လ်ဒရက်သည် ကျမနှင့်အတူ ဥယျာဉ် ထဲသို့ သွား၍ ချိုသော စထရောဗီးသီးကြီးများကို ဆွတ်ယူကာ အလွန် ဘရော ပျော်ရွှင်ပါလိမ့်မည်။ သူမသည် အလွန်အရသာရှိသော အသီးများကို အနံ့အကြူး မစားပါစေနှင့်ဟု ကျမ ချော် လင့် ရပါသည်။ အကြောင်းမှာ အလွန်အကြူးစားလျှင် သူမ ဖျားနာစေမည်ကြောင့် ဖြစ်ပါသည်။

တခါတရံ ရှင်သည် ကျေးဇူးပြု၍ ကျမရှိရာ အလာဘာမာမြို့သို့ အလည်အပတ် လာလိမ့်မည်လား။ ကျမဦးလေးဂျိမ်းသည် ကျမအတွက် အလွန် သိမ်မွေ့သော မြင်းကလေးတကောင်နှင့် လှပသောလှည်းတစီးကို ဝယ်ပေးမည်ဖြစ်ပါသည်၊ ရှင်နှင့်ဟယ်ရီတို့စီးရန်စီမံနိုင်ပြီမို့ လွန်စွာ ဝမ်းသာလိမ့်မည်ဖြစ်ပါသည်။ ဟယ်ရီသည်ကျမ၏မြင်းကလေးကိုမကြောက်ပါစေနှင့်ဟုမြှော်လင့်ရသည်။ တနေ့နေ့တွင်ကျမ၏ဖေဖေကလဲကျမအတွက်လှပသော မောင်ကလေးတယောက်ဝယ်ပေးလိမ့်မည်ထင်ပါသည်။ ကျမသည် ကျမ၏မောင် အသစ်ကလေးကို အလွန်တရာ ယုယ သီခံစွာဆက်ဆံလိမ့်မည်ဖြစ်ပါသည်။ ကျမသည် ထူးဆန်းသော တိုင်းပြည် မြို့ရွာများသို့ အလည်အပတ် သွားသောအခါ၊ ကျမမောင်ကလေးနှင့် မင်လ်ဒရက်တို့က ဘွားဘွားနှင့် အတူတူနေရစ်ကြလိမ့်မည်။ အကြောင်းမှာ

သူတို့သည် အလွန်များပြားစွာသော လူများကို ကြည့်ရှုရန် လွန်စွာငယ်ရွယ်ကြသောကြောင့် ဖြစ်သည်။ သူ့ဘို့သည် ကြီးကျယ်၍ ကြမ်းတမ်းသော သမုဒ္ဒရာပြင်ပေါ်ဝယ် ကျယ်လောင်စွာ ငိုယိုကြလိမ့်မည်ဟု ကျွမထင်ပါသည်။

ကက်ပတိန်ဘိတ်ကာ ကျန်းမာ လာလျှင် သူသည် သူ၏ ရွက်သင်္ဘောကြီးနှင့်ကျွမအား အာဖရိက တိုက်သို့ ခေါ်သွားပါလိမ့်မည်၊ ထိုနောက် ကျွမသည် ခြင်္သေ့များ ကျားများ၊ မျောက်များကို ကြည့်ရှုပါလိမ့်မည်။ ကျွမသည် ခြင်္သေ့ငယ်ကလေးတကောင်၊ မျောက်ဖြူတကောင် ဝက်စံကလေးတကောင်တို့ကို အိမ်သို့ ယူခဲ့ရန် ရှိပါလိမ့်မည်။ ကျွမသည် ဗရူစတာမြို့၌ အလွန်တရာ ပျော်ရွှင်သောအချိန်တချိန်ရှိခဲ့ပါသည်။ ကျွမသည် နေ့တိုင်းလိုလို ရေချိုးရခဲ့တွက်ခဲ့ပါသည်။ ကာရီ၊ဖချင့်စ် ဟယ်လင်ကလေးနှင့်အတူ ပျော်ရွှင်စွာ ကစားကြပါသည်။ ကျွမတို့သည် ရေနက်ထဲသို့ ဖြတ်ဆင်း၍ ခုန်ပေါက် မြူးထူးစွာ ပက်ဖြန်းကစားကြပါသည်။ ယခုကျွမသည် ရေပေါ်သို့ ဖေါ်ရန် မကြောက်ရွံ့တော့ပါ။ ဟယ်ရီကောသ ရေကူးနိုင် ရေပေါ်သို့ ဖေါ်နိုင်ပါမည်လား။ ကျွမတို့သည် လွန်ခဲ့သော ကြာသာပတေးနေ့က ဘော့စ်တွန်မြို့သို့ ရောက်ခဲ့ကြပါသည်။ မစ္စတာအနက် စ် နေ့ဝ် စ်သည်ကျွမကိုတွေ့သဖြင့်အလွန်ဝမ်းမြောက်ကြနေပါ

သည်။ သူသည်ကျွန်မကိုပွေ့ဖက်၍ နမ်းပါသည်။ မိန်းက
လေးများသည် နောက် ဗုဒ္ဓဟူးနေ့တွင် ကျောင်းသို့ ပြန်
ရောက်လာကြမည် ဖြစ်ပါသည်။

ကျေးဇူးပြု၍ ကျွန်မထံ အလွန်ရှည်လျားသော စာတစ်
စောင်ကို မကြာမီ ရေးသားပေးပို့ရန် ဟယ်ရီအား ရှင်
ပြောပါမည်လား။ ကျွန်မနှင့်တွေ့ရန် တစ်ခါ ကမ်ဘီယာ မြို့
သို့ ရှင်လာသောအခါ၊ ကျွန်မဖေဖေသည် ချိုသောပန်းသီး
များ၊ အရည်ရွှမ်းသော ပန်းသီးများ၊ လှပသောသစ်တော်
သီးများ၊ အလွန်အရသာရှိသော စပျစ်သီးများနှင့် ကြီး
မားသော ဖရဲသီးများကို လက်ဝယ်ရပြီး ဖြစ်နေလိမ့်မည်
ဟု ကျွန်မမျှော်လင့်ပါသည်။

ကျွန်မသည် ကောင်းသော မိန်းကလေးတယောက်ဖြစ်
သဖြင့် ကျွန်မအကြောင်းကိုစဉ်းစားရင်း ကျွန်မအား ချစ်
ခင်လိမ့်မည်ဟု မျှော်လင့်ပါသည်။

အချစ်များစွာနှင့် နှစ်ကြိမ် နမ်းလိုက်ပါကြောင်း၊
သင်၏မိတ်ဆွေမကလေး
ဟယ်လင် အေ–ကယ်လာ

အချို့မိတ်ဆွေများထံသို့ အလည်အပတ် သွားသော
အကြောင်း အရာ ရေးသား ပေးပို့ရာတွင် ဟယ်လင်၏
အတွေးအခေါ်မှာ ခုနစ်နှစ်ခွဲယ်မျှ ရှိသေးသော ရိုးရိုးက
လေး တယောက်ထံမှ စကားနှင့်ယှဉ်၍ ချင့်တွက်လျှင်
လွန်ကဲထူးချွန်နေပေသည်။

မစ္စတက် ကိတ်အေဒမ်စ် ကယ်လာထံသို့
ဘော့စ်စတွန်,မတ်စ်,စက်တဘာ ၂၄ ရက် ၁၈၈၈ ခု၊
ကျမ၏ ချစ်လှစွာသော မေမေ
အနောက်ပိုင်း နယူးတန်မြို့သို့ ကျမ အလည်အပတ် သွားရောက်ကြောင်း အားလုံးကို မေမေသိရလျှင် အလွန် တရာ ဝမ်းသားလိမ့်မည်ဟု ကျမထင်ပါသည်။ ဆရာမ နှင့် ကျမဘို့မှာ ကြင်နာထောက်ထားသော မိတ်ဆွေများ နှင့်အတူ နှစ်သက်ဖြတ်နိုးဘွယ်ရာ အချိန်တချိန် ရရှိခဲ့ကြ ပါသည်။ အနောက် နယူးတန်မြို့မှာ ဘော့စ်တွန်မြို့နှင့် သိပ်မဝေးလှပါ။ ကျမတို့သည် ထိုနေရာသို့ ရေနွေးငွေ့ ကားများဖြင့် အလွန်မြန်စွာ ထွက်ခဲ့ကြပါသည်။
မစ္စတက် ဖရီးမင်း ကာရီ အီသယ်လ် ဖရင့်စ်နှင့်ဟယ်လင် တို့သည် ကျမတို့ကိုကြိုရန်ရထားကြီးတစင်းနှင့်ဘူတာရုံ သို့ လာကြပါသည်။ ကျမသည် ကျမ၏ ချစ်လှစွာသော သူငယ်ချင်းများကို တွေ့ရသဖြင့် ဝမ်းမြောက် ဝမ်းသာ သူတို့အား ပွေ့ဖက်၍ နမ်းလိုက်ပါသည်။ ထိုနောက်ကျမ တို့သည် အနောက်နယူးတန်မြို့၌ လှပသောကြည့်ရှုဘွယ် ရာများကိုလှည့်လည်ကြည့်ရှုရန် အချိန်အတော်ကြာကြာ ရထားစီး၍ လိုက်ပါခဲ့ကြပါသည်။ အလွန်တရာ လှပ သောအိမ်များနှင့် ကြီးကျယ်ပျော့ပြောင်းသည့် မြက်ခင်း များကို လှည့်ပတ်ခါသစ်ပင်များ တောက်ပြောင်သည့် ပန်းများ စမ်းချောင်း ရေပန်းများပိုင်းရံလျက် ရှိပေသည်။ မြင်း၏အမည်မှာ ပရင့်စ်ဖြစ်၍ သူသည်နူးညံ့သိမ်မွေ့စွာ

သုံးချောင်းထောက် မြန်မြန်ပြေးလိုပါသည်။ ကျုမဘိုအိမ်သို့ ရောက်ကြသောအခါ ကျမဘိုသည် သတော်-ယုန်ရှစ်ကောင်၊ ခွေးဝဝက်လေးနှစ်ကောင်၊ အဖြူရောင်မြင်းကလေး တကောင်၊ ကြက် ကောင် ပေါက် က လေး နှစ်ကောင်နှင့် ဒွ်း ဟု ခေါ်သောလှပသည့်အမွေးသိမ် ခွေးကြီးဘကောင် တို့ကို တွေ့ကြရပါသည်။ မြင်းကလေး၏အမည်မှာမော်လီဖြစ်၍သူ့၏ကျောပေါ်သို့ကျမ ကေ:င်းကောင်းတက်၍ စီးပါသည်။ ကျမ-မခကြာက်ပါ။ ကျုမဦးလေးသည် ကျမအား ချစ်စရာကောင်းသော မြင်းကလေးတကောင်နှင့် လှည်းကလေး တစီးတို့ကို မကြာမီအမြန်ပေးလိမ့်မည်ဟု ကျမမြော်လင့်ပါသည်။

ကလပ်ဖ်တွန်က ကျမကို မုန့်ခိုးပါ။ အဘယ်ကြောင့်ဆိုသော် သူသည် ငယ်ရွယ်သောမိန်းကလေးများကို နခိုးရန် မနှစ်သက်၍ ဖြစ်ပါသည်။ သူကရှက်တတ်ပါသည်။ ဖခင့်ခ်။ ကလာမင့်စ် ရေ့ဝ်ဘီ၊ အက်ဒီ၊ ချာလီနှင့်ချေ့တို့မှာ အလွန်တရာ မှရှက်တတ်ကြသဖြင့် ကျမ လွန်စွာဝမ်းသာမိပါသည်။ ကျမသည် မိန်းကလေး များစွာနှင့်ကစားကြ၍ ကျမတို့တတွေ ပျော်ရွှင် ရယ်မောကြရပါသည်။ ကျမသည် ကာရီ၏ သုံးဘီး စက်ဘီးကို စီး၍ ပန်းများကို ခူးပါသည်။ သစ်သီး များကို စားပါသည်။ ခုန်ပေါက်ကစားပါသည်။ ကြိုးခုန်ပါသည်။ က,၍ မြင်းစီးရန်ထွက်ခဲ့ပါသည်။လူကြီးလူကောင်း အမျိုးသား အမျိုးသမီးများမှာ ကျမဘိုနှင့်တွေ့ရန် လာကြပါသည်။ လူစီ၊

ဒေါ်ရာနှင့် ချာလီတို့မှာ တရုတ်ပြည်တွင် မွေးဘွားခဲ့ကြ ပါသည်။ ကျမကအမေရိကန်တွင်မွေးခဲ့ပါသည်။ မစ္စတာ အနက်စ်နေ့စ်မှာ ဂရိတ်ပြည်တွင် မွေးဘွားသူ ဖြစ်ပါ သည်။ မစ္စတာ ဒရူးက တရုတ်ပြည်၌ မျက်စေ့ ကွယ်နေ သော မိန်းကလေးများသည် သူတို့၏ လက်ချောင်းများ နှင့် စကားမပြောနိုင်ကြဟု ပြောပါသည်။ သို့ရာတွင် ကျမ တရုတ်ပြည်သို့ ရောက်လျှင် သူတို့အား ကျမသင်ပြ ပေးပါမည်။ အစရ ခေါ်သော တရုတ်အမျိုးသမီး သူနာပြု မက ကျမထံ လာတွေ့ပါသည်။ သူမသည် ကျမအား သေးငယ်သောဘိနပ်ကလေးကို ပြပါသည်။ အလွန်ကြွယ် ဝသော အမျိုးသမီးကြီးများသာ တရုတ်ပြည်၌ ဤဘိနပ် မျိုးကို စီးကြသည်ဟု ပြောပါသည်။ အဘယ်ကြောင့်ဆို သော် သူတို့ခြေများမှာဘယ်တော့မှ ကြီးထွားလာမည် မ ဟုတ်သောကြောင့်ဟုဆိုသည်။ အမှာဆိုသည်မှာသူနာပြု တယောက်ကို ခေါ်ပါသည်။ တွမ်သို့ ကျမတို့မြင်းရထား များနှင့်ပြန်ခဲ့ကြရပါသည်။ အကြောင်းမှာ တနင်္ဂနွေနေ့ တွင် ရေနွေးငွေ့ မောင်းကားများမှာ မကြာခဏ မသွား ကြခြင်းကြောင့် ဖြစ်ပါသည်။ လက်မှတ် ရောင်းသူ များ နှင့် အင်ဂျင်စက်မောင်းသူများမှာ အလွန် မောပန်းကြ၍ အိမ်သို့ပြန်ကာ အနားယူကြသည်။ ကျမသည် ရထားထဲ ၌ ဝင်လီဆွင်ကို တွေ့ရပါသည်။ ကျမအား သူကအရည် ရွှမ်းသော သစ်တော်သီးတလုံးပေးပါသည်။ သူသည် ခြောက်နှစ်သားသာရှိပါသေးသည်။ ကျမ ခြောက် နှစ်

ပြည့်လျှင် ကျွမ ဘာလုပ်ရပါမလဲ၊ ကျေးဇူး ပြု၍ မေမေ ကဖေဖေအား ကျွမနှင့်ဆရာမတို့ကို ဘူတာရုံသို့လာကြိုရန်ပြောပေးပါမည်လား။ အိဗ္ဗါနှင့် ဘက်စီတို့ ဖျားနေကြသဖြင့်၊ ကျွမဝမ်းနည်းပါသည်။ ကျွမမွေးနေ့တွင် ပါတီတခုကောင်းကောင်းပေးနိုင်ဘို့ ကျွမ မြှော်လင့်ပါသည်။ ကာရီ၊ အီသယ်တ်၊ ဖရင့်စ်နှင့်ဟယ်လင်တို့အားကျွမရှိရာ အလာဘားမာမြို့သို့ အလည်လာကြရန် ကျွမ အလိုရှိပါသည်၊ ကျွမ အိမ်ပြန် ရောက်သော အခါ၊ မင်လ်ဒရက်သည် ကျွမနှင့်အတူတူအိပ်ပါမည်လား၊

အချစ်များစွာနှင့်အတူ–ထောင်ပေါင်းများစွာသော အနမ်းများဖြင့်

မေမေ၏ ချစ်လှစွာသောသမီးငယ်
ဟယ်လင်–အေ–ကယ်လာ၊

ဇူလိုင်လထဲတွင် သူမသည် ပလိုင်းမောက်သ်မြို့သို့ အလည်အပတ်သွားခဲ့ပါသည်။ ဤစာမှာ သုံးလလောက်အကြာတွင် ရေးသားခြင်းဖြစ်ပါသည်၊ ရာဇဝင်ရေးရာ၌ သူမ၏ ပဋ္ဌမ သင်ခန်းစာကို အဘယ်မျှသတိရကြောင်း ဖေါ်ပြခြင်းဖြစ်ပါသည်။

မစ္စတာ မောရစ်ဆင်ဟာက်ဒ်သို့
ဘော့စ်တွန်မြို့တောင်ပိုင်း၊ မတ်စ်၊
အောက်တိုဘာလ ၁ ရက်နေ့၊ ၁၈၈၈ ခုနှစ်။

ကျွမ၏ချစ်စွာသော ဦးလေး မော်ရိ....

ရှင်၏ချစ်စွာသောမိတ်ဆွေဟယ်လင်ကလေးထံမှ စာ

တစောင်ရှိသဖြင့်၊အလွန်တရာ ဝမ်းမြောက်လိမ့်မည်ဟု ကျမထင်ပါသည်။ ၎င်းထံသို့ စာရေးရ သည်ကို ကျမ လွန်စွာ ပျော်ရွှင် ပါသည်။ အကြောင်းမှာ ကျမ၎င်းကို ချစ်ခင်လေးစားမှုရှိလို့ဘဲထင်ပါသည်။ ကျမထံသို့ ၎င်း ပို့လိုက်သောစာအုပ်ထဲမှ ချာလီနှင့် သူ့လှေအကြောင်း။ စာရေးဆရာနှင့်အိပ်မက်၊ရှိစာနှင့်သိုး၊စသော့ပုံဝတ္ထုများ ကို နှစ်သက်စွာ ကျမဘတ်ရှုခဲ့ပါသည်။

ကျမသည် လှေကြီး တစင်းတွင် စီးခဲ့ဘူး ပါသည်။ ထိုလှေသည် ရွက်သင်္ဘောတစင်းနှင့်တူပါသည်။ မေမေ ဆရာမ၊ မစ္စက် ဟော့ပ်ကင်စ်၊ မစ္စတာ အနက်စ် နေ့ဂ်စ်၊ မစ္စတာ ရိုဒိုကနာချီနှင့် များစွာသောတခြားမိတ်ဆွေများ သည် ရှေးဟောင်းအရာဝတ္ထုများကို ကြည့်ရှုရန် ပလိုင်း မောက်သ်မြို့သို့ ထွက်ခဲ့ကြပါသည်။ ပလိုင်းမောက်သ် မြို့အကြောင်းကို ၎င်းအားဝတ္ထုကလေးတပုဒ်အဖြစ်ကျမ ပြောပြပါမည်။

လွန်ခဲ့သော နှစ်ပေါင်းများစွာက အင်္ဂလန်ပြည်တွင် လူကောင်းများစွာ နေထိုင်ခဲ့ကြပါသည်၊သို့ရာတွင်ဘုရင် နှင့် သူ့မိတ်ဆွေများသည် လူကောင်းများ အပေါ်တွင် သီးခံမှု၊ ညှာတာမှု၊ နူးညံ့စွာ ဆက်ဆံမှု မပြုခဲ့သော ကြောင့် တိုင်းသူပြည်သားများသည် ဘုရင်အား ရိုသေ လေးစားခြင်း မရှိခဲ့ကြပေ။ ပြည်သူပြည်သား များသည် ဘုရင်နှင့် ဘုရား ဝတ်ကျောင်းသို့ မသွားလိုခဲ့ကြပေ။

သို့ရာတွင် သူတို့သည် သူတို့ကိုယ်တိုင် အလွန်ကောင်းသော ဘုရားရှိခိုးကျောင်း ကလေးများကို ဆောက်လုပ်ရန် နှစ်သက်ခဲ့ကြသည်။

ဘုရင်သည် ပြည်သူပြည်သားများကို လွန်စွာစိတ်ဆိုးလေသည်။ သူတို့ကလည်း ဝမ်းနည်းစွာနှင့် ပြောပြကြသည်မှာ 'ကျွန်ုပ်တို့သည် ညစ်ပတ်စုတ်ပဲ့သော ဘုရင်နှင့်တကွ မိတ်ဆွေသင်္ဂဟများ အလွန် နှစ်သက်ဘွယ်ရာ အိမ်များကိုစွန့်ပစ်ခါ တခြားတိုင်းပြည်တပြည်သို့ နေထိုင်ရန်သွားကြမည်' ဟု ဆိုတော့သည်။ ထို့ကြောင့် သူတို့သည် သူတို့၏ ပစ္စည်း ပစ္စယများကို သေတ္တာကြီးထဲသို့ ထည့်သွင်းကာ နောက်ဆုံး ထွက်ခွါခြင်းဖြင့် နှုတ်ခွန်းဆက်ကြသည်။ သူတို့သည် သီးထန်စွာငိုကြွေးကြသဖြင့် ကျမပင် သူတို့အတွက် ဝမ်းနည်းမိပါသည်။ ဟော်လန်ပြည်သို့ သူတို့ရောက်ရှိသွားကြသောအခါ ထိုအရပ်တွင် တဦးတယောက်ကိုမျှ မသိကြ၊ တိုင်းသူပြည်သားများမှာ ဘာသာစကားမျိုးကို ပြောဆိုကြသည်ကိုပင် မသိကြ၊ အဘယ်ကြောင့်ဆိုသော် သူတို့သည် ဒတ်ချ် လူမျိုးများ မဟုတ်သောကြောင့်ပင်၊ သို့ရာတွင် မကြာမီ သူတို့သည် ဒတ်ချ် စကားများကို သင်ကြားကြသည်။ သို့စေကာမူ၊ သူတို့သည် သူတို့၏ ဘာသာစကားကို ချစ်မြတ်နိုးကြ၍ လူကလေးများနှင့် မိန်းကလေးများအား သူတို့ဘာသာစကား

ကို မေ့ပျောက်ပစ်ရန် မလိုလားကြပါ။ ဒတ်ချ် စကားကို ထမင်းစားရေသောက်လောက်ပဲ သင်ကြားကြသည်။ ထို့ကြောင့်သူတို့က ‘ ကျွန်ုပ်တို့သည်ဝေးကွာသော တိုင်းပြည်သစ် တပြည်သို့ သွား၍၊ ကျောင်းများ၊ အိမ်များ၊ ဘုရားရှိခိုးကျောင်းများနှင့် မြို့တော်သစ်များ ဆောက်လုပ်ကြရမည်ဖြစ်သည် ’ ဟု ပြောကြသည်။ ထို့ကြောင့် သူတို့သည် သေတ္တာများထဲ၌ သူတို့၏ပစ္စည်းများအားလုံးကိုထည့်ကာ သူတို့၏ မိတ်ဆွေသစ်များအား နောက်ဆုံးနှုတ်ဆက်၍ တိုင်းပြည်သစ် တပြည် ရှာဖွေရန် လှေကြီးတစင်းဖြင့် ထွက်သွားကြလေသည်။ ဆင်းရဲသောလူများမှာ သူတို့၏အသဲနှလုံး အသီးသီးတွင် ဝမ်းနည်းပူဆွေးခြင်း တွေးတောမှုအပြည့်ဖြင့် မပျော်ရွှင်ကြပါ။ သူတို့သည် အမေရိကန်တိုက် အကြောင်းကို စိုးစဉ်းမျှမသိကြပါ။ ကလေးငယ်များမှာ အပြောကျယ်သော ပင်လယ်ပြင်ကို လှေကြီးတစင်းနှင့်ဖြတ်ကူးရာ လှေကြီးသည်အင်အားကြီးမားသည့် ပင်လယ်ရေ၏ ရိုက်ပုတ်ချက်ကြောင့် လှေဝမ်းပိုက်ထဲသို့ လိမ့်ကျသူကျ ဦးခေါင်းနာသူ နာကြ၍၊ သူတို့တတွေမှာ အလွန်တရာ ကြောက်ရွံ့ကြရမည်ဟု ကျမတွေးတောမိပါသည်။ သူတို့သည် ရက်သတ္တပါတ်ပေါင်းများ နက်ရှိုင်းသော ပင်လယ်ပြင်ပေါ်သို့ ဖြတ်သန်းခဲ့ကြပြီးနောက် သစ်ပင်များ၊ မြက်ပင်များ၊ ပန်းပင်

များ စသည်တို့ကိုမမြင်နိုင်ကြရတော့ဘဲ၊ ရေပြင်နှင့်လှပသော ကောင်းကင်ပြာကိုသာ မြင်ကြရပေသည်။ လူများသည် စက်ကရိယာနှင့် ရေနွေးငွေ့ အား အကြောင်းကို မသိကြသဖြင့် ရွက်လှေများကို လျင်မြန်စွာ မလွှင့်နိုင်ကြပါ။ တနေ့တွင် လှေပေါ်မှာပင် ချစ်စရာကောင်းသော ယောက်ျားကလေးတယောက် ဘွားမြင်သည် သူ့အမည် ဗိရိဂရိုင်းဇုဂ်ကိဟု မှည့်ခေါ်လိုက်သည်။ ယခုပင် သနားစရာကောင်းသော ဗိရိဂရိုင်းကလေး သေဆုံးသွားတော့သဖြင့် ကျမ လွန်စွာဝမ်းနည်းမိပါသည်။ နေ့တိုင်းပင် လူများသည် ကုန်းပါတ်ပေါ်သို့တက်၍၊ ကုန်းမြေကိုရှာဖွေကြသည်။ တနေ့သော် လူများသည် ကုန်းမြေကိုမြင်ကြရသဖြင့် ဝမ်းမြောက်ဝမ်းသာ အော်ဟစ်ကြကာ ချေချော့မောမော တိုင်းပြည်သစ်တခုသို့ ရောက်ရှိသွားကြလေသည်၊ လူကလေးများနှင့် မိန်းကလေးများမှာ ခုန်ပေါက်၍ လက်ခုတ်တီးကြသည်။ အလွန်ကြီးမားသော ကျောက်ဆောင်ကြီး တခုပေါ်သို့ သူတို့ခြေချမိကြလျှင်ဘဲ အားလုံးပင် ဝမ်းမြောက် ရွှင်မြူးနေကြသည်။ ကျမသည် ပလိုင်းမောက်သ်မြို့၌ ကျောက်ဆောင်ကို မြင်ခဲ့ပါသည်။ မေဖလားဝါး ကဲ့သို့သော ရွက်သင်္ဘောကလေး တစင်းထဲတွင် ဗိရိဂရိုင်းမှာ ပုခက်သတ္တုအညိမ့်စီး၍ အိပ်ပျော်သွားခဲ့ပါသည်၊ မေဖလားဝါး သင်္ဘောကြီးထဲတွင် ရှေးဟောင်း အရာဝတ္ထု အများအပြားပင်ရှိပါသည်။ တနေ့

နေ့တွင် ရှင်ကော ပလိုင်းမောက်သို့ အလည်အပတ်လာ၍ ရှေးဟောင်းပန်းပုနည်း အများ အပြားကို ကြည့်ရှုပါမည်လား။

ယခု ကျမ လွှန်ပွာပင်ပမ်းလှသဖြင့် အနားယူပါဦးမည်။
ရှင်၏ မိတ်ဆွေမကလေးထံမှ အချစ်များများ
အနမ်းများများနှင့်
ဟယ်လင်ကယ်လာ

ဤစာနှစ်စောင်တွင် နိုင်ငံခြားစကားလုံးများ ပါရှိရာ ပဌမစာမှာ မျက်မမြင်ကျောင်း သင်ပုန်းကြီးတန်းသို့ အလည်အပတ်သွားစဉ် ရေးသားထားခြင်း ဖြစ်ပါသည်။ လပေါင်းများစွာက သူမအားပြောပြထားခဲ့ရာ သူမ၏မှတ်ဉာဏ်တွင် သီးသန့်ဖယ်ထားခဲ့သော အကြောင်းချပ်များ ဖြစ်ပါသည်။ သူမသည် စကားလုံးများကိုလေ့ကျင့်ရင်း ဆင်တူ ရေးခဲ့ပေသည်။ တခါတရံ ဉာဏ်ကွန့်ကာသုံးသည်။ တခါတရံ ကျက်တူရွေးစကားသင်သကဲ့သို့ ထပ်တလဲလဲသုံးစွဲထားသည်။သူမသည်စကားလုံးများအစီအစဉ်အယူအဆများကို ဖြည့်ဖြည့်ဝဝ နားမလည်သည့်ပင် သူမရေးတတ်သလို အထက်အောက်မညီ အောင်ရေးချလိုက်သည်။ ယင်းသို့လျှင် သူမ၏ အတွေ့ အကြုံ အရအတွေးခေါ် အယူအဆများကို ပေါ်လွင်စွာ ဖေါ်ပြကာ အသံထွက်နှင့် တွေ့မြင်ခြင်း အချက် အလက် ကိုက်ညီအောင် မှန်ကန်စွာ သုံးစွဲ ရန် သင် ကြား ခဲ့ ပေသည်။

'အိဒစ်သ်' ဆိုသည်မှာ 'အိဒစ်သ် သောမတ်စ်' ဖြစ်ပါသည်။

မစ္စတာ မစ်ချီရယ် အနက်စ်နေ့စဉ် ထံသို့
ရေဂ့က်ဘာရီ,မတ်စ်,အောက်တိုဘာလ ၁၇-ရက်၊
၁၈၈၈-ခုနှစ်။

မွန့်ချီယာ မွန်စီယူဝါ အနက်စ်နေ့စဉ်—

ကျမ ပြူတင်းပေါက် အနီးတွင် ထိုင်နေ ပါသည်။ လှပသော နေရောင်ခြည်မှာ ကျမအပေါ်တွင် ထွန်းလင်းတောက်ပလျက် ရှိပါသည်။ ဆရာမနှင့် ကျမတို့သည် မနေ့က သင်ပုန်းကြီးဘန်းသို့ရောက်ခဲ့ကြပါသည်။ ၎င်းနေရာတွင် ကလေး သူငယ်ပေါင်း(၂၇)ယောက်ရှိ၍၊ သူတို့အားလုံး မျက်စိ မမြင် ကြပါ။ သူတို့ တတွေ ကြည့်ချင်သလောက်မကြည့်နိုင်ကြသဖြင့် ကျမဝမ်းနည်းပါသည်။ သူတို့အဖို့ တခါတရံ မျက်လုံးကောင်းကောင်းနှင့် မြင်နိုင်ကြပါဦးမည်လား။ သနားစရာကောင်းသောအိဒစ်သ်မှာ မျက်စိမမြင်၊နားမကြား၊ဆွံ့လည်းဆွံ့အ နေရှာပါသည်။ အိဒစ်သ်နှင့်ကျမတို့အတွက် အလွန်အကြူး ရှင်ဝမ်းနည်းပါသလား၊ မကြာမီ ကျမသည်၊ ကျမ မေမေကျမဖေဖေနှင့် ကျမ၏ ချစ်စွာသော ညီမငယ်ကလေးများကို ကြည့်ရှုရန် အိမ်သို့ပြန်ရပါဦးမည်၊ ကျမ နေထိုင်ရာအလာဘာမာသို့ ရှင် အလည်အပတ် လာလိမ့်ဦးမည်လားဟု ကျမမျှော်လင့်ပါသည်။ ကျမ လှည်းကလေးနှင့် ရှင့်ကိုလာရောက် ကြိုဆိုပါမည်၊ ကျမ၏ ချစ်စွာသော

မြင်းကလေး ကျောပေါ်တွင် ကျမကို ရှင်ကြည့်လို့လိမ့်မည်ဟု ကျမထင်ပါသည်။ ကျမသည် မြင်းစီး အဝတ်အစားသစ်နှင့် လှပသော ဦးထုပ်ကို ဝတ်ဆင် ဆောင်းထားပါမည်။ အကယ်၍နေရောင်ခြည်တောက်ပသာယာလျှင် ကျမရှင့်ကို လိုင်လာ၊အိဗ္ဗါနှင့် ဘက်ဆီတို့သို့ကြည့်ရှုရန် ပို့ပါမည်။ ကျမ(၁၃)နှစ်အရွယ် ရောက်လာလျှင် ထူးဆန်း၍ လှပသောတိုင်းပြည်များသို့ ခရီးလှည့်လည်သွားပါမည်။ ကျမသည် နော်ဝေပြည်တွင် အလွန်မြင့်သောတောင်များပေါ်သို့တက်၍ ရေခဲနှင့်နှင်းပွင့်များကိုကြည့်ရှုပါမည်။ ကျမသည် တောင်ပေါ်မှ လိမ့်ကျ လိမ့်မည်မဟုတ်၊ ကျမဦးခေါင်းလည်း နာကျင်လိမ့်မည် မဟုတ်ပါ။ကျမသည် အင်္ဂလန်ပြည်၌ရှိ လော့ဒ် ဖေါင့်တ်လာရိုင်ကလေးထံသို့ အလည်အပတ် သွားပါမည်။ သူသည် သူ၏ကြီးကျယ်ခမ်းနား၍ ရှေးကျသောရဲတိုက်ကြီးကိုပြရမည်ကြောင့်၊ ဝမ်းမြောက်ဝမ်းသာ ရှိပါလိမ့်မည်။ ကျမတို့သည် ဒရယ်ကလေးနှင့်ပြေးလွှားကစားရင်း သဘော်ယုန်များကို အစာကျွေး၍ ရှဉ့်များကိုဘမ်းဆီးကြပါမည်။ ကျမသည် ဖေါင့်တ်လာရိုင်၏ခွေးကြီးဗိုဂါလ်ကိုကြောက်ရွံ့လိမ့်မည် မဟုတ်ပါ။ ဖေါင့်တ်လာရိုင်သည် ကျမအား အလွန်တရာ သနားကြင်နာတတ်သော မိဖုယားတပါးကို တွေ့ဆုံရန် ပို့ပေးလိမ့်မည်ဟု ကျမမျှော်လင့် ပါသည်။ ကျမပြင်သစ်ပြည်သို့သွားသောအခါ၊ ပြင်သစ်စကားကို ပြောပါမည်။ ပြင်သစ်ကလေးတယောက်က ပြောပြပါ၊

လိမ့်မည်။ အေသင် အမျိုးသမီးကိုကြည့်ရှုရန် ကျမနှင့်အတူ အေသင်စ်သို့ ရှင်လိုက်လိမ့်မည်ဟု ကျမ မျှော်လင့်ပါသည်။ သူမသည် အလွန်တရာ လှပချောမောသည့် အမျိုးသမီးဖြစ်ပါသည်။ ကျမ သူမကို ဂရိတ်စကား ပြောပါမည်။ ကျေးဇူးပြု၍ ကျမထံသို့မကြာမီရှင်လာရောက်လိမ့်မည်လား၊ ကျမအား ဇာတ်ပွဲသို့ ခေါ်သွားပါမည်လား။ ယခုစာကို ဆက်လက်ရေးသားရန်အလွန်တရာပင်ပန်းနေပါပြီ။

ရှင်၏ချစ်လှစွာသော မိတ်ဆွေ ကလေးမ
ဟယ်လင် အေ-ကယ်လာ။

× × × × ×

မစ္စက် ဆိုဖီယာ စီ ဟော့ပ်ကင်စ် ထံသို့
တဲ့စ်ကမ်ဘီယား, အလာဘာမာပြည်၊
ဒီဇင်ဘာလ ၁၁-ရက်၊၁၈၈၈ ခုနှစ်။

ကျမ၏ချစ်စွာသော မစ္စက် ဟော့ပ်ကင်စ်-

ကျမ၏ ချစ်စွာသောဒိုကလေးကို ယခုဘဲ ကျမအစာကျွေးပြီးပါ။ ထိုဒိုကလေးကို ကျမ၏မောင်, စင်ဆန်သည် လွန်ခဲ့သော တနင်္ဂနွေနေ့က ကျမအား ပေးခဲ့ပါသည်။ ကျမက ထိုဒိုကလေးကို ဆရာမ အတွက် အင်နီဟု အမည်ပေးထား ပါသည်။ ကျမ ခွေးကလေးလည်း ညလည်စာ စားသောက်ပြီး၍ အိပ်ရာသို့ ထွက်သွားပါသည်၊ ကျမယုန်ကလေးများလဲ အိပ်နေကြပါပြီ။မကြာမီ ကျမလဲ အိပ်ရာဝင်ပါမည်။ ဆရာမမှာ သူမ၏ မိတ်ဆွေ

များထံသို့ စာရေး နေပါသည်။ မေမေ၊ ဖေဖေနှင့် သူတို့ မိတ်ဆွေများမှာ သံရေကြို မီးဖိုကြီး တဖိုသို့ ကြည့်ရန် သွားကြပါသည်။ မီးဖိုမှာ သံဖြင့် ပြုလုပ် ထားပါသည်။ သံဒယ်အိုးကို မြေကြီးပေါ်၌တွေ့ရပါသည်။ သို့ရာတွင် သံများကို မီးဖိုပေါ်သို့မရောက်မချင်း အရေကြို၍ မဖြစ် နိုင်ပါ။ သံချေးများကိုချွတ်၍ သံအစစ်သာ ကျန်ရစ် ပါ သည်။ ထိုနောက် သံရေပူများမှာ အင်ဂျင် စက်များ၊ မီး လင်းဖိုများ၊ ဒယ်အိုးများမှစ၍ သံထည်ကိရိယာအမျိုးမျိုး သွန်းလုပ်ရန် အသင့်ဖြစ်လာပါသည်။

ကျောက်မီးသွေးကိုလဲ မြေကြီးထဲတွင်တွေ့ရပါသည် ကမ္ဘာမြေကြီးပေါ်သို့ လူသူ မနေထိုင်မီ ရှေးနှစ်ပေါင်း မြောက်များစွာက သစ်ပင်ကြီးများ ရှည်လျားသော မြက် များ၊ ကြီးမားသောရေညှိများနှင့် လှပသည့်ပန်းများအား လုံးမှာ မြေကြီးကို ဖုံးလွှမ်း နေကြပါသည်။ သစ်ပင်များ သစ်ရွက်များ လဲကျကြသောအခါ၊ ရေနှင့်မြေဆွေးတို့က ၎င်းတို့အပေါ်သို့ ဖုံးလွှမ်းသွားသည်။ ထိုနောက် သစ် ပင် ကြီးများ ပိုမိုပေါက်ရောက် လာပြန်သည်နှင့်အမျှ လဲကျ ပျက်ပြုန်းကာ ရေနှင့် မြေဆွေးများ အောက်သို့ မြှုပ်နှံ ခြင်းခံကြရတော့သည်။နှစ်ပေါင်း ထောင်ပေါင်းများစွာ မရေတွက်နိုင်မျှ အချင်းချင်းလဲကျဖိညှပ်ပြီးသည့်နောက် ကျောက်ဆောင်ကဲ့သို့ အလွန် မာကြောသော သစ်တော ကြီးများပေါက်ရောက် လာပြန်ပါသည်။ ထိုနောက်၊ ထို တောအားလုံးသည်လဲ လူများနေထိုင်ရန်အတွက် တော

မီးလောင် ပေးရပြန်သည်။ကျောက်မီးသွေးပေါ်မှအကာများ၊ရေညှိများ၊သစ်ရွက်များကို တွေ့မြင်နိုင်သည်မဟုတ်ပါလား။ လူများသည် မြေအောက်သို့ နက်စွာ ဆင်း၍ကျောက်မီးသွေးများကို တူးယူကြရသည်။ ရေနွေးငွေ့မောင်းကားများက ၎င်းတို့ကို မြို့ကြီးများသို့ ပို့ရသည်။မီးအဖြစ်သုံးစွဲရန် လူများသို့ ရောင်းချကြသည်။ တံခါးမကြီးများ၏အပြင်ဘက်၌ ချောင်း နေသောအခါ၊ ပူနွေးငွေ့ရသဖြင့် လူများမှာ ပျော်ရွှင်ကြရသည်။

ယခု ရှင်တယောက်တည်းအလွန်တရာပျင်းရိငြီးငွေ့နေပါသလား။ မကြာမီ ကျမ တို့ထံသို့ ရှင်လာရောက်ခါ ရက်ကြာကြာ နေလိမ့်မည် ဟု ကြိုတင် မျှော် လင့်ပါသည်။

ရှင်၏မိတ်ဆွေမကလေးထံမှ အချစ်များစွာဖြင့်
ဟဲလင် အေ–ကယ်လာ၊



မစ္စဒဲလာ ဘင်နက်ထံသို့–

တာ့စ်ကန်ဘီယာ,အလာ,ဇန္နဝါရီ ၂၆ရက်၊ ၁၈၈၉ခုနှစ်

ကျမ၏ ချစ်စွာသော မစ္စ ဘင်နက်–

ဤနေ့နံနက်တွင် ရှင့်ထံသို့ စာရေးရသဖြင့် ကျမဝမ်းမြောက်မိ ပါသည်။ ကျမတို့ ယခုတွင် နံနက်စာ စားသောက်ပြီးစီးကြပါပြီ။ မင်လ်ဒရက်မှာ အောက်ထပ်၌ပြေးလွှားကစားနေပါသည်။ကျမသည်ကျမ၏စာအုပ်ဘဲ

၌ နက္ခတ်တာရာ အကြောင်းကိုဘတ်နေပါသည်။ နက္ခတ်တာရာ ဆိုသည်မှာ၊ လက်တင် စကားမှ လာပါသည်။ အင်ပွါယ်မှာ ကြယ်များအကြောင်းဘဲဖြစ်ပါသည်။ ကျမတို့အား ၎င်းတို့အကြောင်းကိုပြောပြစမ်းပါ။ ကျမတို့အိမ်ရာများပေါ်သို့ ငြိမ်ငြိမ်သက်သက် အိပ်နေကြသောအခါ သူတို့သည် လှပသာယာသည့် ကောင်းကင်ပြာကိုစောင့်ကြည့်လျက်ရှိကြသည်ကို မှန်ပြောင်းမှ မြင်ရ ပါသည်။ မှန်ပြောင်းတခုမှာ အလွန်ရှူးရှသော မျက်လုံး တလုံးနှင့်တူပါသည်။ အလွန် တရာကောင်းမွန်သော ကိရိယာတန်ဆာပလာများမပါဘဲ ကြယ်တာရာ များမှာ အလွန်ဝေးကွာကြသဖြင့်၊ ၎င်းတို့ အကြောင်းကို လူတွေသည် များများစာစား မပြောပြနိုင်ကြပါ။ ၅င်၏ ပြူတင်းပေါက်အပြင်သို့ထွက်၍ ကြယ်ကလေး များကိုကြည့်ရှုရန် မနှစ်သက်ပါလား။ ကျမတို့ပြူတင်းပေါက်မှသောကြာဂြိုဟ်ကို မြင်နိုင်သည်ဟု ဆရာမက ပြောပါသည်။ ထိုဂြိုဟ်သည် ကြီးမား၍ လှပသော ကြယ်တလုံး ဖြစ်ပါသည်။ ကြယ်များမှာ ကမ္ဘာမြေကြီး၏ညီအစ်ကို မောင်နှမများဟုခေါ်ပါသည်။

နက္ခတ်တာရာလေ့လာချက်များအပြင်၊ အလွန်တရာကြီးမားသော နက္ခတ် တာရာကြည့် ကိရိယာ တန်ဆာပလာ အများအပြားရှိပါသည်။ မောင်းချခါးတချောင်း ၅၁ ဖြတ်စရာ ကိရိယာတခု ဖြစ်သည်။ ခေါင်းလောင်း

သ ည့်လဲ ကိရိယာ တခုဟု ကျမ ထင်ပါသည်။ ခေါင်း
လောင်းများအကြောင်းကို ကျမ သိသမျှ ရှင့်ထံ ပြောပြ
လိုက်ပါမည်။

တချို့ ခေါင်းလောင်း များမှာ အသံ သာ၍၊ တချို့
ခေါင်းလောင်းများမှာ အသံမသာကြပါ။ တချို့မှာ အ
လွန်သေးငယ်၍ တချို့မှာ အလွန်ကြီးမားပါသည်။ ကျမ
သည် အလွန်ကြီးသော ခေါင်းလောင်း တလုံးကို ဗဲသေ
စလေမြို့၌ တွေ့ခဲ့ရ ပါသည်။ ထိုခေါင်းလောင်းကြီးမှာ
ဂျပန်ပြည်မှယူလာခြင်း ဖြစ်ပါသည်။ ခေါင်းလောင်းများ
မှာ အလွန်တရာအသုံးဝင်သော ပစ္စည်းများ ဖြစ်ပါသည်။
သူတို့သည် နံနက်စာ အဆင်သင့် ဖြစ်ကြောင်း၊ ကျောင်း
သွားရန်အချိန်ရောက်ကြောင်း၊ဘုရားဝတ်ကျောင်းတက်
ချိန်ကျကြောင်း၊မီးလောင်ကြောင်းများကိုသိစေပါသည်
သူတို့သည် အလုပ်သွားရန်၊အိမ်သို့ပြန်ရန်၊ အလုပ် နားရန်
ပြောပြပါသည်။ မီးရထား စက်ခေါင်း- ခေါင်းလောင်း
မှာ ခရီးသည်များအား ဘူတာရုံသို့ ရောက်လာကြောင်း
နှင့် လူများအား လမ်းဖယ် ပေးရန် အသိ ပေးပါသည်။
တခါတရံ အလွန် ကြောက်မက်ဘွယ်ရာ မတော်တဆ
များဖြစ်ပွား၍ လူများစွာမှာ မီးလောင်၊ရေနစ်၊ ဒဏ်ရာအ
နာတရ ဖြစ်ကြပါသည်။ နောက်တနေ့တွင် ကျမသည်
ကျမ ယခင်းရှစ်၏ ခေါင်းကို ချိုးဖဲ့ ပစ်လိုက် ပါသည်။
သို့ရာတွင် ထိုသို့ ဖြစ်ပျက် ခြင်းမှာ ကြောက် ဘွယ် ရာ
ကောင်းသော မတော်တဆ ဖြစ်ပျက်ခြင်းတခုတော့ မ

ဟုတ်ပါ။ အကြောင်းမှာ ယမင်းရုပ်များသည် လူများကဲ့သို့ အစာရုံခံစားခြင်း၊ အသက်ရှင်နေထိုင်နိုင်ခြင်း မရှိသောကြောင့် ဖြစ်ပါသည်။ ကျမ၏ ရုပ်ကလေးမှာ အသက်ရှင်လျက်ရှိကြပါသည်။ ကျမ၏ရုပ်ကလေးလဲ အတူတူပဲဖြစ်ပါသည်။ ကျမသည် ရုပ်စေးများနှင့်ကစားရန်နှစ်သက်ပါသည်။ ဆရာမက ကျမအား စာသေချာကျက်ရန် ယခု အချိန်ကျပြီဟု ပြောပါသည်။

ငွတ် ဘိုင်။
အချစ်များများ အနမ်းများများနှင့်
ဟဲလင် အေ-ကယ်လာ။



ဒေါက်တာ အက်ဒွပ် အဲဗရက် ဟေးလ်
တဲ့စ်ကမ်ဘီယာ, အလာဘာ,
ဖေဖော်ဝါရီလ ၂၁-ရက် ၁၈၈၉ ခုနှစ်။

ကျမ၏ချစ်စွာသော မစ္စတာဟေးလ်

ဟယ်လင်ကလေးမှာ ရှင်နှင့်တကွ ချစ်စဖွယ် ညီအမ မောင်များအားလုံးကို မေ့သွားပြီဟု ရှင့်စိတ်ထဲတွင် တွေးတောနေမည်ကို ကျမစိုးရိမ်ပါသည်။ သို့ရာတွင် ဤစာကိုရရှိလျှင် ရှင်ဝမ်းမြောက်လိမ့်မည်ဟု ကျမထင်ပါသည်။ ရှင်သည်ကျမ၏ဝမ်းကွဲအကိုတော်မို့ ကျမ, မေတ္တာကိုယူရခြင်းဖြင့်မကြာခဏရှင့်အကြောင်းများချည်းသာ တွေးတောစဉ်းစားနေမည်ကိုရှင်သိပါလိမ့်မည်ဟုကျမ

သည့် ရက်သတ္တပတ် ပေါင်းများစွာ အိမ်ခံတွင်နေထိုင်လျက်ရှိပါသည်။ ဘေ့စ်တွန်မြို့မှ ထွက် ခွါရမည်ကို ကျွန်မလွန်စွာ စိတ်မချမ်းသာပါ ကျွန်မ၏မိတ်ဆွေများအားလုံးနှင့်လည်း ကွဲကွာကြရမည် ဖြစ်ပါသည်။ သို့ရာတွင် ကျွန်မသည် ကျွန်မ၏ ချစ်မြတ်နိုးအပ်သော အိမ်ကို တကြိမ်ထပ်၍ပြန်ရောက်ရတော့မည့်ကြောင့် ဝမ်းမြောက်ပါသည်။ ကျွန်မ၏ ချစ်စရာညီမကလေးမှာ အထွား မြင့်လှပါသည်။ တခါတရံ ညီမလေးသည် အသွန်တိုသော စာလုံးများကို သူမ၏ လက်ချောင်း ကသေး များနှင့် စာလုံးပေါင်းရန် ကြိုးစားသော်လည်း ခက်ခဲသောစာလုံးများကို မှတ်မိရန် အလွန်တရာ ငယ်ရွယ်လှပါသေးသည်။ ညီမလေး ကြီးပြင်းလာ၍ ကျွန်မစကားကို နားထောင်ကာ သီးခံမှုရှိလျှင် ကျွန်မ သူမအား အကြောင်းအရာမျိုးစုံ သင်ပြပေးမည် ဖြစ်ပါသည်။ ကလေးငယ်များမှာ ငယ်စဉ်ကထဲကနူးညွှံ့သိမ်မွေ့၍ သီးခံမှုရှိစေရန် သင်ကြားပေးရမည်ဟု ကျွန်မဆရာမက ပြောပြပါသည်။ သူတို့သည် ကြီးပြင်းလာကြ၍၊ အပျိုကြီး လူပျိုကြီး ဖါးဖါး ဖြစ်ကြ စေကာမူ၊ ကြွင်နာမှု၊ ချစ်ခင်လေးစားမှု၊ ရဲရင့်မှုများ အထုံစွဲမြဲလာရန် မေ့ပျောက်ကြလိမ့်မည်မဟုတ်ပါ။ ကျွန်မသည် အမြဲတစေ အားတက်သရောနှင့်သူရသတ္တိရှိလာမည်ဟု မြော်လင့်ပါသည်။ ဝဋ္ဋုထဲကမိန်းကလေးတယောက်မှာ ရဲရင့်ခြင်းမရှိပါ။ သူမသည် လမ်းကြားကလေးများနှင့် ရှိုပုဘ်များကြားမှချောင်းကြည့်နေသည့် ဦးထုပ်ချွန်များဆောင်း

ထားသော တစ္ဆေများကိုသာ မြင်ယောင်၍ တွေးတော စဉ်းစားခဲ့ပါသည်။ သနားစရာကောင်းသော မိန်းကလေး များ ကြောက်ရွံ့တုံလှုပ် နေရှာပါသည်။ နှစ်သစ်ကူးပွဲ တော်မှာ ရှင်ပျော်ခဲ့ပြီမဟုတ်လား။ ကျွမထံသို့ လှပသော လက်ဆောင်များ ပေးပို့ကြပါသည်။တနေ့ကကျွမပါတီ တခုပေးပါသည်။ ကျွမ၏ချစ်ခွာသော မိတ်ဆွေများအား လုံးကျွမနှင့်တွေ့ရန်လာကြပါသည်။ ကျွမတို့သည်ကစား ကြ၊ ရေခဲမုန့်၊ ကိတ်မုန့်၊ သစ်သီးများ စားကြခြင်းဖြင့် အလွန်တရာ ပျော်ရွှင်ကြပါသည်၊ ယနေ့နေသည် ထွန်း လင်းတောက်ပစွာသောသဖြင့် လမ်းများခြောက်သွေ့လျှင် ကျွမတို့ မြင်းစီးကြရန် သွားကြရဘို့ မြော်လင့်ပါသည်။ ရက်အနည်းငယ်အတွင်း ကြည်နူးဘွယ် မိုးဦးကျကာ လ ရောက်လာပါလိမ့်မည်။ ကျွမသည် မွှေးကြိုင်သော ပန်းများနှင့် ပူနွေးသော နေရောင်ခြည်ကို ချစ်မြတ်နိုးသ ဖြင့် အလွန်တရာ ပျော်ရွှင်ပါသည်။ ပန်းများ ပေါက် ရောက်လာသည်မှာ လူများကို ပျော်ပျော်ရွှင်ရွှင်နှင့် စိတ်ချမ်းသာလာအောင် ပြုလုပ်ပေးခြင်းဟု ကျွမထင်ပါ သည်။ ယခုကျွမတွင် ယမင်းရုပ် ကလေး တရုပ် ရှိပါ သည်၊ စီဒချစ်မှာ ကျွမ၏ လူငယ်ကလေး ဖြစ်၍ သူ့ကို 'သေ့ဒ် ဖေါ်င့်တ်လေရိုင်'ဟုအမည်မှည့်ထားပါသည်။ သူ့တွင် မျက်လုံးညိုကြီးများ၊ ရွှေရောင် ဆံပင်ရှည်များ နှင့် လှပသောပါးစုံ့များထွက်လျက် ရှိပါသည်။ အိုင်ဒါ မှာ ကျွမ၏ မိန်းကလေးဖြစ်ပါသည်။ အမျိုးသမီးကြီး တ

ယောက်သည် ပဲရစ်မြို့မှ သူမကိုယူခဲ့၍ ကျွန်မအားပေး ခြင်းဖြစ်ပါသည်။ သူမသည် တကယ့်ကလေးမ အစစ် ကဲ့သို့ နို့ကိုသောက်နိုင်ပါသည်။လူစီမှာ လှပသော အမျိုး ကလေးတယောက် ဖြစ်ပါသည်။ သူမသည် သိုက်မြိုက် သော ဇာပေါက်ဂါဝန်နှင့် ပဲကြိုးဘိနပ်ကို ဆင်ယင်ထား ပါသည်။ သနားစရာကောင်းသော နင်စီကြီးမှာ အသက် အရွယ်အိုမင်းမစွမ်း ဖြစ်၍ အလွန်တရာအားနည်း ချိနဲ့နေ ပါသည်။ သူမအား အငြိမ်းစား ပေးသင့်သူ တယောက် နီးနီးဖြစ်နေပါသည်၊ ကျွန်မတွင် ခိုယဉ်ကလေးနှစ်ကောင် နှင့် သေးငယ်သော ကနေရီ စာငှက်ကလေး တကောင် ရှိပါသည်၊ ခွေးကြီးချမ်ဘိုမှာ အလွန်သန်မာ၍သစ္စာရှိပါ သည်။ သူသည်ညအခါ၌ ကျွန်မတို့အား တဦးတယောက် ၏ ဘေးအန္တရာယ် ပြုခြင်းကိုမျှ ခွင့်ပြုမည် မဟုတ်ပါ။ ကျွန်မ ကျောင်းသို့ နေ့တိုင်းသွားပါသည်။ ကျွန်မသည် စာ ရေး စာဘတ် ဂဏန်းတွက် ပထဝီလေ့ကျက် ဘာသာ စုံ သင်ခြင်းဖြင့် ကြိုးစား သင်ကြား နေပါသည်။ ကျွန်မ မေမေရော၊ ဆရာမတို့ကပါ ရှင်နှင့် မစ္စတာဟေးလ်အား ဆုတောင်းပတ္ထနာ ပြုကြောင်း မင်္ဂလာဒချက်ကလဲ ရှင့်ကို နှုတ်ခွန်းနှင့်တကြိမ်ထိ၍ နှုတ်ဆက်လိုက်ကြောင်းစာရေး ရန် ကျွန်မအားတိုက်တွန်းကြပါသည်။

အကြိမ်ကြိမ်နှုတ်ခွန်းခြင်းထိ၍ ချစ်မြတ်နိုးစွာနှုတ်ဆက်သူ

ရှင်၏ချစ်စွာသော ညီမလေး

ဟယ်လင် အေ-ကယ်လာ

ဆောင်းရာသီအတွင်း မစ္စဆူလီဗင်နှင့် သူမ၏တပည့်တို့သည် တဲ့စ်ကမ်ဘီယာရှိ ဟယ်လင်၏အိမ်၌ မျှော်မှန်းချက်ကြီးများဖြင့် အလုပ်လုပ်နေကြပေသည်။ မိုဃ်းဦးကျ၌ဟယ်လင်သည် အင်္ဂလိပ်ဒေါ်ဘာရ ရေးသားနည်းများကိုသင်ကြားသည်။ ၁၈၈၉-ခုနှစ်။ မေလကုန်လွန်ခဲ့သည်နောက် ကျွန်ုပ်သည် ယယ်လင်အား မတော်တဆ ခဲတန်ချော်ကျခြင်းမှတပါး တစုံတရာ အဆင်မပြေမှုကို မတွေ့ရသလောက် ဖြစ်ပါသည်။ သူမသည် လှသော ဝါကျများ စာစီစာကုံးများကို စာလုံးတိုင်း ချောမွေ့ ပြေပြစ်စွာ ရေးသားနိုင်လာပေတော့သည်။



မစ္စတာ မစ် းဗီးယလ် အနက်စ်နေ့စ် ထံသို့

တဲ့စ်ကမ်ဘီယာ,အလာ,

မေလ ၁၈-ရက်။ ၁၈၈၉ ခုနှစ်။

ကျမ၏ချစ်စွာသော အနက်စ်နေ့စ်

လွန်ခဲ့သောညနေခင်းတွင် ရှင့်ထံမှ စာဘစောင်ကျမ ရရှိခြင်းဖြင့် အဘယ်မျှလောက် ပျော်ရွှင်မည်ကို ရှင်စဉ်းစားကြည့်နိုင်မည် မဟုတ်ပါ။ ရှင်ဝေးကွာသော နေရာတွင် ရောက်ရှိနေ၍ ကျမလွန်စွာဝမ်းနည်းပါသည်။ ကျမတို့ရှင်နဲ့လွဲကြရသည်မှာ ကောင်တော်များနေပါပြီ။ ကျမ ရှင်နှင့်အတူ လှပသော မြို့ကြီးများသို့ အလည်အပါတ်

သွားရန်မြတ်နိုးပါသည်။ ကျမ ဟောင့် တ် စ် ဗင်းလီတွင် ရှိနေစဉ်က ဒေါက်ဘာ ဘရိုင်းဆန်နှင့် တွေ့ခဲ့ပါသည်။ သူသည် လန်ဒန်မြို့၊ ပဲရစ်မြို့။ အေသင်မြို့၊ ရောမမြို့များသို့ ရောက်ခဲ့ဘူးကြောင်းကို ကျမအား ပြောပြလိုက်ပါသည်၊ သူသည် ဆွစ်ဇာလန်ပြည်၌၊ မြင့်မားသော တောင်တန်းကြီးပေါ်တက်၍ ဣတလီပြည်နှင့် ပြင်သစ်ပြည်တို့တွင် လှပသည့် ဘုရား ရှိခိုးကျောင်းများသို့ အလည် အပတ်သွားခဲ့ပါသည်။ သူသည် ရှေးဟောင်း ရဲတိုက်ကြီးများကိုမြင်ခဲ့ပါသည်။ ရှင်လည်ပတ်ခဲ့ဘူးသော မြို့ကြီးများအကြောင်းကို ကျမထံကျေးဇူးပြု၍ စာရေးလိမ့်မည်ဟု ကျမမြော်လင့်ပါသည်။ ဟော်လန်ပြည်သို့ ရှင်သွားလျှင် ကျမမေတ္တာကို ကျေးဇူးပြု၍ ချစ်စရာကောင်းသော မင်းသမီးကလေး 'ဝင်လ်ဟဲလ်မီနာ' သို့ တဆင့်ပေးကမ်းစေလိုပါသည်။ သူမသည် နှစ်သက်ဘွယ်ရာမိန်းကလေး တယောက်ဖြစ်၍၊ သူမကြီးပြင်းလာလျှင်၊ ဟော်လန်ပြည်၏ ဘုရင်မ ဖြစ်လာပါလိမ့်မည်။ အကယ်၍ ရှင်-ရှုမေနီယားပြည်သို့ သွားဖြစ်လျှင်လည်း ကောင်းမြတ်လှသော ဘုရင်မ အဲလီဇဘက်အား သူမ၏အငြိမ်းစားမောင်တော်ကလေးအကြောင်းကို ကျမက မေးမြန်းလိုက်ကြောင်းနှင့် သူမ၏ချစ်စဘွယ် သွီးငယ်ကလေး အနိစ္စ ရောက်သဖြင့် ကျမမှာ အလွန်တရာ ဝမ်းနည်းကြောင်းကို ကျေးဇူးပြု၍ ပြောပေးစေလိုပါသည်။ ကျမသည် နေပဲလ်စ်မှ မင်းသားကလေး ဗွစ်တိုရိယိုထံသို့ နှုတ်ခွန်းတကြိမ်ဆိုး၍ မေတ္တာပို့

မျှ ကျွေးပြောင်းမှာလိုပါသေးသည်သို့ရာတွင်မှာစရာတွေ့ ဘုံးလွန်းလျှင် ရှင်သာဘိမ ့မည်ကိုပိုးရိမ်ရသည်ဟု ဆရာ မကပြောပါသည်။ ကျွန်မ(၁၃)နှစ်သမီးအရွယ် ရောက်လာ လျှင် ၎င်းတို့ထံသို့ ကျွန်မကိုယ်တိုင် အလည်အပါတ်သွား ပါဦးမည်။

လော့ဒ်ဖေါင့်တ် လေရှိ ဝတ္ထုကောင်းတပုဒ်ကိုရှင်ပို့ လိုက်ပြီးဆရာမကဘတ်ပြသဖြင့် ရှင့်ကိုကျွန်မလွန်စွာကျေး ဇူးတင်လှပါသည်။

ဤနှစ်ဆွေရာသီဘွင် အိ္မသို့ပါသည် ကျွန်မနှင့်တူဘူနေလာ မည်မို့ ကျွန်မအလွန် ဝမ်းသာမိပါသည်။ ကျွန်မတို့အတူတ ကွ သာယာသောအချိန်များကို ဖြုံးတီးကြရမည် ဖြစ်ပါ သည်။ ကျွန်မမေ့ဘ္ဘာကို ပောင်းဝတ်ထံပို့၍ ကျွန်မစာကို ဖြန့်ကြားရန် သူ့အား ပြောပြပါ။ ကြာသ ပတေး နေ့က ကျွန်မတို့ပျော်ပွဲစား ထွက်ခဲ့ကြပါသည်။ တောရိပ်တောင် ရိပ်များအောက်ဝယ် အလွန်သာယာပါသည်။ ကျွန်မတို့ အားလုံး ပျော်ပွဲစားထွက်ခဲ့ကြခြင်း၌၊ အလွန်တရာ ပျော် ရွှင်ကြရပါသည်။

မင် လ်ဒရက်မှာ ကွင်းပြင်ထဲ၌ ကစားနေပါသည်။ မေမေက အလွန်အရသာရှိသော စထရော်ဘယ်ရီး-သီးများ ကို ဆွတ်ခူးနေပါသည်။ ဖေဖေနှင့် ဦးလေး ဖရင့်စ်တို့က မြို့အောက်ဘက်ဆီသို့ ဆင်းသွားကြပါသည်။ စင်ဆန် မှာ မကြာမှီ အိမ်သို့ ရောက်လာပါသည်။ ပောင့်တ် စ်

ဇင်းလီးတွင် ကျမတို့ရှိနေကြစဉ်၊ မင်လိဒချက်နှင့် ကျမ ဓါတ်ပုံရိုက်ကြပါသည်။ ရှင့်ထံသို့တပုံ ပို့လိုက်ပါမည်။

နှင်းဆီပန်းများမှာ လှပစွာ ပွင့်အာနေကြ ပါသည်။ မေမေတွင် အလွန်လှပသောနှင်းဆီပန်းများ ရှိပါသည်။ လာဖရင့်စ်နှင့် လာမာကွစ် နှင်းဆီပန်းမျိုးမှာ အမွှေးဆုံး ဖြစ်ပါသည်။သို့ရာတွင် မာရီချယ်လ်နေးလ်၊ ဆော်လ်ဖက် တာရီ၊ ဂျက်ကွင်းမိနော့တ်၊ နီဗိုရော့တ်၊ အိတ္တုိင်လ်ဒ် လိုင်ယွန်၊ ပါပါဂွန်တီယာ၊ ဂါဗရီယယ်လီ ဒရေးဗက်တ် နှင့် ပါလေဒက်စ် ဂျာဒိုင်းစ်၊ စသော နှင်းဆီးပန်းမျိုးများ မှာလည်း အားလုံးနှစ်သက်ဘွယ်ရာချည့် ဖြစ်ပါသည်။

ငယ်ရွယ်သော ယောကျ်ားကလေး၊ မိန်းကလေးများ ကိုကျေးဇူးပြု၍ ကျမမေတ္တာပို့လိုက်ကြောင်း အသိပေး စေလိုပါသည်။ ကျမသည် သူတို့အကြောင်းကို နေ့တိုင်း စဉ်းစား၍ သူတို့အားအသဲစွဲမျှချစ်ခင်မြတ်နိုးလျက် ရှိပါ သည်။ဥရောပတိုက်မှ အိမ်သို့ရှင်ပြန်လာလျှင် ရှင်တို့အား လုံး ချောချောမောမော ကျန်းကျန်းမာမာ ပျော်ပျော် ရွှင် ရွှင်ရောက်ကြပါစေဟု ကျမမြှော်လင့်လျက်ရှိပါသည်။ ကျမ၏ ချစ်မေတ္တာကို မစ္စကာလီယိုဗ် ကေဟေယဲယား နှင့် မစ္စတာဖရင့်စစ် ဒက်မီထရိုက်စ် ကာလိုပိုသာကီး တို့ ထံ ပေးပို့ရန် မမေ့ပါနှင့်ရှင့်–

ချစ်လှစွာသော ရှင်၏မိတ်ဆွေမကလေး

ဟယ်လင်–အေဒမ်စ် ကယ်လာ

ဟယ်လင်ကယ်လာ၏ စာစောင်းပိုင်း စာကောင်းများ ကဲ့သို့ ဤစာမှာသူမ၏ ပြင်သစ်ဘာသာပြ ဆရာမက သူမ အား ဝတ္ထုတပုဒ်ကို ပြန်လည်၍ ဝါကျစီကုန်းခြင်း အ ကြောင်း ရေးသားခြင်းဖြစ်ပါသည်။ ထိုစာမှာ စာစော ပိုင်း စာရေးသင်စ အချိန်ကထက် အဘယ်မျှ တိုးတက် ကောင်းမွန်ချောမောစွာ ရေးသား တတ်လာကြောင်း အ ကျိုးတရားကို ဖော်ပြလိုက်ခြင်း ဖြစ်ပါသည်။

နွေရာသီအတွင်းကမစ္စတိုလီဗင်သည်သုံးလခွဲမျှ ဟယ် လင်ထံမှ ခွဲခွါခဲ့လေသည်။ ဆရာမနှင့် တပည့်မတို့ ပဌမ ဦးဆုံး ခွဲခွါကြခြင်းဖြစ်ပေသည်။ အသက် ၁၅ နှစ်အချိန် ရောက်ရှိလာသောအခါ သူတို့၏ ခွဲမြဲစွာ ဆက်ဆန်လာခဲ့ ကြသည့် ပေါင်းသင်းခြင်းကား ကွေ ကွင်း နောက်ဆုံး ဖြစ်ရပေတော့သည်။

မစ္စအင်နီမင်းလ် ဆူလီဗင်ထံသို့
တဲ့စ်ကမ်ဘီယာ,အလာ၊ဩဂုတ်လ ၇ ရက်၊ ၁ ၈ ၈ ၉ ခုနှစ်
အချစ်ဆုံးဆရာမရှင့်....

ဤနေ့ညနေခင်းတွင် ရှင့်ထံသို့ စာရေးရသဖြင့် အလွန် တရာ ကျမပျော်မွှင်နေပါသည်။ တနေ့လုံးလုံး ဆရာမ အကြောင်းကိုဘဲ ကျမ စဉ်းစားနေခဲ့ပါသည်။ ကျမသည် အမိုးရှိသည့် စကြံနံထဲတွင် ထိုင်နေပါသည်။ ကျမ၏ခို ဖြူကလေးမှာ ကျမစာရေးနေသည်ကို စောင့်ရင်း ကျမ ၏ ကုလားထိုင်နောက်မှီပေါ်တွင် နားလျက် ရှိပါသည်။

သူ့ခေါင်းအပေါ် ခိုညိုကလေးမှာ အခြားငှက်များနှင့် တခြားသို့ ပြန်သွားပါသည်။ သို့ပေမဲ့ အင်နီက မညှိုးငယ်ပါ။ အဘယ်ကြောင့်ဆိုသော် သူမသည် ကျမနှင့်အတူ နေထိုင်ရန် နှစ်သက်ခြင်းကြောင့် ဖြစ်ပါသည်။ ဖေါင့်တ်လေရိုင်မှာအထက်ထပ်တွင်အိပ်နေ၍ နင်စီမှာလူစီကိုအိပ်ရာပေါ်တွင် သိပ်နေပါသည်။ တစာစာ တွန်ကြူး နေသည့်ငှက်ကလေး၏ သီဆိုသံက သူတို့တတွေအား သိပ်သလို ဖြစ်ကောင်းဖြစ်ပါလိမ့်မည်။ ယခုအချိန်၌ ပန်းများအားလုံးမှာ လှပစွာ ပွင့်နေကြပါသည်။ လေညှင်းသည် နှင်းဆီ စပါယ်ပန်းများ၏ မွှေးကြူသောယနံ့ကိုသယ်ယူလာပါသည်။ ဤနေရာတွင် ယခုအချိန်၌ ပူနွေးလာသဖြင့် ဖေဖေက ဩဂုတ်လ ၂၀ရက်နေ့လောက်ကို ကျမတို့အား 'ကွာရီ' စခန်းသို့ ခေါ်သွားဘို့ စီစဉ်နေပါသည်။ ကျမတို့သည် ပျော်မွေ့ဘွယ်ရာကောင်းသော သစ်တောများထဲဝယ် အေးချမ်းသာယာသည့်ချစ်စဘွယ်အချိန်ကောင်း တချိန် ရရှိကြလိမ့်မည်ဟု ကျမထင်ပါသည်။ ကျမတို့ တောထဲတွင် ပြုလုပ်ခဲ့ကြသော ပျော်ရွှင်ဘွယ်ရာ အားလုံးကို ရှင့်ထံသို့ ကျမစာရေးပို့ပါမည်။ လက်စတာနှင့် ဟင်နရီတို့မှာ ငယ်ရွယ်သော ကလေးကောင်း ကလေးများ ဖြစ်ကြသဖြင့်၊ ကျမအလွန်ပင် ဝမ်းမြောက်ပါသည် ကျမက ချစ်ကြည် နှစ်ချိုက်စွာ နှုတ်ခွန်း ဆက်လိုက်ကြောင်းကို သူတို့ထံ ပြောပေးပါရှင့်။

လှပသောကြယ်ပွင့်ကို စွဲလန်းချစ်ခင်နေရှာသည့် လူ

ငယ်ကလေး၏ နာမည်မှာ ဘယ်လိုခေါ်ပါသလဲ၊ အိဗွာ ဖဲဒိခေါ်သော ချစ်စဖွယ် မိန်းကလေးတယောက် အကြောင်းကိုဒေါ်ဘာပုန်ထဲ၌ ဘတ်၍ ကျမကိုပြောပြနေပါသည်။ ကျေးဇူးပြု၍ ထိုစာအုပ်ကို ကျမထံ ရှင်ပို့ပေးပါမည်လား၊ လက်နှိပ်စက်တလုံး ရရှိထားသဖြင့် ကျမများစွာ ပျော်ရွှင်နေပါသည်။

အာသာကလေးလဲ အလွန်ထွားကြိုင်းလာပါပြီ၊ သူ့မှာ ယခုအင်္ကျီတိုတစုံ ရှိထားပါသည်၊ မကြာမီ သူလမ်းလျှောက် လိမ့်မည်ဟု ညီမဝမ်းကွဲ လိုင်လာက ထင်ပါသည်၊ ထိုနောက် ကျမသည် သူ၏ပျော့ပြောင်းသော ဝဝတုတ်တုတ် လက်ကလေးကို ဆွဲလျက် နေရောင်ခြည်တောက်ပသည့် အပြင်ဘက်သို့ ထွက်ခဲ့ပါသည်။ သူသည် အကြီးဆုံးနှင်းဆီပန်းများကို ဆွဲကိုင်လျက် အလှပဆုံး လိပ်ပြာများနောက်သို့ ပြေးလိုက်မည်ဘဲ ဖြစ်ပါသည်။ ကျမသူ့ကို အထူးသဖြင့် ဂရုယူထား၍ ကောင်းကောင်း စောင့်ရှောက်ရပါမည်။ သူ့ကိုယ်သူ နာကျင်မှုမဖြစ်ရန် အမြင့်မှလိမ့်မကျစေရန် တို့ဖြစ်ပါသည်။ ဖေဖေနှင့် တခြားလူကြီးလူကောင်းမိတ်ဆွေများသည် မနေ့က တောပစ် ထွက်သွားခဲ့ကြပါသည်။ ဖေဖေက ၄က် ၃၈ ကောင် ပစ်ခဲ့ပါသည်။ ကျမတို့ ၎င်းတို့ကို ညလည်စာအတွက် ချက်ပြုတ် စားသောက်ကြရာ အလွန်အရသာကောင်း ပါသည်၊ လွန်ခဲ့သော တနင်းလာနေ့က စင်ဆန်

သည် လှပသည့် ကြိုးကြာတကောင်ကို ပစ်ခဲ့ပါသည်၊ ကြိုးကြာမှာ ကြီးလဲကြီး သန်လည်းသန်မာသော ငှက်တကောင်ဖြစ်ပါသည်။ သူ့အတောင်များမှာ ကျမလက်မောင်းလောက် ရှည်ပါသည်၊ သူ့နှုတ်သီးမှာ ကျမခြေဖြားလောက် ရှည်ပါသည်။ သူသည်ငါးကလေးများနှင့် အခြားတိရစ္ဆာန်ကောင်ငယ်ကလေးများကို စားပါသည့် သူသည် တနေ့လုံးလောက်နီးနီး မရပ်မနား ပျံသန်းနိုင်သည်ဟု ဖေဖေက ပြောပါသည်၊

မင်လ်ဒရက်မှာ ကဏ္ဍာပေါ်တွင် ချစ်စရာအကောင်းဆုံးနှင့် အချိုသာ အရွှင်ပြဆုံး အမျိုးသမီးကလေး ဖြစ်ပါသည်။ သူမသည် အလွန်တရာ စိတ်ထက်သူ ကလေးလဲ ဖြစ်ပါသည်။ တခါတရံ၊ မေမေက ထိုအကြောင်းကို မသိမသာမျက်နှာလွှဲလိုက်လျှင်၊သူမသည် စပျစ်ခြံထဲသို့ ထွက်သွားခါ သူမ၏သွားရည်ခံ ရင်ဖုံးအဝတ်နှင့်အပြည့် အလွန်အရသာရှိသော စပျစ်သီးများကိုဆွတ်ခူးပါတော့သည်။ သူမသည် သူမ၏ ပြေ့ပျောင်းသောလက်မောင်းနှစ်ဘက်နှင့် ရှင့်လည်ပင်းကိုပွေ့ဖက်၍နေလိုလိမ့်မည်ဟု ကျမထင်ပါသည်၊

တနင်္ဂနွေနေ့တွင် ကျမတို့ ဘုရားဝတ်ကျောင်းသို့ သွားကြပါသည်၊ ကျမ၏ မိတ်ဆွေ များနှင့် တွေ့ရမည့်ကြောင့် ဘုရားဝတ်ကျောင်းသို့ သွားရန် ကျမ နှစ်သက်မြတ်နိုးလှပါသည်၊

လူကြီးလူကောင်းတဦးက ကျမအား လှပသော ကပ်ပြားကလေးတခုပေးပါသည်။ လှပသောစခါးချောင်းတခု အနီးက စက်ရုံတရုံ၏ပုံတပုံဖြစ်ပါသည်။ လှေတစင်းမှာ ရေပေါ်တွင်ပေါ်လောမျောလျက် လှေကလေး ပတ်ပတ်လည်တွင် လှပသည့် ကြာပွင့်များ ဝိုင်းရံလျက် ရှိသည်။ စက်ရုံနှင့်မနီးမဝေး၌ အိမ်အိုကြီးတလုံးရှိပါသည်။အိမ်အိုကြီး အနီးတွင် သစ်ပင်များ ထူထပ်စွာ ပေါက်ရောက်လျက်ရှိသည်။ အိမ်အမိုးပေါ်တွင် ရှိုရှစ်ကောင်နားလျက် လှေခါးထက်ဝယ် ခွေးကြီးတကောင်ရှိပါသည်။ ပါးလိုသည် ယခုအချိန်၌ လွန်စွာ ဂုဏ်မောက်သော ခွေးမကြီးတကောင်ဖြစ်သည်။ သူမတွင်ခွေးကလေး ရှစ်ကောင်ရှိ၍ သူမ၏ခွေးကလေးများကဲ့သို့တခြားလှပသောခွေးကလေးများမရှိတော့ဟု သူမက တွေးထင်သည်။

ကျမသည် နေ့တိုင်း စာအုပ်များကိုဖတ်လျက် ရှိပါသည်။ ကျမသည် စာပေဖတ်ရှုခြင်းကို အလွန့်-အလွန် လွန်စွာဘဲ ချစ်မြတ်နိုးပါသည်။ ကျမထံသို့ မကြာခဏ် ရှင်ပြန်လာစေချင်ပါသည်။ ကျမ ရှင်နှင့် ခွဲခွါနေရသည်မှာ အလွန့်အလွန်ကြာညောင်းခဲ့ပါပြီ။ ကျမ၏ချစ်သွစွာသော ဆရာမ သည်နေရာတွင်မရှိသဖြင့်အကြောင်းအရာပေါင်းများစွာပင် ကျမ မသိနိုင်တော့ပါ။ ကျမပြောပြနိုင်သည်ထက် အကြိမ်ပေါင်း ငါးထောင် နှုတ်ခမ်းတော့၍ နှုတ်ခွန်း ဆက်သ လိုက်ကြောင်းကို ရှင့်ထံသို့ ကျမ ပို့ပါ

သည်။ မစ္စက် အိဝ်၍ သို့လည်းအချစ်များများနှင့်နှုတ်ခွန်းဆက်သလိုက်ပါသည်ရှင့်။

ရှင်၏ချစ်မြတ်နိုးဘွယ် တပည့်မကလေး
ဟဲလင် အေ ကယ်လာ။

နောက်များမကြာမီ၊ဟယ်လင်နှင့်မစ္စဆူလီဗင်တို့သည် ဘော့စ်တွန် ဘောင်ပိုင်းရှိ ပါကင်စ် စာသင်ကျောင်းသို့ ပြန်လည်ရောက်ရှိလာကြပေသည်။

မစ္စတာ ပီလျံ ဝိတ်ဒ် ထံသို့
တောင်ပိုင်း ဘော့စ်တွန်, မတ်စ်
နိုဝင်ဘာလ ၂၀ ရက်နေ့၊ ၁၈၈၉ ခုနှစ်။

ကျွန်မ၏ချစ်စွာသော မစ္စတာ ဝိတ်ဒ်–

ယခုပင်ကျွန်မထံသို့ မေမေပေးလိုက်သောစာတစောင်ကိုရရှိပါသည်။ ရှင်ကျွန်မထံပို့လိုက်သောလှပထွားကြိုင်းသည့် ခွေးကလေးတကောင် ဘော့စ်ကမ်ဘီယာသို့ ချောချော မောမော ရောက်ရှိခဲ့ကြောင်းကို စာထဲတွင် ဖေါ်ပြလိုက်ပါသည်။လက်ဆောင်ကောင်းအတွက် ကျွန်မရှင့်ကို အထူး ကျေးဇူး တင် ပါသည်။ ကျွန်မ အိမ်တွင်မရှိသဖြင့် ခွေးကလေးကို ဆီးကြိုခွင့်မရသည်ကိုပင် ကျွန်မဝမ်းနည်းမိပါသည်။ သို့ရာတွင် ခွေးကလေး၏ သခင်မ မရှိစေကာမူ၊ ကျွန်မ မေမေနှင့်ညီမလေးတို့က အလွန်တရာ ကြင်နာစွာ ယုယ စောင့်ရှောက်ကြမည်ဖြစ်ပါသည်။ ခွေးကလေးတကောင်ထဲ မဟုတ်၍ ပျင်းရိ ငြီးငွေ့ မနေပါစေနှင့်ဟု

ကျမမြှော်လင့်ပါသည်။ မိန်းကလေးငယ်များကဲ့သို့ ခွေး ကလေးများသည်လဲလွန်စွာအိမ်လွမ်းတတ်သည်ဟု ကျမ ထင်ပါသည်။ ၅င့်ခွေးအတွက်၊ ကျမ ခြသေ့်မ ဟု အမည် ပေးချင်ပါသည်။ ကျမပေးနိုင် ပါသလား။ ခွေးကလေး သည် ရဲလည်း ရဲရင့်-သစ္စာလည်း ရှိမည်ဟု ကျမ မြှော် လင့်ပါသည်။

ကျမသည်ကျမ၏ချစ်စွာသောဆရာမနှင့်အတူ ဘော့စ် တွန်မြို့တွင် ပညာသင်ကြားလျက်ရှိပါသည်။ကျမသည် ကြီးကြီးကျယ်ကျယ် အံ့ဘွယ်ရာရာ အသစ် အဆန်း များ ကို သင်ကြားခဲ့ပါသည်။ ကျမသည် ကမ္ဘာမြေကြီး အ ကြောင်း၊ တိရစ္ဆာန်များ အကြောင်းတို့ကို လေ့လာပါ သည်။ ဂဏန်းသင်္ချာကိုလည်း တိုးတက်၍ သင်ကြားခြင်း ၌ နှစ်ချိုက်လှပါသည်။ စာလုံးသစ်များကိုလဲမြောက်များ စွာ သင်ကြားခဲ့ပါသည်။မနေ့က တမျိုးတိုး၍သင်ကြားခဲ့ ပါသည်။ ကျမခြသေ့်မနှင့် တွေ့ရလျှင် အကြီးအကျယ် အံ့သြသွားအောင် အရာခပ်သိမ်း သူမကို ကျမပြောပြပါ မည်။ သူမသည် ကြောရိုးရှည်၍ နို့စို့ရွယ်ကလေးဖြစ်ပြီး ခြေလေးချောင်း သတ္တဝါတကောင်မို့ ကျမ ပြောလျှင် ရယ်လိမ့်မည်ထင်ပါသည်။ သူမသည်တိရစ္ဆာန်တို့ ဘာ သာဘာဝ စကားကိုသာ နားလည်သဖြင့် ကျမ သူမနှင့် စကားပြောရန် ခက်ခဲပါမည်။ ကျမ ခြသေ့်မအား ပြင် သစ်စကားပြော၍ သူမကိုခေါ်ပါမည်။ ခြသေ့်မကိုကျမ

ကောင်းကောင်းဂရုစိုက်၍စောင့်ရှောက်မည့်ဖြစ်ကြောင်း ခြသေ့်ကြီးကို ပြောပြပါ။ ရှင့်ထံမှ စာတစောင် ရလျှင် ကျမ ပျော် ရွှင်မည့်ဖြစ်ပါသည်။ ရှင်ကျမထံသို့ ဘယ်အချိန် စာရေးလိုက်ပါမည့်လဲ။

ရှင်၏ချစ်မြတ်နိုးအပ်သော မိတ်ဆွေမကလေး
ဟယ်လင် အေ ကယ်လာ

အထူး....ကျမသည် မျက်မမြင် စာသင်ကျောင်းတွင် ပညာသင်ကြားနေခြင်းဖြစ်ပါသည်။

အိပ်ချ်–အေ–ကေ။

ဤစာတွင် ဗစ်တိယာ၏လက်ရေးနှင့် 'ဟယ်လင်အေ ကယ်လာ နားမကြား ဆွံ့အ မျက်မမြင်ကလေး အသက် ၈–နှစ် 'ဟု မှတ်ချက် ရေးသား ထားပါသည်။ 'အညို ' ရောင်ခဲဲ့သည်မှာ 'အညိုရောင် မျက်လုံးများ ' ကိုရေး ရန် ခဲတန်က ခုံကျော်သွားခြင်းကြောင့် ဖြစ်ပါသည်။

ဝှန်ဂရိုင်းသိဗ် ဗစ်တိယား ထံသို့
မျက်မမြင်ကျောင်း ဘော့စ်တွန်,မတ်စ်
နိုဝင်ဘာလ ၂၄ ရက်နေ့၊ ၁၈၈၈–ခုနှစ်။

ချစ်စွာသော ကဗျာ လက်ာဆရာ–

ရှင်မသိဘူးသော မိန်းကလေးတယောက်ထံမှ စာတစောင် ရောက်ရှိလာခြင်းကို ရှင် အံ့ဩ သွားသိမ့်မည်ဟု ကျမထင်ပါသည်၊ သို့ရာတွင် ရှင်၏ ချစ်စဖွယ်ကဗျာ လက်ာများမှာ ကျမအား လွန်စွာ ပျော်ရွှင်စေကြောင်း ကြားသိရလျှင် ရှင်ဝမ်းသာမိမည်ဟု ကျမ တွေးမိပါ

သည်။ မနေ့ကကျွန်မသည် ' ကျောင်းတက်ရက်များ၀ယ် ' နှင့် ' ကျွန်ုပ်၏ ကစားဖော် ' ကဗျာ နှစ်ပုဒ်ကို ဘတ်ရသဖြင့် အကြီးအကျယ် ၀မ်းမြောက် ကြည်နူး မိ ပါသည်။ မျက်လုံးညိုများနှင့် ရွှေရောင် ဆံပင်ကောက်များ ရှိသည့် သနားစရာကောင်းသော မိန်းကလေး သေဆုံးသွားသည့်အကြောင့် ကျွန်မလွန်စွာ၀မ်းနည်းပါသည်။ ကျွန်မတို့၏ လှပသော ကန္တာကြီး၀ယ် ၍နေရာ၌ နေထိုင်ရခြင်း အတွက် လွန်စွာစိတ်ကြည်နူးမှု ရရှိခဲ့ပါသည်။ ကျွန်မ၏ မျက်လုံးများနှင့် ချစ်စဖွယ် ကောင်းသောအရာ၀ထ္ထုများကို ကျွန်မ မမြင်နိုင်ပါ၊ သို့ရာတွင် ကျွန်မစိတ်ကမူ၊ အားလုံးကိုဘဲမြင်နိုင်သဖြင့် ရှည်လျားလှသည့် နေ့ရက်များ၀ယ် ကျွန်မ ပျော် ရွှင်ခြင်း ဖြစ်ပါသည်။

ကျွန်မ၏ ဥယျာဉ်ထဲ၌ ကျွန်မ လမ်းလျှောက်သောအခါ၊ လှပသည့်ပန်းများကို ကျွန်မ-မမြင်နိုင်သော်လည်း ကျွန်မ ပါတ်လည်၌ ပန်းများရှိကြောင်းကိုမူ၊ ကျွန်မသိရှိပါသည်။ ယင်းအသိမှာ သင်းကြိုင်မွှေးပြန့်သည့်ယနံ့ကို လေညှင်းက သယ်ယူလာ၍မဟုတ်ပါလား။ သေးငယ်သော နှင်းဖြူ ခေါင်းလောင်းပန်းကလေးများမှာ အချင်းချင်းလျှို့ဝှက်စွာ တီးတိုး စကား ပြောနေကြသော်လည်း ပျော်ပျော် ရွှင်ရွှင် လန်းလန်း ဆန်းဆန်း မရှိကြောင်း ကျွန်မ သိရှိရပါသည်။ ကျွန်မ ရှင့်ကို အလွန် ခင်မင်ပါသည်။ အကြောင်းမှာ ရှင်သည် လူများ၊ ငှက်များ။ ပန်းများနှင့် ချစ်စဖွယ် အရာ၀ထ္ထုများ အကြောင်းကို ကျွန်မအား သင်ကြားပေး

ခြင်းကြောင့် ဖြစ်ပါသည်။ ယခုကျမရှင့်ကို နှုတ်ခွန်းဆက်လိုက်ပါသည်။ အထူးတလည် ကျေးဇူး တင်ကြောင်း ပန်ကြားလွှာကို ရှင် ဝမ်းမြောက် ကြည်နူး လိမ့်မည် ဟု ကျမ မြော်လင့်ပါသည်ရှင့်။

ရှင်၏ချစ်ခွာသော မိတ်ဆွေမကလေး
ဟယ်လင် အေ ကယ်လာ

မစ္စတာ ဂျွန်ဂရိုင်းလိဗ် ဝှစ်တီယားထံသို့ ပို့သည်။ ဤစာနှင့်ပတ်သက်၍ ဝှစ်တီယာ၏ ပြန်စာမှာ ပျောက်ဆုံးသွားပါသည်။

မစ္စက် ကိတ် အေဒမ်စ် ကယ်လာ ထံသို့—
တောင်ပိုင်း–ဘော့စ်တွန်မြို့ မတ်စ်၊
ဒီဇင်ဘာလ ၃ ရက်နေ့၊ ၁၈၈၉ ခုနှစ်။

ကျမ၏ ချစ်ခွာသော မေမေ—

ဤလှပသော နံနက်ခင်းဝယ်၊ မေမေ့ သမီးကလေးမှာ မေမေ့ထံသို့ စာရေးသား လိုက်ရသဖြင့်၊ အလွန် တရာ ပျော်ရွှင် ကြည်နူးမိပါသည်။ ယနေ့–ဤဒေသတွင် မိုးပွင့်ဖွဲကလေးများကျ၍ အဖြောတ် ရစ်ပတ်နေပါသည်။ မနေ့က အမျိုးသမီး မိသ်၏ အမတ်ကတော်ကြီး ကျမနှင့်တွေ့ရန် တကြိမ်ရောက်လာပါသည်။ သူမက ကျမအား လှပသော ပိုင်အိုလက် ပန်းတစ်း ပေးပါသည်။ သူမ၏ သမီးကလေးများအမည်မှာ 'ပိုင်အိုလက်'နှင့် 'မေ'တို့ဖြစ်ပါ

သည်။ 'အားလီ' က သူနောက်တကြိမ် အမေရိကန်သို့ လာ၍ တခ့စ်ကမ်ဘီယာသို့ အလည်သွားရလျှင် ပျော်မှာ ဘဲဟု ပြောပါသည်။အမျိုးသမီးကြီး မိသ် ကတော့ မေမွဲ့ ပန်းများကိုကြည့်လိုကြောင်း၊ ငှက်ကလေး များ၏ တီတီ တာတာ ဘာသာ ဘာဝ သီကြူး ပုံကို နားထောင် လို ကြောင်း ပြောပြပါသည်။ ကျမ အင်္ဂလန်ပြည်သို့အလည် သွားလျှင် သူတို့ဆီသို့ လာလိုကြောင်း ရက်သတ္တပါတ် အနည်းငယ်နေစေလိုကြောင်း ပြောပါသည်။ သူတို့သည် ကျမအား ဘုရင်မနှင့်တွေ့ရန် ခေါ်သွားကြပါလိမ့်မည်။

ကဗျာသင်ဆရာကြီး ငှစ်တီယာ ထံမှ ချစ်မြတ်နိုး ဖွယ်ရာ စာတစောင်ကျမရရှိပါသည်။ သူကျမကိုချစ်ခင် ပါသည်။ မစ္စတာ ဝိတ်နိက ကျမနှင့်ဆရာမအား နောက် ရိုစင်းဦးကျတွင် သူ့ထံသို့ အလည်အပတ် လာစေချင်ပါ သည်။ ကျမတို့ သွားကြရမလား။ သူက ခြသေ့်မကို ကျမ လက်နှင့် အစာကျွေးရမည်ဟုပြောပါသည်။ အကြောင်း မှာ ခြသေ့်မသည် အလွန်တရော နူးညံ့သိမ်မွေ့ကာ အခြား ခွေးများနှင့်အတူ အစာမစားသောကြောင့်ဖြစ်ပါသည်။

မစ္စတာ ဝိလ်ဆင်က ကြာသပတေးနေ့ တနေ့နေ့တွင် ကျမတို့ကို ခေါ်ယူရန် ရောက်လာပါသည်။ အိမ်မှ ပန်း များကို ကျမရရှိသဖြင့် အထူးဝမ်းမြောက်ပါသည်၊ ကျမ တို့ နံနက်စာ စားနေကြစဉ် ပန်းများ ရောက်လာပါသည်။ ကျမငိတ်ဆွေများလဲ ပန်းများ ရောက်ရှိလာခြင်း အတွက် ကျမနှင့်အတူ ပျော်ရွှင်ကြပါသည်၊ ကျမတို့ ကြက်ဆင်

သားနှင့် ဇီးသီး ပူတင်းမုန့် ဖုတ်စားကြ သဖြင့်၊ အလွန် ကောင်းမွန်သည့် ညစာ အတွက် မေမေ့ ကို သတိရပါ သည်။ လွန်ခဲ့သော ရက်သတ္တပတ်က၊ ကျမ သည် လှပ သော အနုပညာ ပြခန်းသို့ အလည် ရောက်ခဲ့ပါသည်။ ကျမသည် ကြီးကျယ်ခမ်းနားသောရုပ်ထုများကိုတွေ့ခဲ့ရ ပါသည်။ လူကြီး လူကောင်း တဦးက ကျမအား အရုပ် တရုပ် ပေးလိုက်ပါသည်။

တနင်္ဂနွေနေ့က ကျမသည် ဘုရား ဝတ်ကျောင်းသို့ သွားရင်း စစ်သင်္ဘောကြီး ပေါ်သို့ တက်ရောက် ခဲ့ပါ သည်။ ဘုရားဝတ်ပြုပြီးနောက် စစ်သား သင်္ဘောသား များက ကျမတို့အားလှည့်ပတ်၍ပြကြပါသည်။ သင်္ဘော ပေါ်တွင် သင်္ဘောသား ၄၆၀ ရှိပါသည် သူတို့သည် ကျမအား အထူးပင် ထောက်ထားညှာတာကြပါသည်။ သင်္ဘောသားတယောက်က ကျမအား သူ့လက်မောင်း များနှင့် ပွေ့ချီသွားသဖြင့် ကျမခြေများမှာ ရေပေါ်တွင် မထိနိုင်ပါ သူတို့သည် အပြာရောင် ယူနီဖောင်းများနှင့် ကက်ဦးထုပ် ကလေးများ ကိုယ်စီ ဆင်ယင် ထားကြပါ သည်၊ ကြာသာပတေး နေ့က ကြောက်မက် ဘွယ်ရာ မီးတကြိမ် လောင်ပါသည်။ ကုန်လှောင်ရုံ များငါး မီး ကျွမ်းသောင်၍ လူလေးယောက် သေဆုံးသွားပါသည်။ ၎င်းတို့အတွက်ကျမအလွန်ဝမ်းနည်းမိပါသည်။ ကျမထံ သို့ စာရေးရန် ဖေဖေကို ကျေးဇူးပြု၍ ပြောပြပါ။ ချစ်စွာ သော ညီမငယ်ကလေး ကျန်းမာပါရဲ့လား၊ ကျမက

အနမ်းပေါင်း များစွာနှင့် နှုတ်ခွန်း ဆက်လိုက်ကြောင်း ပြောပြပါ။ ယခုကျမစာကိုအပြီးသတ်လိုက်ပါမည်။ မေမေ၏ ချစ်လှစွာသော သမီးကလေးက ချစ်မေတ္တာ များစွာနှင့် နှုတ်ခွန်းဆက်လိုက်ပါသည်ရှင့်။

ဟယ်လင် အေ ကယ်လာ

မစ္စက်ကိတ် အေဒမ်စ် ကယ်လာထံသို့
ဘိုး ဘော့ စ် တွန်မတ် စ်
ဒီဇင်ဘာလ ၂၄ ရက်နေ့၊ ၁၈၈၉ ခုနှစ်။

ကျမ၏ချစ်စွာသောမေမေ။

မနေ့က မေမေထံသို့နှစ်သစ်ကူးလက်ဆောင်သေတ္တာ ကလေးတလုံးကို ကျမပေးပို့လိုက်ပါသည်။ ထိုသေတ္တာကို ကြိုကြိုတင်တင် ကျမ မပို့ခဲ့နိုင်သဖြင့် အလွန်တရာ ဝမ်းနည်းပါသည်။ နက်ဖြန်တွင် မေမေ ရရှိပါလိမ့်မည်။ သို့ရာတွင် ကျမ နာရီအိတ်ကလေးကိုတော့ အမြန်မပြုလုပ် နိုင်ခဲ့ပါ။ ဖေဖေ့အတွက် လက်ကိုင် ပဝါကလေးမှ တပါး၊ လက်ဆောင်များ အားလုံးကို ကျမ ကိုယ်တိုင် ပြုလုပ်ခဲ့ခြင်းဖြစ်ပါသည်။ ဖေဖေ့ဘို့လဲလက်ဆောင်တခု ပြုလုပ် ပေးချင်ပါသည်။ သို့ရာတွင် ကျမ၌ အချိန်လုံလုံ လောက်လောက် မရခဲ့ပါ။ မေမေ့ဘို့ နာရီအိတ်ကလေးကိုမေမေနှစ်သက်လိမ့်မည်ဟု ကျမ မျှော်လင့်ပါသည်။ မေမေ့အတွက် ကျမပြုလုပ်ရခြင်းမို့ လွန်စွာပျော်ရွှင် ပါသည်။ မေမေ၏ လှပသောနာရီသစ်ကလေးကိုကျမ

ပေးလိုက်သည့် နာရီအိမ်ထဲသို့ ထည့်ထားပါ။ ညီမကလေး လက်အိပ်ရှည်များဝတ်ဆင်ရန် တခုစ်ကမ်ဘီယာ၌ ပူအိုက်နေလျှင် ၎င်းတို့ကို သိမ်းဆည်းထားနိုင်ပါသည်။ အကြောင်းမှာ သူမ၏ ချစ်မမက ၎င်းတို့ကို သူမအတွက် ချုပ်လုပ်ပေးလိုက်ခြင်းမို့ဖြစ်ပါသည်။ သူမသည်ကစားစရာ လူရုပ်ကလေးနှင့် ပျော်ပျော်ရွှင်ရွှင် ဖြစ်လိမ့်မည်ဟု ကျမ တွေးမိပါသည်။ သူ့ကို လှုပ်ရန် ညီမကလေးအား ပြောပြပါ၊ ထိုအခါ သူသည် သူ၏မြွေကို မှုတ်ပါလိမ့်မည်။ ကျမ၏ချစ်စွာသော ကြင်နာမှုရှိသူ ဖေဖေက ကျမ သူငယ်ချင်းများအတွက် လက်ဆောင်များ ဝယ်ရန် ကျမထံငွေအချို့ပို့လိုက်သဖြင့် ကျေးဇူးတင်လှပါသည်။ လူတိုင်းလူတိုင်းအား ပျော်ရွှင်အောင် ပြုလုပ်ပေးရန် ကျမလိုလားပါသည်။ နှစ်သစ်ကူးနေ့၌၊ ကျမနေအိမ်တွင် နေထိုင်ရန် နှစ်သက်ပါလိမ့်မည်။ ကျမတို့ အတူတကွ နေထိုင်ကြရလျှင် ပျော်ရွှင်ပါလိမ့်မည်။ ကျမသည် နေ့တိုင်းနေ့တိုင်း လှပသောအိမ်အကြောင်းကိုသာ တွေးတောနေမိပါသည်။ ကျမ၏ နှစ်သစ်ကူးသစ်ပင်တွင် ချိတ်ဆွဲရန် ကျမအတွက် လှပသော လက်ဆောင်များ ပေးပို့ဘို့ ကျေးဇူးပြု၍ မမေ့ပါနှင့်။ ညှော်ခမ်း၌ နှစ်သစ်ကူးသစ်ပင်တပင်စိုက်ရန် ကျမစီစဉ်နေပါသည်။ ဆရာမက ကျမ၏ လက်ဆောင်များအားလုံးကို သစ်ပင်ပေါ်၌ ဆွဲချိတ်ပေးပါလိမ့်မည်။ ပျော်ဘွယ်ရာကောင်းသော သစ်ပင်တပင်ဖြစ်ပါလိမ့်မည်။ နှစ်သစ်ကူးအချိန်ကိုဖြုံးတီးရန် မိန်းက

လေးများ အားလုံး အိမ်သို့ ပြန်သွားကြပါပြီ။ မစ္စတ် ဟော့ပ်ကင်စ်ကိုစောင့်ရှောက်ရန် ဆရာမနှင့် ကျမတို့သာ လျှင် ကျန်ရစ်ကြပါသည်။ ဆရာမမှာ ရက်ပေါင်းများစွာ ဖျားနာ၍ အိပ်ရာထဲတွင်လဲနေပါသည်။ သူမ၏ ညည်းချောင်းမှာ အလွန်နာကျင်သဖြင့် ဆရာဝန်က ဆေးရုံတက်သင့်ကြောင်း ဆွေးနွေးပါသည်။ သို့ရာတွင် ယခုတော့သက်သာလာပါပြီ။ ကျမတော့ ဖျားခြင်း နာခြင်း လုံးလုံးမရှိပါ။ ဒိန်းကလေးများလဲ ကျန်းမာကြပါသည်။ သောကြာနေ့တွင် လာမည့် ကျမ၏ မိတ်ဆွေကလေးများ ဖြစ်သော ကာ၏ အီသယ်လ်, ဖောင့်ခ်, ဟယ်လင်ဖရီးမင်း တို့နှင့် အတူ ကနေ့ကုန် အချိန်ဖြုန်းကြပါမည်၊ ကျမတို့ အကြီးအကျယ် ပျော်ရွှင်ကြလိမ့် မည်ဟု ကျမ အသေအချာ ပြောရဲပါသည်။

မစ္စတာနှင့် မစ္စအင်ဒီကော့တ်တို့ ကျမနှင့်တွေ့ရန် လာကြ၍ ကျမသည် ရထားစီးရန် ထွက်ခဲ့ပါသည်။ သူတို့က လှသော လက်ဆောင်တခုကို ပေးကြပါသည်။ သို့ရာတွင် ထိုလက်ဆောင်မှာ ဘာဖြစ်လိမ့်မည်ဟု ကျမ—မ တွေးနိုင်ပါ။ စမ်မီမှာ ချစ်စရာ ကောင်းသော ညီသစ်ကလေးတယောက် ရပါပြီ။ သူသည် အလွန် ပျော့ပြောင်း၍၊ နူးညံ့သိမ်မွေ့ပါသည်။ ယခုအခါ၊ မစ္စတာအနက်စ်နေ့ဂ်စ်မှာ အေသင်မြို့တွင် ရှိပါသည်။ ကျမ သည့်နေရာတွင်ရောက်နေ၍ သူအလွန်ဝမ်းမြောက်မည် ဖြစ်ပါသည်။ ယခု ကျမ ငွတ်ဘိုင်ဟု နှုတ်ဆက်ရပါမည်။ ကျမစာကို

ကောင်းကောင်းရေးတတ်ပြီဟု ကျမ မြှော်လင့်ပါသည်။ သို့ရာတွင် ဤစကားပြောဝံ့ ရေးသားချိန် လွန်သွားခဲ့ပါသည်၊ ဆရာမသည် နေရာတွင် ရှိသဖြင့် ကျမနှဲ့နဲ့ ရေးတတ်ပါသည်။ ညီမငယ်ကလေးနှင့် အိမ်သားတရ အားလုံးသို့ ချစ်ခြင်းအလွန် အကြူး ပို့လိုက်ပါ သည်ရှင့်။

ချစ်လှစွာသော

ဟယ်လင်။

ဤစာမှာ ဒေါက်တာ ဟောလ်မီးစ် ထံသို့ ဟယ်လင် ရေးသားလိုက်သော စာများအနက် ပဌမဆုံး စာဖြစ်ပါ သည်။ ဤစာကို သူ့ထံသို့ ဟယ်လင် အလည်သွားခဲ့ပြီး သည်နောက် ရေးသားလိုက်ခြင်း ဖြစ်သည်။ သူသည်သူ၏ 'လဘက်ရည်ခွက်များ အပေါ်မှာ' စာအုပ်တွင် ဤစာ အကြောင်းကို ထည့်သွင်းဖော်ပြထားသည်။

ဒေါက်တာ အိုလီဗာဝင်ဒဲလ် ဟောလ်မီးစ် ထံသို့

တောင်ပိုင်း ဘောစ်တွန်မြို့

မတ်လ ၁-ရက်နေ့ ၁၈၉၀-ခုနှစ်။

ချစ်စွာသောကြင်နာထောက်ထားသူ

ကဗျာလင်္ကာ ဆရာကြီးရှင့်

ကျမ-ရှင့်ထံသို့ နှုတ်ခွန်းဆက်ခဲ့ပြီးနောက် တွန်းလင်း တောက်ပသော တနင်္ဂနွေနေ့ ကထဲကအကြိမ်ပေါင်းများ စွာ ရှင့်အကြောင်းကို ကျမတွေးတောစဉ်းစားခဲ့ပါသည်၊ ကျမ-ရှင့်အပေါ်တွင် ချစ်ခင်လေးစားသဖြင့် စာတစောင်

ရေးသားလိုက်ခြင်း ဖြစ်ပါသည်။ တခါတရံ အဖြင်းဖြေ ရန် ရှင့်တွင် သားသွီး တဦးတယောက်မျှ မရှိသဖြင့် ကျမ စိတ်မကောင်းပါ။ သို့ရာတွင် ရှင့်သူငယ်ချင်းများနှင့်၊ ရှင့် စာအုပ်များနှင့် လွန်စွာပျော်ရွှင်မည်ဟု ကျမ ထင်ပါ သည်။ ဝါရှင်တန်၏မွေးနေ့တွင် များပြားသောလူတို့သည် မျက်မမြင်ကလေးများကို ကြည့်ရှုရန် ရောက်လာကြပါ သည်။ ကျမသည် ရှင့်ကဗျာ လက်ာများကို ဘတ်ခဲ့ပါ သည်။ ပါလိုစ်အနီး ကျွန်းကလေး တကျွန်းမှလာသော လှပသည့် ယောက် သွား များ ကို သူ တို့ အား ပြ လိုက် ပါသည်။

'ဂျက်ကီကလေး' အမည်ရှိ အလွန်တရာ ဝမ်းနည်း စရာကောင်းသော ဝတ္ထုတပုဒ်ကို ကျမ ဘတ်နေပါသည်။ 'ဂျက်ကီ'သည် ရှင်တွေးထင်နိုင်သလို ချစ်စရာအကောင်း ဆုံးသော ကောင်ကလေးဖြစ်သည်။ သို့ရာတွင် သူသည် ဆင်းရဲသော မျက်မမြင်ကလေးဖြစ်သည်။ကျမ စာမဘတ် နိုင်မီ ငယ်စဉ်ကဘဝကို ကျမစဉ်းစားမိပါသည်။လူတိုင်း လူတိုင်းမှာ အစဉ်သဖြင့် ပျော်ရွှင်ကြပါသည်။ ပဋ္ဌမ သော် ဝမ်းအနည်းဆုံးနှင့် ခံစားရသည့် ဒါတ်ရာဒါတ် ချက်အကြောင်းကို သိရှိစေခြင်းက ကျမအား အထူးတ လည် ဝမ်းနည်းပူဆွေးလာစေပါသည်။ သို့ရာတွင် ယခု တော့ အကယ်၍ ကမ္ဘာပေါ်ဝယ် ပျော်ဘွယ်ရာ တခု တည်းသာရှိခဲ့ပါလျှင် သီးခံရန်၊ ရဲရင့်ရန်၊ ကျမတို့ဘယ် တော့မျှ မသင်ကြားနိုင်ကြဟု သိလာပါတော့သည်။

ကျမသည်ဘိရစ္စဘာန်ရုံထဲတွင် ပိုးကောင်ကလေးများ အကြောင်းကို လေ့လာသင်ကြားနေပါသည်။ လိပ်ပြာ များ၏အကြောင်းကို ကျမနားလည်စွာ သင်ကြားခဲ့ပါ သည်။ သူတို့သည် ကျမတို့အတွက် ပျားများကဲ့သို့ ပျား ရည်များပြုလုပ်မပေးကြပါ။သို့ရာတွင် သူတို့သည်သူတို့ နားသောပန်းများကဲ့သို့ အများအားဖြင့်လှပကြပါသည်။ သူတို့သည် ကလေးငယ်များ၏ အသဲနှလုံးကို ထာဝစဉ် ပျော်ရွှင်စေကြပါသည်။ သူဘို့ကား အသက်နေ နည်း ပါးလှသည်။ သူတို့သည် နက်ဖြန်အတွက် စဉ်းစား တွေး တောမှုမပြုဘဲ၊ ပန်းတပွင့်မှတပွင့်သို့ ပျံသန်း၍ ပန်းဝတ် ရည်များကို စုတ်ယူကြပါသည်။ သူတို့သည် ယောကျ်ား ကလေး၊ မိန်းကလေးများနှင့် တူပါသည်။ ယောကျ်ား ကလေး မိန်းကလေးများသည် သူဘို့၏စာအုပ်များ လေ့ ကျင့်ခန်းများကို မေ့လျော့ခဲ့ကြသောအခါ၊ ပန်းရိုင်း များ ရှူးဆွတ်ရန် အောက်ပြောင်သော နေ ရောင် ခြည် အောက်ဝယ် မွှေးကြူသည့်ကြာပန်းများရှိသော ရေကန် များထဲသို့ ဆင်းကြရန် လယ်ကွင်းများနှင့် သစ်တောများ ရှိရာသို့ ပြေးသွားကြပါသည်။

ကျမ၏ညီမကလေး နောက်ဇွန်လ၌ ဘော့စ်တွန်မြို့သို့ လာလျှင် ရှင်နှင့်တွေ့ရန် သူမကို ကျမ ခေါ်ခဲ့ရမလား။ သူမသည် ချစ်စရာကောင်းသော မိန်းကလေးတယောက် ဖြစ်၍၊ သူမကို ရှင်ချစ်လိမ့်မည်ဟု ကျမပြောရဲပါသည်။

ကျမအိမ်မဝင်ခဲ့ အိမ်သို့ စာတစောင်ရေးရဦးမည်ဖြ

ကျမ၏ နူးညံ့သိမ်မွေ့သော ကဗျာ ကော်ာ ဆရာကြီးအား ယခုပင် နှုတ်ခွန်းဆက်သလိုက်ပါသည်ရှင့်။

ရှင့်၏ချစ်သော မိတ်ဆွေမကလေး
ဟယ်လင် အေ-ကယ်လာ

မစ္စဆာရာဖူးလား ထံသို့
တောင်ပိုင်း ဘော့စ် တွန်မဘ်စ်
ဧပြီလ ၃ ရက်နေ့၊ ၁၈၉၀ ခုနှစ်။

ကျမ၏ချစ်စွာသော မစ္စဖူးလား

ဤလှပသောနံနက်မှာ ကျမ၏ အသဲနှင်လုံးတွင် ပျော်ရွှင်ခြင်းအပြည့်ဖြင့် ဖုံးလွှမ်းလျက်ရှိပါသည်။ အကြောင်းမှာ ကျမသည် စာလုံးသစ်ပေါင် များစွာကို စကားပြောရန် သင်ကြားပြီး၍ ဝါကျအချို့အဝက်ကို ချေးသားနိုင်လို့မို့ ဖြစ်ပါသည်။ လွန်ခဲ့သောညနေခင်းက ကျမသည် ကွင်းပြင်သို့ထွက်၍ လမင်းနှင့် စကား ပြောခဲ့ပါသည်။ ကျမက 'လမင်းရယ် ကျမဆီ လာပါတော့' ဟု ပြောလိုက်ပါသည်။ ကျမစကားပြောနိုင်သလိုချစ်စရာကောင်းသော လမင်းမှာ ပျော်ရွှင်လိမ့်မည်ဟု ရှင်ထင်ပါသလား။ ကျမမေမေ ဘယ်လောက်များ ဝမ်းသာလိုက်ပါမည်လဲ၊ ဇွန်လသို့ ရောက်လာရန်ကို စောင့်မျှော် ရသည်မှာ ပင်ပမ်းလှပါသည်။ ကျမသည် လမင်းနှင့် စကားပြောရန် ဆန္ဒပြင်းပြလျက်ရှိပါသည်။ ကျမ၏အဘိုးတန် ညီမကလေးကလည်း စကားပြောချင်လှပါ၏။ ကျမ၏လက်ချောင်းများနှင့် စာလုံးပေါင်း၍ စကားပြောသောအခါ ညီမက

လေး မင်လိဒချက်မှာ နားမလည် နိုင်ခဲ့ပါ။ သို့ရာတွင် ယနေ့တော့သူမသည် ကျမ၏ ပေါင်ခွင်ပေါ်သို့ ထိုင်လိမ့်မည်မို့ သူမပျော်ရွှင်ရန် အကြောင်းအရာများကို ကျမပြောပြရမည်ဖြစ်ပါသည်။ ကျမတို့အတူတကွ ပျော်ရွှင်ကြပါလိမ့်မည်။ ရှင်သည် လူပေါင်းများစွာကို ပျော်ရွှင်အောင် ပြုလုပ်နိုင်သူမို့ အလွန်ဘရာ ကြည်နူးနေပါသလား၊ ရှင်သည် လွန်စွာသနားခြင်း ဂရုဏာနှင့် သီးခံမှုရှိသူဟု ကျမထင်ပါသည်။ သို့မို့ကြောင့်လဲ ရှင့်ကို ကျမအထူး ချစ်ခင် လေးစားပါသည်။ ကျမပါးစပ်ဖြင့် စကားပြောခြင်းကို အဘယ်ကဲ့သို့သော ဆန္ဒမျိုးနှင့် စတင်လာခဲ့ကြောင်း ရှင်ကသိလိုပါသည်ဟု အင်္ဂါနေ့က ကျမဆရာမသည် ကျမအားပြောပြခဲ့ပါသည်။ ထိုအကြောင်းနှင့်ပတ်သက်၍ ရှင့်၏အကြောင်းစုံ ကျမပြောပြပါမည် ကျမ၏တွေးခေါ်စဉ်းစားချက်များကို တိတိကျကျ ကျမသတိရပါထည်။ ကျမငယ်စဉ်အချိန်အရွယ်က ကျမ မေမေ၏ ပေါင်ခွင်ထဲသို့ အချိန်ရှိသမျှ ထိုင်ခဲ့ပါသည်။ အကြောင်းမှာ ကျမသည်အလွန်ကြောက်လန့်တတ်၍ ကျမတယောက်တည်း မနေရဲသောကြောင့်ဖြစ်ပါသည်။ ကျမသည် ကျမ၏ လက်ကလေးကို မေမေ့ မျက်နှာပေါ်သို့ ထာဝစဉ်တင်ထားပါသည်။ လူများနှင့်စကားပြောသော လှုပ်လှုပ်ရှားရှား မေမေ့ နှုတ်ခမ်းများကို တွေ့ထိ ကိုင်တွယ်ရခြင်းမှာ ကျမအား ပျော်ရွှင်စေပါသည်။ အရာခပ်သိမ်း ကျမလုံးလုံးမသိဘတ်သောကြောင့် မေမေဘာ

လုပ်နေသည်ကို ကျမ မသိခဲ့ပါ။ ကျမ အနည်းငယ် ကြီး ထွားလာသောအခါ ကျမသည် ကျမ၏အထိန်းနှင့် နိဂရိုးကလေးများနှင့် ကစားရန် သိတတ်လာပါသည်။ သူတို့လဲ မေမေကဲ့သို့ နှုတ်ခမ်းများ လှုပ်၍ နေကြသည်ကို ကျမသတိပြုမိပါသည်။ ထို့ကြောင့် ကျမသည် ကျမ၏ နှုတ်ခမ်းအစုံကိုလှုပ်ကြည့်ပါသည်။ သို့ရာတွင်ထိုသို့လှုပ်ရှားခြင်းမှာ တခါတရံ ကျမအား စိတ်ဆိုးစေပါသည်။ ကျမသည် ကျမကစားဘော်ကစားဘက်များ၏ ပါးစပ်များကို ကြမ်းကြမ်းတမ်းတမ်း ကိုင်တွယ်ခဲ့ပါသည်။ ထိုသို့ ပြုလုပ်ခြင်းမှာ လွန်စွာရိုင်းပြကြောင်း ကျမ မသိခဲ့ပါ အချိန်အနည်းငယ် ကြာပြီးနောက် ကျမ၏ ချစ်စွာသော ဆရာမမှာ ကျမထံသို့ ရောက်လာပြီး ကျမလက်ချောင်းများနှင့် ဆက်သွယ်၍ သင်ကြားပေးခဲ့သဖြင့် စိတ်ကြေနပ်စွာပျော်ရွှင်ဝမ်းမြောက်လာခဲ့ပါသည်၊သို့ရာတွင်ဘော့စ်တွန်မြို့ စာသင်ကျောင်းသို့ ကျမ ရောက်ခဲ့သောအခါ အခြားလူများ အားလုံးကဲ့သို့ ပါးစပ်ဖြင့် စကား ပြောကြသည့်။ နားမလည်သူ အချို့ကို ကျမ တွေ့ခဲ့ရပါသည်။ တနေ့တွင်နော်ဝေးပြည်သို့ ရောက်ခဲ့ဘူးသော အမျိုးသမီးတယောက်သည် ကျမထံသို့ ရောက်လာပါသည်။ သူမသည် ကျမအားနားမကြား မျက်မမြင် အမျိုးသမီး တဦး အကြောင်းကို ပြောပြပါသည်။ သူမသည် ဝေးကွာသော ဒေသမှာ အခြားသူများ စကားပြောခြင်းကို နားလည်အောင် သင်ကြား၍ စကားပြောတတ်နေသည့်၊ ထိုချက်

မမြင်မကလေးအား မြင်ခဲ့ဘူးသည်ဟု ရှင်းပြပါသည်။ ၍ကောင်းမြတ်၍ ဝမ်းမြောက်ဘွယ်သတင်းမှာ ကျမအား လွန်မင်းစွာ ပျော်ရွှင် ကြည်နူးစေသည်နှင့် အမျှ ကျမ သည်လဲ ထိုဒိန်းကလေးကဲ့သို့ သင်ကြားသေ့လာရန် ယ တိပြတ် ဆုံးဖြတ် လိုက်ပါသည်။ ကျမသည် ကျမ၏ ကစားဘက်များကဲ့သို့ အသံထွက်အောင် ကြိုးစား ပြု လုပ်ခဲ့ပါသည်။ သို့ရာတွင် အသံမှာ အလွန်တရာ နူးညံ့ သိမ်မွေ့၍ အာရုံခံစားရသဖြင့် အမှားအယွင်း ပါမည် စိုးရိမ်ရကြောင်း ကျမအား နည်းလမ်းမှန်ကန်စွာ စကား ပြော သင်ကြားပေးနိုင်သည်၊ ထောက်ထားညှာတာစိတ် နှင့် ပညာပြည့်ဝသူ အမျိုးသ္မီးတဦးထံသို့ ပို့ပေးမည်ဟု ဆရာမက ဂတိပေးခဲ့ပါသည်။ ထိုအမျိုးသ္မီးမှာ ရှင်ကိုယ် တိုင်ဘဲဖြစ်ပါသည်ယခုကျမသည်ငှက်ကလေးများပျော် ရွှင်ကြသကဲ့သို့ ပျော်ရွှင်ရပါပြီ၊ အကြောင်းမှာ ကျမ စကား ပြောနိုင်သာရုံမျှမက သီချင်းပင် ဆိုနိုင်ကောင်း ဆိုနိုင်တော့မည်မို့ ဖြစ်ပါသည်။ ကျမမိတ်ဆွေအားလုံး ပင် ဝမ်းပမ်းတသာနှင့် အံ့ဩကြမည်ဖြစ်ပါသည်ရှင့်။

ရှင်၏ချစ်စွာသော တပည့်မကလေး
ဟယ်လင် အေ ကယ်လာ

နွေရာသီအတွက်ပါကင်စ်စာသင်ကျောင်းပိတ်လိုက် သောအခါ၊ ဟဲလင်နှင့်မစ္စဆူလီဗင်တို့သည်၊ တာ့စ်ကဒ် ဘီယာသို့ထွက်ခဲ့ကြသည်။ သူမပါးစပ်ဖြင့် စကားပြော

သင်ကြားပြီးသည့်နောက် ၅၌အကြိမ်သည့် ပဌမဆုံး အိမ်သို့ပြန်ခဲ့ကြသောအကြိမ်ဖြစ်ပေသည်။

ဘုန်းတော်ကြီး ဖိလစ်ပ်စ် ဘရုခ်စ် ထံတော်သို့–

တသ်စ်ကမ်ဘီယာ, အလာဘာမာ၊

ဇူလိုင်လ ၁၄ ရက်၊ ၁၈၉၀ ခုနှစ်။

ကျွန်မ၏ ချစ်စွာသော မစ္စတာဘရုခ်စ်–

တပည့်တော်မသည် များပြား စွာသော အကြောင်းအရာများကို သိချင်လိုသဖြင့်ရင်း၊ အရှင်ဘုရား အပေါ် ချစ်ခင်လေးစား သလောက် အရှင်ဘုရားသည် တပည့်တော်မ၏ ထောက်ထားညှာတာခြင်းစိတ်ရှိသော ရင်းနှီးသည့် ဆရာတော်ဖြစ်၍ရင်း၊ ၅၌သာယာသော နေ့ဝယ် အရှင်ဘုရားထံသို့ စာရေးရသည်ကို အတိုင်းမသိ ဝမ်းမြောက်လှပါသည် ဘုရား၊ တပည့်တော်မသည် ရက်သတ္တ သုံးပါတ် အိမ်မှာ နေထိုင်ခဲ့ ပါသည်။ အသွေးတညီမငယ်ကလေး၊ ဖေဖေ၊ မေမေတို့နှင့်အတူ တပည့်တော်သည်အဘယ်မျှဝမ်းမြောက်ပျော်ရွှင်ရပါသလဲဘော့စ်တွန်မြို့မှမိတ်ဆွေများနှင့်ခွဲခွာနေခဲ့ရ သည်ကို တပည့်တော်မမှာ အလွန်အလွန် ပူဆွေးဒုက္ခရောက်နေရပါသည်ဘုရား။ သို့ရာတွင်တပည့်တော်မ၏ ညီမငယ်ကလေးကို တွေ့လိုစိတ်ဇောထက်သန်နေသဖြင့်၊ မီးရထားစီး၍အိမ်သို့ပြန်ခဲ့ရခြင်းပင် မီးရထားအသွားနှေးသည်ဟု ထင်မိပါသည်ဘုရား။ သို့ရာတွင် ဆရာမ၏ အားပေးကူညီမှုအတွက် ဆန္ဒအတိုင်းမပြည့်ဝခြင်းကို အာရုံပင်သိမ်းနေရပါသည်။ ဘ

ပည့်တော်မ ဘော့စ်တွန်မြို့သို့ထွက်လာခဲ့ပြီကာ၊ ကမ္ဘာ့ပေါ်တွင်အနုနယ်ဆုံး,အချစ်ဆုံးမင်ဒချက်ကလေးမှာ ယခုတော့အခုပ်ရှည်၍သန်မာသွားကြိုင်းလာပါပြီ၊တပည့်တော်မ စကားပြောတတ်လာသဖြင့် မိဘနှစ်ပါးမှာပျော်ပျော်ရွှင်ရွှင် ဝမ်းမြောက်ဝမ်းသာနှင့် နားထောင်နေကြပါသည်။ တပည့်တော်မကလည်း မိဘများအား ဤကဲ့သို့သော ပျော်ရွှင်အံ့သြဖွယ်ရာစကား ပြောပြရသဖြင့်၊ အတိုင်းမသိ ဝမ်းမြောက်မိ ပါသည်။ တပည့်တော်မ စကားပြောခြင်းမှာ လူတိုင်းလူတိုင်းအား ပျော်ရွှင်မှုကို ဖန်တည်းပေးခြင်းဖြစ်သည်ဟုထင်မြင်ပါသည်။ ကောင်းကင်ဘုံအကြောင်းကို ဖေဖေသည် ပြောပြကဲ့ ပါသည်။ တပည့်တော်မတို့အတွက် ဘာကြောင့် အကောင်းဆုံး အချက်အလက်များကို ဖြစ်ပွားဘာ၊ တခါတရံ၌ အလွန်အမင်း ဝမ်းနည်းဖွယ်ရာ များကို ဖြစ်ပေါ်စေပါ သလဲ။ တပည့်တော်မမှာ ထာဝစဉ် ပျော်ရွှင်လျက် ရှိပါသည်၊ လေ့ဒဲ့ ဖေါင့်တ်သေရိုင်ကလေးလည်း ပျော်ရွှင်ပါသည်။ သို့ရာတွင် ဂျက်ကီ၏ဘဝမှာ ဝမ်းနည်းဖွယ်ရာအပြည့်ဖြစ်လျက်ရှိပါသည်။ ဘုရားသခင်က ဂျက်ကီ၏ မျက်စိနှစ်ကွင်းကို အလင်းမပေးပါ။ သူသည် မျက်မမြင်ဒုက္ခိတ ဖြစ်၍။ သူ့ဖေဖေကလဲ သူ့အပေါ်တွင် ကြင်နာ ယုယချစ်ခင်မှုမရှိပါ။ ဂျက်ကီသည် ကောင်းကင်ဘုံ၌ရှိသော သူ့ဖေဖေက ပိုမိုချစ်ခင်သည်ဟု အဲ့ငြင်ဘုရား ထင်ပါ သလား။ အကြောင်း မှာ သူ၏ဘုရားသော ဖေဖေ သည်

သူ့အပေါ်တွင် ကြင်နာထောက်ထားမှု မရှိခြင်းကြောင့် ဖြစ်ပါသည်။ သူ၏အိမ်သည် ကောင်းကင်ဘုံ၌ရှိပါသည် ဟု ဘုရားသခင်က လူများကို ဘယ်လို ပြောခဲ့ပါသလဲ။ လူများသည် အမှား အယွင်းများ ပြုလုပ်ခြင်း၊ တိရစ္ဆာန်များကို နာကျင်အောင်ပြုလုပ်ခြင်းနှင့် ကလေးသူငယ်များကို ကြင်နာထောက်ထားမှု မရှိခြင်းအတွက် ဘုရားသခင်က ဝမ်းနည်း ကြေကွဲမှုဖြစ်ပါပေမည်။ သို့ရာတွင် သနားဂရုဏာရှိခြင်းနှင့် ချစ်ခင်မှု မေတ္တာ ထားကြရန် ဘုရားသခင်သည် ထိုထိုလူများအား အဘယ်လိုများဆုံးမခြေါ ဒဖြင့် သင်ကြားပါမည်လဲ။ ဘုရားသခင်သည် သတ္တဝါများအပေါ် မိမိ ကြင် နာ သနား မေတ္တာ ထားကြသလို လူတွေအားလုံးမေတ္တာတရား ကိန်းအောင်းကြရန် မိန့်ကြားလိမ့်မည်ဟု တပည့်တော် ထင်ပါသည်။ ဘုရားသခင်သည် လူများအား ကောင်းစေချင်ပါသည်။ ပျော်ပျော်ရွှင်ရွှင်နေစေချင်ပါသည်။ ဖခင်ကိုချစ်ခင်ကြ သောသားသမီးများ၏ ပူဆွေးခြင်းမှ လွတ်ကင်း စေချင်ပါ သည်။ သူတို့ပြုလုပ်သမျှ ကောင်းမှုကုသိုလ်များ အတွက် သူ့အတွက် ဝမ်းမြောက် ကြည်နူးစေလိုပါသည်။ ထို့ကြောင့် သူတို့သည် တယောက်ကိုတယောက် ချစ်ခင် လေးစားကြခြင်း၊ ကောင်းရာညွှန်ပြကြရန်နှင့်တိရစ္ဆာန်များ အပေါ် ကြင်နာသနားခြင်းမေတ္တာထားကြရန်သာ ဘုရား သခင်က လိုလားသည်ဟု တပည့်တော် ထင်ပါသည် ဘုရား။

ဘုရားသခင်အကြောင်းနှင့် ပတ်သက်၍၊ အရှင်ဘုရား သိသလောက် တပည့်တော်မအား ကျေးဇူးပြု၍မိန့်မြွက် ပါဘုရား။ ဤသို့သိရခြင်းဖြင့် စိတ်ကောင်း စေတနာနှင့် အသိပညာပြည့်ဝသော ဖေဖေ့အတွက် တပည့်တော်မ ပျော်ရွှင် လာပါမည်။ အရှင် ဘုရားတွင် အချိန် ရလျှင် မိတ်ဆွေမကလေးထံ စာပြန် ရေးလိမ့်မည်ဟု တပည့် တော်မ မြော်လင့်ပါသည်ဘုရား။ တပည့်တော်မသည် အရှင်ဘုရားအား ယနေ့ အလွန် တရာ တွေ့လိုပါသည်။ ဘော့စ်ဘွန်မြို့၌ ယခု အလွန် တရာ နေပူပါသလား။ ဤ နေ့ မွန်းလွဲအချိန်တွင် အကယ်၍ အသင့်အတင့် အေးမြ လာလျှင် တပည့် တော်မသည် မင်လ်ဒရက်အား တပည့် တော်မ၏ မြည်းပေါ်တင်ခါ အစီးခိုင်းမည် ဖြစ်ပါသည် ဘုရား။ မစ္စတာဝိတ်နီက အရှင်ဘုရား စဉ်းစားကြည့်နိုင် သော အလှပဆုံး မြည်းကလေး 'နက်ဒီ' ကို တပည့် တော်မထံပို့လိုက်ပါသည်။ တပည့်တော်မ၏ခွေးခြသေ့မ မှာ တပည့်တော်မတို့ မြင်းစီးလျှင် အကွယ်အကာအဖြစ် အတူလိုက်ပါပါသည်။ တပည့်တော်မ၏အစ်ကို စင်ဆန် မှာ တပည့်တော်မအတွက် ကန်ထဲမှလှပသောကြာများ ကို မနေ့က တပည့်တော်မထံ ယူဆောင် လာပါသည်။ သူသည် တပည့်တော်မအား နှမရင်းနှင့်မခြား အလွန်တ ရာ ချစ်ခင်ပါသည်။

ဆရာမက အရှင်ဘုရားအား လေးလေးစားစားသတိ

ရကြောင်း။ မေမေ၊ ဖေဖေ တို့ကလဲ ဆုတောင်း ပတ္ထနာ ပြုကြကြောင်း အမှန်ဘုရား သိစေအပ်ပါသည်ဘုရား။

အမှန်ဘုရား၏ ချစ်သော သမီးတော်မကလေး
ဖဲလင် အေး-ကယ်လာ။

ဒေါက်တာ ဘရုခ်စ်၏ ပြန်စာ။

လန်ဒန်မြို့၊ ဩဂုတ်လ ၄-ရက်၊ ၁၈၉၀ ခု။

ကျွန်ုပ်၏ချစ်စွာသော ဖယ်လင်-

သင့်ထံမှစာကို ရရှိသဖြင့် ကျွန်ုပ်သည် လွန်စွာ ဝမ်းမြောက်လှပေသည်။ သင်၏စာသည် ပင်လယ်ပြင်ကို ဖြတ်ကျော်ကာ ကျွန်ုပ် နေထိုင်ရာ ဤခန်းနား ကြီးကျယ်သော မြို့တော်၌ ကျွန်ုပ်အား တွေ့အောင်ရှာ၍ လိုက်လာခဲ့ ပေသည်။ ကျွန်ုပ် အချိန် ရလျှင် အကြောင်းစုံ သင့်ကိုပြောပြရန်ကျွန်ုပ်၏စာသည်ရှည်လျားပေလိမ့်မည်။ တကြိမ်တွင် သင်သည် ဘောစ်တွန်မြို့ရှိ ကျွန်ုပ်၏စာကြည့်ခန်းသို့လာ၍တွေ့လျှင် သင်ကြား လိုသမျှ အကြောင်း အရာ များကို ပျော်ပျော်ရွှင်ရွှင်ကျွန်ုပ်ပြောပြပါမည်။

သို့ရာတွင်၊ ယခုတော့ သင်သည် သင့်အိမ်၌ အလွန်တရာ ပျော်ပျော်ရွှင်ရွှင် နေထိုင်ကြောင်းကို သိရသဖြင့်၊ အဘယ်မျှလောက် ကျွန်ုပ်ဝမ်းသာကြောင်းကို သင်သိရန် ပြောပြလိုပါသည်။သင်သည် သာယာလှပသောကျေးရွာကလေးတွင် ညီမကလေး၊ မေမေ၊ ဖေဖေ တို့နှင့် အတူ နေထိုင်ပုံကို ကျွန်ုပ် စဉ်းစား၍ မြင်ယောင်နိုင်ပါသည်။

ထိုသို့ ပျော်ရွှင်စွာ မြင်ယောင်နိုင်ခြင်းသည်ပင် အဘယ်မျှလောက် ဝမ်းမြောက်မည်ကို သိစေလိုပေသည်။ :

သင်ဘာအကြောင်းအရာကို တွေးတော၍ ကျွန်ုပ်ထံ ဘာတွေ့ခေးလိုက်သည်။သိရလိုလဲ ကျွန်ုပ် ဝမ်းမြောက်မိပေသည်။ အချိန်ရှိသ၍ ကျွန်ုပ်ဘို့ အပေါ်တွင် အလွန်ကောင်းနေသော ဘုရားသခင်၏အကြောင်းကို ကျွန်ုပ်တို့ အဘယ်ကဲ့သို့ တွေးတောခြင်းဖြင့် ကသိုနိုင်သည်ကို ကျွန်ုပ်ကြည့်ရှု၍ မမြင်ပါ။ ကျွန်ုပ်တို့၏ ကောင်းကင်ဘုံမှ ဘခင်အကြောင်းကိုသိရှိခန် ကျွန်ုပ်တွေးထင် ဦးစားနိုင်သမျှ သင့်ထံမြော်စခ်းပါရစေ၊ ထိုအကြောင်းမှာ ကျွန်ုပ်တို့၏ကိုယ်ပိုင် အသဲနှလုံးများမှ ချစ်ခြင်းမေတ္တာ အင်အားဖြင့် ဆင်းသက်လာခြင်း ဖြစ်ပေသည်။ ချစ်မေတ္တာသည် အရာခပ်သိမ်း၏ ဗိညာဉ်မှာရှိသည်။ ချစ်ခြင်းမေတ္တာ အစွမ်းသတ္တိ ခံရှုတော့သည်၏ အဆုံး၌၊ အသက်ရှင်စွာ နေထိုင်ချခြင်းမှာ အမှန်အားဖြင့် အချိုးနှီးသာ ဖြစ်ပေသည်။ တောက်ပသော နေရောင်ခြည်၊ လေနှင့် သစ်ပင်များကိုပင် ကျွန်ုပ်တို့ဦးစားရန် လိုအပ်ပေသည်၊ ၎င်းတို့သည်ပင် တနည်းနည်းအားဖြင့် ၎င်းတို့၏ ချစ်ခင် နှစ်သက်မှုရှိနိုင်တတ်ရာ ၎င်းတို့၌ချစ်မေတ္တာ ရှိခြင်းကြောင်း ကျွန်ုပ်တို့ သိထားရလျှင် ၎င်းတို့သည် ပျော်ပျော်ရွှင်ရွှင်ရှိကြပေမည်ဟု ကျွန်ုပ်တို့ သိအပ်ပေသည်။ ထိုကြောင့် သက်ရှိသတ္တဝါ အရာဝတ္ထု အားလုံးအနက် အကြီးကျယ်ဆုံး အပျော်ရွှင်ဆုံးဖြစ်သော ဘုရားသခင်သည်လဲ ချစ်ခြင်း

မေတ္တာ၌အနန္တပွားများလျက်ရှိပေသည်။ ကျွန်ုပ်တို့အသဲနှလုံးများ၌ တွယ်ကပ်တိုးဝင်လာသော ချစ်မေတ္တာမှာ ဘုရားသခင်ထံမှ ရောက်ရှိလာခြင်းပင်ဖြစ်သည်။ပန်းများ၏ထွက် အလင်းရောင်မှာ နေမှရသည်။ ကျွန်ုပ်တို့တွင် ချစ်မေတ္တာစိတ်ဓာတ်များပို၍ ကိန်းအောင်းလာလေလေ ကျွန်ုပ်တို့သည် ဘုရားသခင်နှင့် သူ့အချစ်တော်များအဖြစ် ပို၍နီးကပ်လာလေလေပင်ဖြစ်သည်။

ထိုအကြောင်းကို သင့်အား ပြောပြရခြင်းမှာ သင်၏စိတ်ကြည်နူးခြင်း ဖြစ်ရမည်ကြောင့် ကျွန်ုပ်သည် အလွန်တရာဝမ်းမြောက်ပျော်ရွှင်လျက် ရှိပေသည်၊ဘကယ်ပင် ကျွန်ုပ် ဝမ်းမြောက်လှပါသည်။ သင့်ဖေဖေ၊ မေမေ၊ဆရာမနှင့် သင့်မိတ်ဆွေများ အားလုံးသည်လဲ ပျော်ရွှင်ကြပေမည်။ ထို့ရာတွင် သင်ပျော်ရွှင်သကဲ့သို့ ဘုရားသခင်သည်လဲ ပျော်ရွှင်ပေမည်ဟု သင်မထင်ဘူးလား။ သူလဲပျော်ရွှင်မည်ဟု ကျွန်ုပ်ပြောခဲ့သည်။ သူသည်ကျွန်ုပ်တို့ထက်ပင် ပို၍ပျော်ရွှင်ပါသည်။ အကြောင်းမှာ သူသည်ကျွန်ုပ်တို့ပျော်ရွှင်ကြခဲ့သည် ကို မမြင်စေကာမူ၊ ကျွန်ုပ်တို့အားသူကပျော်ရွှင်အောင်ပြုလုပ်ပေးခြင်းကြောင့်ဖြစ်ပါသည်။နေသည်အလင်းနှင့်အရောင်ကိုနှင်းဆီပန်းအားပေးသကဲ့သို့ဘုရားသခင်သည်လဲ အင်အားပျော်ရွှင်မှုကိုပေးပေသည်။ ကျွန်ုပ်တို့သည်၊ ကျွန်ုပ်တို့၏ မိတ်ဆွေ များ၏ပျော်ရွှင်ခြင်းကိုမမြင်ရဘဲ ကျွန်ုပ်တို့ကိုယ်တိုင်မှာ ထာဝစဉ် ပျော်ရွှင်လျက်ရှိကြပေသည်။ ထို့ရာတွင် ကျွန်ုပ်တို့

က သူတို့အား ဘာများ ပျော်ရွှင်အောင် ပြုလုပ် ပေးကြပါသလဲ။ ကျွန်ုပ်တို့ပျော်ရွှင်အောင် မပြုလုပ်ကြဘူးလား။

သို့ရာတွင် ဘုရားသခင်သည် ကျွန်ုပ်တို့အားပျော်ရွှင်မှုပေးသည်သာမဟုတ်သေး၊ ကောင်းကျိုးကိုလည်းရှေ့ရှုလိုလားပေးသေးသည်။ သူသည်သတ္တဝါအားလုံးအပေါ်၌တသမတ်တည်းသော မေတ္တာဖြင့်လွှမ်းခြုံလျက် ရှိသည်။ ကျွန်ုပ်တို့ တကယ် ပျော်ရွှင် နိုင်ကြ သည်။ ကောင်းကောင်းမွန်မွန်ရှိကြသည်ကို သူသိတော်မူသည်။ ကမ္ဘာပေါ်၌ ခြောက်များစွာသော ဒုက္ခ အပေါင်းမှာ အလွန်ဆိုးရွားသောဆေးဖြစ်သည်။သို့ရာတွင် ထိုဆေးသည်ပင်ကျွန်ုပ်တို့အား သက်သာအောင် ဘုသ ခြင်းဖြင့် ဆေးကောင်းတခက် ဖြစ်လာပေသည်။ ကျွန်ုပ်တို့သည် အသက်တန်းလိုက် နေထိုင်သွားရသော ရေရှူ၏ ခံစားသွားရရှာသည့် ဒုက္ခအပေါင်းကို စဉ်းစားမိကြသော အခါ၊ လူကောင်းများမှာအဘယ်မျှဆင်းရဲဒုက္ခရောက်ရကြောင်းတွေ့နိုင်ပေသည်။ သို့ရာတွင် ၎င်း၏ခံစားချက်မှာ ကောင်းသော ခံစားခြင်းသာဖြစ်၍ အပျော်ရွှင်ဆုံး အကြောင်းအရာများသည်လည်း ကမ္ဘာပေါ်တွင် ထာဝစဉ် တွေ့မြင်ရပေမည်။

ဘုရားသခင်၏ အကြောင်းကို သင့်အား ပြောပြရန် ကျွန်ုပ်နှစ်သက်ပါသည်။ သို့ရာတွင်၊ ဘုရားသခင်သည်

သူကိုယ်တိုင်မေတ္တာတရားဖြင့် သင့်အား ပြောပြပေလိမ့်မည်၊ သူ့မေတ္တာ သင့်အသဲနှစ်လုံးမှာ ကိန်းအောင်းနေချိန်၌ သင်မေးလိုရာ မေးနိုင်ပါသည်။ ဘုရားသခင်ရဲ့ သားတော်ရေရှုမှာလဲ ကလေးများ အားလုံးထက်ကျွန်ုပ်တို့ထက် ဘုရားသခင်အနီးမှာ ပိုမိုချဉ်းကပ်လျက် ရှိပါသည်။ ကျွန်ုပ်တို့ဘခင်ကြီး၏ ချစ်မေတ္တာတော် အနန္တကို ကျွန်ုပ်တို့အားပြောပြရန် လူ့ကမ္ဘာသို့ ဘုရားသားတော် ရောက်ရှိနေပါပြီ၊ အကယ်၍သင်သည် သူ့စကားများကို ဘာသိကြားရလျှင် ဘုရားသခင်၏ မေတ္တာတော် အနန္တသည် ဘုရားသခင်အသဲနှစ်လုံးထဲဝယ် အဘယ်မျှပြည့်ဝစွာ တည်ရှိနေမည်ကို သင်တွေ့မြင်ရပါလိမ့်မည်။ သူကျွန်ုပ်တို့အား ချစ်ခင်မြတ်နိုးကြောင်း ကျွန်ုပ်တို့သိပါသည်ဟု ဘုရားသားတော်က ပြောပြပါသည်။ သူသည် လူများကိုချစ်မြတ်နိုး၍ လူများက သူ့အပေါ်တွင် အလွန်တရာ ရက်စက် ကြမ်းကြုတ်ခြင်း ပြုကြလျှင် နောက်ဆုံးသူ့အား သေကြောင်း ကြံကြလျှင် သူသည် ၎င်းတို့အား လွန်မင်းစွာ ချစ်မြတ်နိုးသဖြင့် သေဆုံးရန်ကိုဘဲ လိုလားပေသည်။ ဟယ်လင်ရေ-သူကတော့ လူများကို ချစ်ခင်ပေသည်။ ကျွန်ုပ်တို့ကိုလည်း ချစ်ခင်ပါသည်။ ကျွန်ုပ်တို့ကသူ့အား ချစ်ရန်ကိုလဲ ကျွန်ုပ်တို့အား သူကပြောကြားပါသည်။

ထိုကြောင့်ချစ်ခြင်းမေတ္တာဆိုသည်မှာအရာခပ်သိမ်း

ကို အောင်မြင်နိုင်သည်။ အကယ်၍ တဦး တယောက်က သင့်အားမေးမြန်းလျှင် သို့မှုဟုတ်သင်သည်ပင် သင့်ကိုယ်ကို ဘုရားသခင်ဆိုသည်မှာ ဘာလဲဟု မေးမြန်းလျှင် ဖြေစရာကား 'ဘုရားသခင် ဆိုသည်မှာ မေတ္တာရှင်' ဟု ပြောလိုက်ပါ၊ သမ္မာကျမ်းစာအရ လှပသော အဖြေမှာ ဒါဘဲဖြစ်သည်။

သင် ကြီးပြင်းလာသည်နှင့်အမျှ ပို၍ပို၍ နားလည်ရန် သင်စဉ်းစားတွေးတောလာသော အကြောင်းအရာ များမှာလဲထိုသည်ပင်ဖြစ်သည်။ယခုထိုအကြောင်းကိုစဉ်းစားလိုက်စမ်းပါဦး သင်၏ချစ်စွာသော ဘခင်သည် သင့်ထံသို့ မေတ္တာရေ ပက်ဖြန်း လိုက်သဖြင့် သက်ရှိ သတ္တဝါတိုင်းအား ကြည်ကြည် နူးနူးနှင့် ကောင်းချီးမင်္ဂလာ ပြုနိုင်ပါစေ။

ကျွန်ုပ်ပြန်လာပြီးသည်နောက်မကြာမီသင်လဲ ဘော့စ်တွန်မြို့သို့ ပြန်လာလိမ့်မည်ဟု ကျွန်ုပ်တို့ မြော်လင့်ပါသည်။ စက်တင်ဘာလအလည်လောက်တွင် ကျွန်ုပ်တို့လဲ ဘော့ စ် တွန်သို့ပြန်ရောက်လိမ့်မည်၊ အရာခပ်သိမ်း အကြောင်းစုံ တခုမကျန် ကျွန်ုပ်အား ပြန်လည် ပြောကြားစေချင်ပါသည်။ မြည်းကလေးကိုလဲ မမေ့ပါနှင့်။

ကျွန်ုပ်၏ကြင်နာသော သဘောရခြင်းကို သင်နှင့် တကွ

သင့်ဖေဖေ၊ မေမေ၊ သင့်ဆရာမတို့အား ပြောပြပါ၊ သင်၏ညီမကလေးကိုလဲ ကျွန်ုပ်တွေ့လိုပါသည်။

ဝွတ်ဘိုင် ချစ်စွာသော ဟယ်လင်ရေ ဘော့စ်တွန်မြို့သို့ လိပ်စာတတ်၍ မကြာမီ ကျွန်ုပ်ထံစာပြန်ရေးပါဦး။

သင်၏ချစ်စွာသောမိတ်ဆွေ
'ဖိလစ် ပ် စ် ဘရု ခ် စ်'

ဒေါက်တာ ဟောလ်၏ ပြန်ကြားစာ။

ပေးစာတစောင်မှာ ပျောက်ဆုံးသွားပါသည်။

အိဗ္ဗါလီ ဖွခ်းစ်,မ်တ်စ်,ဩဂုတ်လ(၁)ရက် ၁၈၉၀ ခုနှစ်။

ကျွန်ုပ်၏ချစ်စွာသောမိတ်ဆွေမှာကလေးဟယ်လင်

လွန်ခဲ့သော ရက်ပေါင်း အတော်ကြာကထဲက သင့်ထံမှ နှုတ်ခွန်းဆက်စာကို ကျွန်ုပ်ရရှိခဲ့ပါသည်။ သို့ပေမဲ့ သူတို့ထံမှအဖြေမရမီစောင့်ဆိုင်းရင်း ကျွန်ုပ်၏စာများကို အပြန်ပြန်အလှန်လှန် ရေးသားနေရသဖြင့် ကြန့်ကြာသွားခြင်းဖြစ်ပေသည်။

ကျွန်ုပ်အား လွန်စွာသတိရကြောင်းကို သိရသဖြင့် များစွာပင် ဝမ်းမြောက်လှပါသည်၊ သင်၏စာမှာ ကြည့်နူးနှစ်သက်စရာများချည့်မို့. အထူးတလည် ကျွန်ုပ်ကြေနပ်လျက်ရှိပေသည်။ သင့်ကျန်းမာပျော်ရွှင်ကြောင်းသိရလို့လဲ ကျွန်ုပ်ဝမ်းမြောက်ရပြန်သည်။ သင်၏တိုးတက်မှုဖြင့်ဆောင်ရွက်ချက်သစ်–အကြောင်းကြားရခြင်းကြောင့် အလွန်တရာ ကျွန်ုပ် ရွှင်လန်း ဝမ်းမြောက် မိသည်။

ထိုအကြောင်းမှာ၊သင်၏လက်ချောင်းများနှင့် စကားပြော နိုင်သလို ပါးစပ်ဖြင့် စကားပြောလာနိုင်ကြောင်းပင် ဖြစ်ပါသည်။ ဘယ်လောက်ထူးဆန်းသော စကားပြောမှုတခု ပါလဲ။ လျှာသည် (အသိုရှိသလို ပုံသဏ္ဌာန် အမျိုးမျိုး ဆောင်ရွက်နိုင်သော) အလွန်အသုံးဝင်သည့် လူကြီးလူ ကောင်းတယောက်နှင့် တူပါသည်။ ပါးစပ်၏ အမိုးများ သဘွယ်ဖြစ်သော နှုတ်ခမ်းများ၊ သွားများက ကူညီရန် အားလုံးအဆင်သင့်ရှိကြသည်။ ကျွန်ုပ်တို့(ဗျည်း)ဟုခေါ် သောအခြေခံများထဲသို့ အသံ၏ထွက်ပေါ်မှုကို ရပ်ပုံလျက် (သရများ) ဟု ကျွန်ုပ်တို့ခေါ်ဆိုသည့် အသက်ရှူခြင်း ပုံသဏ္ဌာန်အတွက် အဆန်းတကျယ်အခန်း ပြုလုပ်ပေး ထားကြသည်၊သင်စကားစတင်ပြောရန် လေ့ကျင့်ကထဲ က ဤအကြောင်းအရာအားလုံးကို ရင့်ကျက်စွာ ဆည်းပူး ထားပြီးဖြစ်မည်ကို ကျွန်ုပ်သံသယမရှိပါ။

အထက်းတန်းကျကျဖြင့် ဘာသာစာပေကို သင်ရေး လိုက်သောစာအရ တွေ့မြင်ရသဖြင့် ကျွန်ုပ်အံ့သြမိပါ သည်။ကမ္ဘာကြီးသည် မျက်မမြင်နားမကြားသူများအား ဆန္ဒပြည့်ဝစွာ လူချင်းတူလာစေသည်ကို ကျွန်ုပ်စဉ်းစား နေပါသည်။ လူများသည် နည်းလမ်းအမျိုးမျိုးဖြင့် သာ ယာမှု ရှာလာကြခြင်းသာ ဖြစ်ကောင်း ဖြစ်လိမ့်မည်။ အဘယ်ကြောင့်ဆိုသော် သူတို့သည်ယနေ့ပြုလုပ်သကဲ့သို့ ခုခံမှုတိုက်ခိုက်နိုင်ကြခြင်းကြောင့်ဖြစ်ပါသည်။မျက်မမြင် များ ဖွဲ့စည်းထားသော အမြောက်သေနတ်ကိုင် စစ်တပ်

တတပ်ကို စဉ်းစားစမ်းပါ။ သနားစရာကောင်းသော တီး မှုတ်သူများအကြောင်းကို တွေးကြည့်စမ်းပါ။ သူတို့၏ ဖုံများကိုတီးခတ်သော တုတ်ချောင်းများက သူတို့အား ဘာများအသုံးချနိုင်ပါမည်တဲ့လဲ။ သင်သည်များစွာသော အမြင်အကြား ဝေဒနာမှ ချမ်းသာခွင့်ရခဲ့ကာ ထွက်ပြေး လွတ်မြောက် လာခဲ့ရသည့် ပျော်ရွှင်မှုကို လက်ကိုင်ပြု ထားရသူဖြစ်သည်။ထိုနေ့ဂက်သင်အသက်ရှင်နေသည်နှင့် အမျှ အဘယ်မျှလောက်သော ထောက်ထားကြင်နာခြင်း တရားများက သေသေချာချာသင့်ထံသို့ ရောက်ရှိနေပြီကို စဉ်းစားကြည့်စမ်းပါ။ လူတိုင်းလူတိုင်းသည် ချစ်စရာ ကောင်းသော ဟာယ်လင်ကလေးနှင့်ပါတ်သက်၍ စိတ်ဝင် စားကြပါလိမ့်မည်။ သူမအတွက် လူတိုင်းလူတိုင်းသည် တစုံတရာကို ပြုလုပ်ပေးရန် လိုလားကြပေလိမ့်မည်။ အကယ်၍ သူမသည် ခေါင်းဖြူ၍ အသက်အရွယ် ကြီး ရင့်သော အမျိုးသမီးကြီး ဖြစ်လာသျှင် သူမသည် သတိ တရားဖြင့် တွေးတော စဉ်းစားခြင်းကို အမှန် ပြုလုပ် ပေမည်။

သင်၏တိုးတက်လာမှုအတွက် သင့်မိဘများနှင့် မိတ် ဆွေများမှာ အလွန်အကြူး အထူးတလည် စိတ်ကြွနိုပ် ခြင်းရှိကြပေမည်။ သင့်အဘိုးသာလျှင်ဟုတ် သင့်အား အမြင်အကြားကို ဆိတ်ကာ ပိတ်ဆို့ထားသည့် နံရံများ အားလုံးချိုးဖဲ့ပစ်ပေးသော သင်၏နည်းပြဆရာများကိုပါ ကျေးဇူးဆပ်စရာတွေ ရှိနေပေသည်။ ယခုအခါ၌ သင်

သည့် မြင်ခြင်းကြွားခြင်းရှိသော ကလေးသူငယ်ပေါင်း မြောက်များစွာထက် ပိုမို၍ ပျော်ရွှင် ကြည်နူးလိမ့်မည် ထင်ပါသည်။

ချစ်စွာသော ဟယ်သင်ကလေးရေ ဝှက်–ဘိုင်။ သင်၏ မိတ်ဆွေထံမှ ဆန္ဒပြည့်ဝစွာသော ထောက်ထားညှာတာမှုတိုင်းဖြင့်....

အမြဲုင်းလစ်ဗွါဝင်ဒဲလ် ဟောလမိုးစ်

အောက်ဖော်ပြပါစာများ၌ ပါရှိသော တွန်မီစထရင်ဂျာမှာ အသက်(၁၄) နှစ် အရွယ်တွင် မျက်မမြင် နားမကြား ဖြစ်လာတော့သည်။ သူ့အမေမှာ ကွယ်လွန်၍ သူ့အဖေမှာ သူ့ကို ဂရုမိုက်ရန်မှာ အလွန်တရာ ဆင်းရဲနွမ်းပါးသူ ဖြစ်ပေသည်။ သူ့အား အောင်လက်ခ် ဟင်နီမြို့ဆေးရုံ ဘွင်ခေတ္တခဏတင်ထားရသည်။ သူ့အား၍နေရာမှ ဒုက္ခိတနေထိုင်ရာ အိမ်စုဘက်ကလေးသို့ ပြောင်းရွှေ့ပို့ရပြန်သည်။ ထိုအချိန်တွင် 'ပင်ဆီလ်ဗင်နီးယား'မြို့၌သူ့အတွက် တခြားနေရာ မရှိပါ။ ဟယ်လင်သည် သူ့အကြောင်းကို တွန်မီအတွက် နည်းပြဆရာ တဦး အဖြစ်မှ ပျက်ကွက်ခဲ့ရပြီ ဟူအော(ပစ် တ် စ် ဘတ်၍)မြို့မှမစ္စတာ ကျေဂျီ ဘရောင်းထံ စာရေး အကြောင်း ကြားခြင်း ဖြင့် ကြားသိရပေသည်။ သူမသည် မျက်မမြင်ကလေးအား ဘော့စ်တွန်မြို့သို့ ခေါ်ယူလိုသော ဆန္ဒရှိသဖြင့် ငွေကြေးလိုအပ် လာတော့ရာ၊ သူမှာသည် သူ့အ တွက် ဆရာတ

ယောက် ရရှိနိုင်ရေး ငွေလိုမှုကို 'ကျမတို့ ထိုငွေကို ရှာ အောင်ရှာမည်'ဟုကြွေးကျော်ကာသူမ၏သူငယ်ချင်းများ ထံမှ ငွေအလှူ ခံသည့် သာမက သူမပိုင် မှုံဘိုးများထဲမှ လဲ စတင်စုဆောင်းပေတော့သည်။

ဒေါက်တာ အလက်ဇန္ဒာဂရာဟမ်ဘဲလ်သည် တွန်မီ ၏ သူငယ်ချင်းများအား တွန်မီကို ဘော့စ်တွန်မြို့သို့ပို့ရန် အကြံဥာဏ်ပေးသည့်အတိုင်း၊ ပါကင်စ်စာသင်ကျောင်း အုပ်ချုပ်ရေးမှူးများကလည်း၊ တွန်မီအား မျက်မမြင် သင်ပုန်းကြီးတန်းသို့သင်ကြားရန် သဘောတူညီလိုက်ကြ ပေသည်။

ထိုအချိန်မှာပင် ဟဲလင်သည် တွန်မီ၏ ပညာရေး အ တွက် ထောက်ပန့်မှုပြုရန် စဉ်းစားစရာတချက် အကွက် ကောင်းပေါ်ပေါက်လာပေသည်။ဆောင်းရာသီ မတိုင်မှီ ပင် သူမ၏ ခွေးခြသေ့မမှာ သေဆုံးသွားခဲ့၍၊ သူမ၏မိတ် ဆွေများသည်၊ ဟဲလင်အား နောက်ထပ် ခွေးတကောင် ထပ်မံဝယ်ရန် ငွေများ စုဆောင်း၍ ပေးကြလေသည်။ ဟဲလင်သည် အမေရိကန်ပြည်နှင့် အင်္ဂလန်ပြည်ရှိ သူမ မိတ်ဆွေများက ဗိုင်းဝန်းပို့ကြသောငွေများကို တွန်မီ၏ ပညာရေးတွင်ခွဲဝေ၍ အသုံးချနိုင်–မချနိုင်လှမ်းမေးလိုက် လေသည်။ ဤသို့သော စိမ်ချက် အသစ်ဖြင့် ရံပုံငွေများ တစတစ တိုးတက် လာရာက၊ တွန်မီ အတွက် ပြည့်စုံ လုံလောက်လာပေသည်။ တွန်မီအား ဧပြီလ ၆ ရက်နေ့

တွင် သင်ပုန်းကြီး တန်းသို့ ဝင်ရောက် သင်ကြားခွင့် ရ လေသည်။

မစ္စကယ်လာက နောက်များမကြာမီ စာရေးလိုက်လေသည်။ 'ကျွမသည် တွန်မီကလေးကဲ့သို့သောဆင်းရဲသားကလေးတယောက်အား ပိုင်းဝန်း ထောက်ပန့် ကြသည့် ငွေကြေးရှင်များကို ဘယ်တော့ချ မေ့ပျောက်ပစ်နိုင်လိမ့်မည် မဟုတ်ပါ။ ကျွမ မမြင်ဘူးသော အနီးအဝေးရှိ လူများ၏လျှင်မြန်လှသည့်ဂရုဏာတရားဖြင့် မေတ္တာပွားကာ ကူညီမှုအတွက် အားကိုးရာမဲ့ ဆွံ့အ, နားမကြားသူ ကလေး၏ ငိုယိုမြည်တမ်းခြင်းမှ တာဝန်ယူဆောင်ရွက်ပေးကြသူများအား ဘယ်အချိန်အခါချ ကျွမမေ့ပျောက်နိုင်လိမ့်မည်မဟုတ်ပါ'ဟု ပါလေသည်။

ဒေါက်တာ အိုလိုင်ဘာဝဲဒဲလ် ဟောလ်မီးစ်ထံသို့—

တောင်ပိုင်း ဘော့စ်တွန်မြို့၊ မတ်စ်၊
ဧပြီလ၊ ၁၈၉၁-ခုနှစ်။

ချစ်ခင်သော ဒေါက်တာ ဟောလ်မီးစ်—

ဤတောက်ပ သာယာသော ဧပြီလ နေ့ရက်များတွင် ကျွမ၏အသဲနှလုံး၌ ကြည်နူး စေသည့် မိုးဇ်း ရာ သီ အကြောင်းကို စီကုံးရေးသားထားသော ရှင်၏ချစ်စဖွယ် စာလုံးများက ကျွမအား ပျော်ရွှင်စေပါသည်။ကျွမသည် မိုးဇ်းရာသီဟူသောစာလုံးနှင့်'မိုးဇ်းရာသီကားရောက်လာပါပြီ'ဟူသောကဗျာကို ချစ်မြတ်နိုးပါသည်။ဤကဗျာများသည် ကျွမအား ပျော်ရွှင်မှုကိုသင်ကြားပေးပါသည်ဟု

ကြားရလျှင်ရှင်ဝမ်းသာသိမ့်မည်ထင်ပါသည်။ပွင့်နေကြသောပန်းများအနီးသို့ ချဉ်းကပ်ခါ၊ မကြည့်မြင်နိုင်သောလည်း၊ အိပ်တန်း တက်ကြမည့် ငှက်များ၏ ပျော်ပျော်ရွှင်ရွှင် တွန်ကျူးသံကိုမကြားနိုင်သော်လည်း၊လှပသောမိုးဦးရာသီချိန် ရောက်လာ လျှင်တော့ ကျမ စိတ်ခါတ်ကလေးကြွကာ ပျော်မြူးလာပါသည်။သို့ရာတွင် ' မိုးဦးရာသီ ရောက်လာပြီ ' ဟူသော ကဗျာကိုကျမဘတ်ရချိန်၌ကြည့်စမ်းပါဦးရှင်၊ကျမဆက်လက်၍မျက်စိမကန်းတော့ပါ။ အကြောင်းမှာ ကျမသည် ရှင့်မျက်လုံးများနှင့်ကြည့်ခါ ရှင့်နားများဖြင့် ကြားရသောကြောင့် ဖြစ်ပါသည်။ ကျမကဗျာအနီး၌ရှိသောအခါ ကျမထံမှသဘာဝမိခင်ပျိုသည်လှိုင်ငှက်ချက်များကိုဖွင့်ထုတ်လျက်ရယူနိုင်ပါသည်၊ ကျမ၏ ကြီးမားလှသောမေတ္တာဒုဖြင့် ရှင်သိအောင် ပြောပြလို၍ ဒေါင့်တွင် ငိုင်အိုလက် ပန်းမှုံများတင်နေသသို၍စက္ကူကို ကျမရွေးချယ် ရေးလိုက်ရခြင်း ဖြစ်ပါသည်၊ ကျမတို့၏ လှပသောဥယျာဉ်ထဲတွင် ယခုရောက်ရှိလာပြီဖြစ်သည့် မျက်မမြင်၊ နားမကြား၊ ဆွံ့အ နေသော တွန်ကလေးကို ရှင်စောင့်ရှောက်စေချင်ပါသည်။ ယခုအချိန်၌ သူသည် ဆင်းရဲ၍ ကျည်းသော တယောက်ထည်းသော ဒုက္ခိတ ကလေး ဖြစ်ပါသည်။ သို့ရာ တွင် နောက် ငြီလ ပညာရေးနှစ်မတိုင်မီ၏ဘဝမှာ ပျော်ရွှင်ခြင်းဖြင့်ပြီးသော လင်းရောင်ခြည်ရတော့မည် ဖြစ်ပါသည်။ အကယ်၍ ရှင်ရောက်လာလျှင် တော့စ်တွန်မြို့ရှိ သနားကြ

နာ တတ်သော လူများအား တွန်မီ၏ ဘ၀သက်တာတ လျောက် ထွန်းလင်းတောက်ပြောင်ရေးအတွက်ကူညီနိုင် ရန်မေးမြန်းလိုပေလိမ့်မည်ဖြစ်ပါသည်ရှင့်။

ရှင်၏ ချစ်စွာသော မိတ်ဆွေ
ဟဲလင်ကယ်လာ။

ဆာလျှန် အဲဗရက် မင်လေးစ်
မျက်မမြင် ပါကင်စ်စာသင်ကျောင်း
တောင်ပိုင်း ဘော့စ်တွန်မြို့၊ မတ်စ်၊
ဧပြီလ ၃၀ ရက်။ ၁၈၉၁ ခုနှစ်။

ကျွမ၏ ချစ်စွာသော မစ္စတာ မင်လေးစ်–

ရှင်၏အမေရိကန်သူ ညီမကလေးက ရှင့်ထံသို့ စာတစောင် ရေးသားလိုက်ပါသည်။ အကြောင်းမှာ၊ရှင်သည် ကျွမတို့၏ဆင်းရဲသော တွန်မီ ကလေးထံ ပညာရေး အတွက် ငွေတင်ပို့လိုက်ခါ စိတ်ပါ၀င်စားခြင်း အကြောင်း ကြားသိရသဖြင့်၊ ကျွမ အ ဘယ် လောက် ၀မ်း မြောက် ပျော်ရွှင်သည်ကိုရှင်သိစေလိုသောကြောင့်ဖြစ်ပါသည်။ အမေရိကန်ပြည်၌ အကူ အညီ ကင်းမဲ့စွာ နေထိုင်ရသူ ကလေးတဦး ၀မ်းပမ်းတနည်း ဖြစ်နေမည်ကို ဝေးကွာ သော အင်္ဂလန်ပြည်ရှိသူများက တွေးတော စဉ်းစားကြခြင်းမှာ အလွန်တရာ သင့်မြတ် လှပါ ပေသည်။ ရှင်တို့၏ မြို့ တော်ကြီး အ ကြောင်း ကို ကျွမ၏စာ အုပ် ထဲ၌ ဖတ်ရှုရသောအခါ၊ကျွမ စဉ်းစားခန်း ၀င်လာပါသည်။ ထိုဒေသသို့ ကျွမအလည်အပတ်သွားသောအခါ။သူများ

မှာ ကျမအတွက် တစိမ်း ပြင်ပြင် ဖြစ်နေ ပါလိမ့်မည်။ သို့သော် ယခုတော့ ကွဲကွဲပြားပြား ကျမသိနေပြီးဖြစ်ပါသည်။ စိတ်သဘောထားကောင်း၍ချစ်မြတ်နိုးဘတ်သော လူများအားလုံးမှာ၊ တယောက်ကို တယောက် တစိမ်း ပြင်ပြင် နေကြမည်မဟုတ်ဟု ကျမထင်ပါသည်။ ကျမ၏ ချစ်ဌာသော အင်္ဂလိပ် အမျိုးသမီး အမျိုးသား မိတ်ဆွေများကို တွေ့မြင်နိုင်ဘို့ သူတို့၏လှပသာယာသော နေအိမ်ကျွန်းကိုရောက်ရှိနိုင်ဘို့ အချိန်အခါ အခွင့်ကောင်းကိုဘဲ သီးခံ၍ကျမအသက်ရှူမှားမျှစောင့်ဆိုင်းနေပါသည်။ ကျမ အင်မတန်ကြိုက်နှစ်သက်သောကဗျာလင်္ကာကို အင်္ဂလိပ်ဘာသာဖြင့် ရေးထားပါသည်။ ရှင် လဲထိုကဗျာလင်္ကာများကိုကြိုက်နှစ်သက် လိမ့်မည်ဟု ကျမထင်ပါသည်။ သို့ကြောင့်ပင် ထိုကဗျာလင်္ကာကို ရှင့်အတွက် ကျမရေးသား ဖေါ်ပြလိုက်ပါသည်။

လိမ့်ကာလိမ့်ကာလာသော လှိုင်းလုံးကို တွဲလွဲ ခိုရင်း ဖွေ့ဖက်လို့သာ အနားကွပ်ထားသော ပင်လယ်မြေ့ာ်မှ လဟာပြင် တောင်တန်းဆီသို့ ကူစက်ဖက်၍ အမြစ်တွယ်လျက် နေသော ဗြိတိသျှ ဝက်သစ်ချပင်ကို သူမ၏ သေးသွယ်သည့် လက်ကလေးဖြင့် အတူတကွ ဆုတ်ကိုင်လျက် ဖြူဖြူ ဖွေးဖွေးကျောက်နံရံများနှင့် စိမ်းလန်းစိုပြေသော ပန်းအုံ ပန်းနွယ်များရယ်–

ပင်လယ်ပြင် ကျဉ်းမြောင်းသွားအောင် သူမ၏ ပွတ်သပ်ချော့မော့ခြင်းဖြင့် အပ်ချည်မြှင်ပမာ တောင်ကုန်းများအကြားမှာ တသွင်သွင် စီးဆင်းလျက်သော ကျွန်ုပ်တို့၏မိခင်မြို့ ကျွန်းကလေးအား ဘုရားသခင်သည်ကောင်းချီးမင်္ဂလာ ပေးပါစေ။

တွန်မီအတွက်စာသင်ရန်သနားကြင်နာတတ်သောအမျိုးသမီးကြီးတဦးရှိနေကြောင်းရှင်ကြားသိရ၍ ပျော်ရွှင်ဝမ်းမြောက် လိမ့်မည် ထင်ပါသည်။ တွန်မီသည် ချောမောလှပ၍သွက်လက်ဖြတ်လပ်သောကလေးတယောက်ဖြစ်ပါသည်။ သူသည် စာလုံး ပေါင်းရန်ထက် အထက်ဆင့်သို့ တက်ရောက်ရန် လိုလားပါသည်။ အဘယ်ကြောင့်ဆိုသော် သူသည် အံ့ဩဘွယ်ရာ ကောင်းသောဘာသာပညာအကြောင်းကို မသိသေးပဲ ဖြစ်သည်။ သူ၏ အတွေ့အကြုံများကို ကျမတို့အား ပြောပြနိုင်သော အချိန်၌ သူသည် အဘယ်မျှအလွန်လွန် ပျော်ရွှင်လာလိမ့်မည်ကို မတွေးတော မစဉ်းစား နိုင်သေးပါ။ ကျမတို့သည် သူ့အား အဘယ်မျှ သံယောဇဉ် ကြီးစွာ ချစ်ခင်လာခဲ့ကြရပုံကို သူ့အားပြောပြနိုင်ပါသည်။ ဧပြီလသည် နံနက်ဖြန်၌ ချစ်ဖြတ်နိုးဘွယ်ရာ မေလ၏ ပန်းများအောက် ဝယ်ပျက်ရည်သည်ရှိ နှင့် ဒုပ်လွှီးပုံးအောင်းသွားရှာ တော့မည်၊ အင်္ဂလန်ပြည်၌ မေလ၏ နေ့ရက်များသည် ကျမတို့ ဆီမှာကဲ့သို့ လှပ တင့်တယ်မှု ရှိကြသည်ကို ကျမ အံ့ဩမိပါသည်။

ယခုကျမ ငွတ်ဘိုင်ဟု နှုတ်ဆက်ရပါမည်။ ကျမအား ရှင်၏ ချစ်လှစွာသောညီကလေးကဲ့သို့ကျေးဇူးပြု၍ ထာဝစဉ် သတိရပါရှင့်။

ဟယ်လင်ကယ်လာ။

တွန်မီအတွက် ဆရာတယောက် မတွေ့ရှိမီ သူ့အား ဟယ်လင်နှင့် မစ္စဆူလီဗင်တို့က ထိန်းသိမ်းစောင့်ရှောက်ထားကြပြီးမှ သင်ပုန်းကြီးတန်းသို့ ဝင်ရောက်သင်ကြားစေခြင်း ဖြစ်ပေသည်။ ဟယ်လင်၏ တောင်းဆိုချက်အရ ဘုန်းတော်ကြီးဘရုခ်စ်သည် သိပ်စာတခုပေးလိုက်သည်။ ဟယ်လင်သည် သတင်းစာမှနေ၍ စာရေး အကြောင်းကြားလိုက်ရာ များပြားသော စာများ ရောက်ရှိလာလေသည်။၎င်းစာများအားလုံးကိုသူမတယောက်တည်းခေါင်းခံ၍ပြန်ကြားသည်။သူမသည်။ပြည်သူ့အတွက်စာများကို သတင်းစာတိုက်သို့ပို့သည်။ ၎င်းစာသည် အလှူငွေထည့်ဝင်လိုသူများ၏စာရင်းအပြည့်အစုံတခုနှင့်အတူ'ဘော့စ်တွန် ဟာရဲလ်'သတင်းစာ အယ်ဒီတာထံသို့ ရေးသောစာဖြစ်သည်။ အလှူငွေများမှာ ဒေါ်လာငွေပေါင်း တထောင့်ခြောက်ရာထက်ပင် ကျော်လွန်လာလေသည်။

မစ္စတာ ဂျွန် အိပ်ချ် ပောလ်မီးစ် ထံသို့—

တောင်းပိုင်းဘော့စ်တွန်၊မေလ ၁၃–ရက်၊၁၈၉၁–ခု။
ဘော့စ်တန် ဟာရဲလ် အယ်ဒီတာရှင့်၊

ကျမ၏ချစ်စွာသော မစ္စတာ ပောလ်မီးစ် ပူးတွဲပါ

စာရင်းကိုကျေးဇူးပြု၍၊ဟားဘရဲလ် သတင်းစာ၌ ထည့်သွင်းဖော်ပြပါမည်လား။ ရှင်၏ သတင်းစာဘာဘ် ပရိသာတ်သည်ချစ်စရာကောင်းသောတွန်မီကလေးအတွက်နေရာချထား ပြီးစီးကြောင်းကို သိရသဖြင့် ဝမ်းမြောက်ဝမ်းသာဖြစ်ကြပါလိမ့်မည်။ ၎င်းပြင် သူတို့သည် သူတို့၏ ပျော်ရွှင်ခြင်းနှင့်အတူ တွန်မီအား အကူအညီပါ ဝေငှပေးကြပါလိမ့်မည်။ သူသည်သင်ပုန်းကြီးတန်း၌။ဘကပ်ပင်တလွှန်တရာ ပျော်ရွှင်နှစ်မြို့နေရှာပါသည်။ နေ့တိုင်းပင်တစုံတရာကို လေ့လာ သင်ကြား နေပါသည်။ သူသည်သော့ခတ်ထားသော တံခါးမကြီးများကို တွေ့ရှိနေပါပြီ။ တုတ်ကလေးများနှင့် စက္ကူရုတ် ကလေးမှားဖြင့် လွယ်လွယ်ကူကူ သော့ပေါက်ထဲသို့ထိုးထည့်နိုင်ပါပြီ။ သို့ရာတွင် သူတို့ အထဲသို့ ရောက်လာ ပြီး နောက် ရ ရှိ ရန်လွှန်မင်းစွာ စိတ်အား ထက်သန်ခြင်း မှရှိ ရှာဟု ထင် ပါသည်။ သူသည် စာလုံး ပေါင်း သင် ကြား ရန် ထက်ကုတင် တိုင်များ ပေါ်သို့တက်ရန် လိုလား ပါ သည်။ ခေါက်ထားသော တံခါးရွက်ဝက်အရွရစ်များကိုဖြုတ်လို ပါသည်။ ထိုသို့ဖြစ်နေခြင်းမှာလည်း စကားလုံးများသည် သူ့ကို ကူညီလိမ့်မည်။ ဆန်းသစ်သောစိတ်ဝင်စားဘွယ်ရာများ တွေ့ရှိလိမ့်မည်ကို နားမလည် သောကြောင့် ဖြစ်ပါသည်။ စိတ်ကောင်းစေတနာ ရှိကြသူများမှာ တွန်မီအတွက် ပညာရေးရံပုံငွေ မပြည့်စုံမချင်း ဆက်လက်၍ကူညီကြလိမ့်မည်ဟု ကျမမြှော်လင့်ပါသည်။ ပညာရေး

မှာ သူ့ဘဝ၏အလင်းရောင်ပျော်ရွှင်မှု များကို ပေးမည် ဖြစ်ပါသည်ရှင့်။

ရှင်၏မိတ်ဆွေမကလေး
ဟယ်လင်ကယ်လာ၊

× × × ×

ဘုန်းတော်ကြီး ဖိလစ်ဗ်စ် ဘရုခ်စ် ထံသို့—
တောင်ဂိုင်း ဘော့စ်တန်၊ ဇွန်လ ၈ ရက်။ ၁၈၈၁။

ကျမ၏ချစ်ခင်သော မင်္ဂလာ ဘရုခ်စ်ရှင့်—

တပည့်တော်မ ဂတိပေးခဲ့သည့်အတိုင်း အရုပ်ကားကို အရှင်ဘုရားထံ ပို့လိုက်ပါသည်။ ထိုအရုပ်ကားကို အရှင်ဘုရား ကြည့်မိလျှင် ဤနွေရာသီ၌ အရှင် ဘုရား၏ စဉ်းစား တွေးတောချက် များမှာ အရှင် ဘု ရား ၏ ပျော် ရွှင် စွာ နေ တတ် သော မိတ် ဆွေ မ က လေး ရှိရာ တောင်ဂိုင်းသို့ ပျံသန်း လာလိမ့်မည်ဟု တပည့်တော်မ မျှော်လင့်မိပါသည်။ တပည့်တော်မသည်။ တပည့်တော်မ ပြုလုပ်သော ရုပ်ထုများကဲ့သို့၊ တပည့်တော်မ၏ လက်နှစ်ဘက်နှင့် ကိုင်တွယ် စမ်းသပ်၍ ကြည့်ရှုနိုင်ရန် လိုလားပါသည်။ သို့ရာတွင် ယခုအခါ၌ တပည့်တော်မသည်။ ထိုအကြောင်းကို မကြာခဏ မစဉ်းစားပါ၊ အကြောင်းမှာ တပည့်တော်မ၏ ချစ်သော ဖေဖေသည်။ တပည့်တော်မ မမြင်နိုင်သော အကြောင်းအရာများလှပသော အရုပ်ကားများဖြင့် ကျမစိတ်ကို ဖြေဖျော်ပေးခဲ့လို့ဘဲ ဖြစ်ပါသည်။ ချစ်ခင်သောမင်္ဂလာ ဘရုခ် စ်

အကယ်၍ အလင်းရောင်သည် အရှင်ဘုရား၏ မျက်လုံးများထဲ၌ မရှိလျှင် အရှင်ဘုရား၏ ဟယ်လင်ကလေးသည် အဘယ်မျှလောက် ပျော်ရွှင်နေပုံကို နားလည်သင့်ပါပြီ။ သူမ၏ဆရာမကသူမအား ရှင်းလင်းပြောပြသဖြင့် ကမ္ဘာပေါ်တွင် အကောင်းဆုံးနှင့် အလှပဆုံး အရာဝတ္ထုများကို မမြင်နိုင် ထိတွေ့ မသိနိုင်စေကာမူ ယခုအချိန်၌ အသဲထဲငယ် စွဲမြဲနေခဲ့ပါပြီ၊ နေ့တိုင်းနေ့တိုင်း တပည့်တော်မအဘို့ ပျော်ရွှင်စရာ တခုခုတော့ တွေ့ရပါသည်၊ လှပသော လှုပ်ရှားမှုတခုခုသည်။ ဘာဖြစ်ကြောင်းကို တပည့်တော်မ မနေ့က ပဌမအကြိမ် စဉ်းစား တွေးတောမိခဲ့ပါသည်။ အရာဝတ္ထုတိုင်းသည် ဘုရားသခင်အနီးသို့ ချဉ်းကပ်နိုင်ရန် အားထုတ်နေကြသည်ဟု ထင်ပါသည်။ အရှင်ဘုရားလည်း ထိုအတိုင်းပင် ထင်ပါသလား။ တနင်္ဂနွေနေ့ နံနက်ဖြစ်ပါသည်။ တပည့်တော်မသည် စာဘတ်ခန်းတွင်ထိုင်၍ ဤစာကို အရှင်ဘုရားထံသို့ရေးနေစဉ် အရှင်ဘုရားသည် ရာပေါင်း များစွာသော လူအပေါင်းအား ကောင်းကင်ဘုံ ရှိသူတို့၏ဘခင်အကြောင်းကို ခမ်းနားကြီးကျယ်၍ လှပသည့် အရာဝတ္ထုများနှင့်အတူ ဟောကြားနေမည် ဖြစ်ပါသည်။ အရှင်ဘုရားသည် အလွန့်အလွန် မပျော်ရွှင်ပါသလား၊ အရှင်ဘုရားသည် ရဟန်းတော်တပါးဖြစ်လာသောအခါ ပို၍ပို၍ပျော်ရွှင်ဘွယ်ရာ တရားမွေများကိုဟောပြော ဆုံးမတော် မူသည် သာ ဖြစ်ပါသည်။ ဆရာကော သူမ၏ အကျင့်နာ တရား

ဖြင့် သတိရခြင်းကိုရင်း၊ တပည့်တော်မသည် ချစ်လှစွာသော မေတ္တာရေနှင့် တပည့်တော်မ၏ အရုပ်ကားကိုရင်းအရှင်ဘုရားထံသို့ ပေးပို့လိုက်ပါသည်ဘုရား။

အရှင်ဘုရား၏မိတ်ဆွေမကလေး
ဟယ်လင်ကယ်လာ။

ဇွန်လ၌ ပါကင်စ်စာသင်ကျောင်း ပိတ်သောအခါ ဟယ်လင်နှင့် သူ့ဆရာမ တို့သည် တောင်ပိုင်း တခုစ်ကမ်ဘီသာ မြို့သို့ထွက်ခဲ့ကြ၍ ဒိဇင်ဘာလ တိုင်အောင်နေထိုင်ကြပေသည်။ စာထဲတွင် လပေါင်းမြောက်များစွာ၏ အမှားအယွင်းချွတ်ချော်ချက်တရပ် ပါရှိပေသည်။ ထိုအကြောင်းမှာ 'ဆီးနှင်းဘုရင်' သီ ခြားဝတ္ထုနှင့် ပတ်သက်၍ မစ္စဆူလီဗင်နှင့် ဟယ်လင်တို့အား စိတ်ပျက်အားငယ်အောင် ထိခိုက်လာခဲ့ခြင်းကြောင့် ဖြစ်ပေသည်။ ထိုအချိန်၌ ဤဒုက္ခသည် ၎င်းတို့အား ပျော်ရွှင်မှုဆိတ်သုဉ်းစေ၍ အလွန်တရာအရေးကြီးနေပုံ ရပေသည်။ အမှု အကြောင်းနှင့်ပတ်သက်၍ နေရာတကာ အချင်းအမြစ်သိရအောင် စုံစမ်းသမှုပြုရသည်။ မစ္စကယ်လာသည် ထိုအကြောင်း နှင့် ပတ်သက်၍လည်း သူမ၏ အဖြစ်အပျက်ကို ရေးသားခဲ့ပြီး ဖြစ်ပေသည်။

ဤစာသည် ၁၈၉၂-ခုနှစ် ဇွန်လတွင် ပိန့်နစ်ကိုလာ့စ်ကျောင်း၌၊ ပုံတူကူးယူထားသောစာနှင့် ဆက်စပ်လျက်ဖော်ပြလိုက်ခြင်းဖြစ်ပါသည်။ နေ့စွဲတော့မပါချေ၊ သို့ရာ

တွင် ပုံနှိပ်ဖြန့်ချိခြင်း မပြုမှီ ၂–သ ၃–လက ရေးသား ထားခြင်း ဖြစ်ရမည်။ (မိန့်နစ်ကိုလာ့စ်ကျောင်းမှာ မျက်စေ့ မမြင် နားမကြားသော သူများ စာ သင်ကြား ရာ ကျောင်းဖြစ်သည်)။

မိန့်နစ် ကိုလာ့စ် ကျောင်းသို့
(လက်မှတ်)

ချစ်ငှာသော မိန့်နစ်ကိုလာ့စ်

ကျမ၏ အခွတိုကို ရှင့်ထံသို့ ပေးပို့လိုက်ရခြင်းမှာ ကျမ အား အထူးတလည် ဝမ်းမြောက်ကြေနပ်ခြင်း ဖြစ်စေပါသည်။ အကြောင်းမှာ၊ မျက်မမြင် ကလေးသူငယ် များသည် အဘယ်ကဲ့သို့ စာရေးသည်ကို သိရှိရန် မိန့်နစ် ကိုလာ့စ် ကျောင်းတွင် စာသင်နေကြသော ယောကျ်ား ကလေး၊ မိန်းကလေးများ သိစေမှုလိုလား၍ဘဲ ဖြစ်ပါ သည်၊ အချို့ကတော့ မျဉ်းကြောင်း ဖြောင့်ဖြောင့် ရေး နိုင်အောင် ကျမဘို့ ဘယ်လိုများ ကြိုးစားကြ ပါလိမ့်မလဲဟု အံ့သြကြလိမ့်မည်ထင်ပါသည်။ ကျမကလဲ အဘယ်ကဲ့သို့ ကြိုးစားရေးသားရခြင်းကိုသူတို့အားပြောပြပါမည်။ ကျမ တို့စာရေးလိုသောအခါ၊ စာမျက်နှာများ အကြားတွင် ထွင်းထားသော မျဉ်းသားထားသည့် ကပ်ပြားရှည်တချပ် ကို ထားကြရပါသည်။ မျဉ်းပြိုင် ထွင်းကြောင်းများမှာ ကျမတို့စာရေးကြသောအခါ၊ မျဉ်းကြောင်းများသဘွယ် အမှတ်သညာပြု ကြရပါသည်။ ၎င်းကပ်ပြား ပေါ်တွင် စက္ကူကိုတင်၍၊ ခဲတန်အတုံးဖြင့်ရေးလျှင် လွယ်ကူစွာပင်

စာလုံးများ ဖြောင့်ဖြောင့် တန်းတန်း ရေးနိုင် ပါသည်။ အထက်မျဉ်း အောက်မျဉ်း ထွင်းကြောင်း ကြားတွင် စာကြောင်း ငယ်ကလေး များနှင့် ရှည်ရှည် လျားလျား တိုး၍ ရေးသားနိုင်ကြပါသည်။ ကျမတို့သည် ခဲတန်ကို ညာဘက်လက်နှင့်ကိုင်၍ စာလုံးများ မှန်မမှန်စာကြောင်း များတည့်မတည့်နေရာအကွာအဝေးအတွက်ဘယ်ဘက် လက်ညှိုးဖြင့် သတိရှိစွာ စမ်းသပ်ကြည့်ကြ ရပါသည်။ ပဌမသော် စာကြောင်း အနေအထား အတွက် အလွန် တရာ အခက်အခဲတွေ့ကြရပါသည်။ သို့ရာတွင် ကျမတို့ သည် ကြိုးကြိုးစားစားနှင့် သီးခံ ရေးသားခြင်းဖြင့် တစ တစ လွယ်ကူလာပါသည်။ ထပ်တလဲလဲ လေ့ကျင့်မှုပြု လုပ်ပြီးသည်နောက် ကျမတို့သည် ကျမတို့၏ မိတ်ဆွေ များထံသို့ချောချောမောမောစာရေးသားနိုင်ကြပါသည်။ ထိုနောက်ကျမတို့သည် အလွန်အကြူး ပျော်ရွှင်ကြပါ တော့သည်။ တခါတရံ သူတို့သည် မျက်မမြင် စာသင် ကျောင်း တကျောင်း ကျောင်းသို့ အလည် လာတတ်ကြ ပါသည်။ အကယ်၍၊ သူတို့ရောက်လာကြလျှင် ကျောင်း သားများ စာရေးကြပုံကို ကြည့်မြင်လိုလိမ့်မည်ဟု ကျမ သေသေချာချာ ပြောရဲပါသည်ရှင့်။

အလွန်တရာရိုသေစွာသော ရှင်၏မိတ်ဆွေမကလေး၊
**ဟာယ်လင်ကယ်လာ။**

၁၈၉၂-ခုနှစ်၊ မေလတွင် ဟာယ်လင်ကယ်လာသည် မျက်မမြင် သင်ပုန်းကြီးတန်းသားများ အကူ အညီဖြင့်

လဘက်ရည်ပွဲတခု ကျင်းပခဲ့သည်။ သူမ၏အစီအစဉ်အရ ဟယ်လင်၏ ထောက်ထားအညှာတာဆုံး အရက်ရောဆုံး မိတ်ဆွေတဦးဖြစ်သည့် မစ္စတာ ဂျွန် ပီ စပေါင်း လ် ဒင်း ၏နှမ မစ္စက် မှာလွန်ဒီ စပေါင်းလ်ဒင်း အိမ်၌၊ ခင်းကျင်း ပါသည်။လဘက်ရည်ပွဲမှ မျက်မမြင်ကလေးများအတွက် ရံပုံငွေ ဒေါ်လာ နှစ်ထောင် ကျော်ကျော် ရရှိခဲ့လေ သည်။

မစ္စ ကာရိုလိုင် ဒါဘီ ထံသို့

တောင်ပိုင်း ဘော့စ်တွန်မြို့

ကျွန်မ၏ချစ်စွာသော မစ္စကာရီ ရှင်

ရှင့်ထံမှကြင်နာထောက်ထားစွာ ရေးသားလိုက်သော စာတစောင် ရရှိသဖြင့် ကျွန်မအဘို့ အထူးပင်ကြည်နူးနှစ် သက်မိပါသည်။ ကျွန်မရှင့်ကို ပြောလိုသည်မှာ လဘက် ရည်သောက်ပွဲတွင် လွန်စွာ စိတ်အားတက်ကြွ မိသည်ဟု ကြားရခြင်းကကျွန်မတွင်အတိုင်းမသိရွှင်လန်းဝမ်းမြောက် မိခြင်းပင် ဖြစ်ပါသည်။ ကျွန်မတို့ ထိုကိစ္စကို မေ့ပျောက် မပြစ်ကြပါ။ကျွန်မသည်မကြာမီပင် ကျွန်မနေထိုင်ရာဇာတိ နေရာဝင်ခြည် ကွန့်မြူးသည့် တောင်ပိုင်းဒေသသို့ ပြန်ရ ဦးမည်ဖြစ်ပါသည်။ ဘော့စ်တွန်မြို့တွင်ရှိကြသော ကျွန်မ ၏ချစ်စွာသော မိတ်ဆွေအားလုံး၏ နောက်ဆုံးကူညီချက် အရ မျက်စိနှစ်ကွင်း အလင်းမရရှာကြသည့် မျက်မမြင် ကလေးများအား ပျော်ပျော် ရွှင်ရွှင်နှင့် စိတ်နှလုံးသာ ယာအောင် ဗိုင်းဝန်းအားပေးကြခြင်းကို ကျွန်မသတိရတိုင်း

ထာဝစဉ်ဝမ်းမြောက်နေရတော့မည်ပင်ဖြစ်ပါသည်၊ သာ
ယာကြည်နူးဘွယ်ရာ အလင်းရောင်ကို မရနိုင်ကြရှာသော
မျက်မမြင်ကလေးများအတွက် နူးညံ့သိမ်မွေ့သည့် ဂရု
ဏာ တရားကို လူတိုင်း မထားနိုင်ကြကြောင်းကို ကျမ
သိပါသည်။ သို့မဟုတ် တစုံတရာ အံ့ဩဘွယ်ရာ ကောင်း
သော အကြောင်းအရာများဖြင့် သူတို့၏ ပျော်ရွှင် ချမ်း
မြေ့ရေး ဖြစ်ပေါ်လာအောင် မစွမ်းဆောင်နိုင်ကြပုံကိုလဲ
ကျမသိပါသည်။ အားလုံးချစ်မြတ်နိုးဘွယ်ရာသော ဂရု
ဏာတရားသည် သနားကြင်နာခြင်း၏ အပြုအမူကိုဖေါ်
ပြခြင်းဖြစ်သည်ဟု ကျမထင်ပါသည်။ အကူအညီကင်း
မဲ့ကြသည့် မျက်မမြင် ကလေးများ၏ မိတ်ဆွေသင်္ဂဟ
များကလဲ ကျမတို့သည် သူတို့အတွက် ပျော်ရွှင်အောင်
ပြုလုပ်နေကြောင်း နားလည်ကြပါသည်။ သူတို့သည်ကျမ
တို့၏ လဘက်ရည်ပွဲကို အောင်မြင်အောင် တက်ရောက်
ကြပါလိမ့်မည်။ ကမ္ဘာပေါ်တွင် ကျမသည် အားလုံး
အနက်အပျော်ရွှင်ဆုံးမိန်းကလေးဖြစ်လိမ့်မည်ဟုသေချာ
စွာပြောရဲပါသည်။ ကျေးဇူးပြု၍ ကျမတို့၏ စီမံကိန်းကို
ဘုန်းတော်ကြီး ဘရုခ်စ်အား သိခွင့် ပေးစေချင်ပါသည်။
သို့မှသာ ကျမတို့အတွက် သူ့ကိုစီစဉ် နေရာချထားသမှု
ပြုနိုင်ပါသည်။ မစ္စ အီလီ ယာနာ စိတ်ဝင်စားကြောင်း
ကြားရသဖြင့် ကျမ ဝမ်းမြောက်လှပါသည်၊ ကျမ၏ချစ်
မေတ္တာကိုလဲ သူမထံပို့ပေးပါ။ နက်ဖြန် ကျမ ရှင့်ထံသို့
လာတွေ့ပါမည်။ ထိုနောက်ကျမတို့၏ အကြံအစီများကို

အနားယူထားနိုင်ကြပါသည်။ ကျေးဇူးပြု၍ ရှင်၏ချစ်ခွာသော ဒေါ်ဒေါ်အား ဆရာမနှင့် ကျမတို့က ဆုတောင်းပဌနာ ပြုလိုက်ကြောင်း ကျမတို့အလည်အပတ်ရောက်ကြရသည်ကို အလွန်တရာ ပျော်ရွှင်ကြောင်း ပြောပြလိုက်ပါရှင့်။

ရှင်၏ချစ်ခွာသော
ဟယ်လင်ကယ်လာ။

မစ္စတာ ဂျွန် ပီ စပေါင်းလ် ဒင်း ထံသို့—
တောင်ပိုင်း ဘော့စ်တွန်မြို့
မေလ ၁၁-ရက်နေ့၊ ၁၈၉၂-ခုနှစ်။

ကျမ၏ ချစ်ခွာသော မစ္စတာ စပေါင်းဒင်းရှင့်—

ဤစာကို ရှင်ဘတ်ရှုရသော အခါ၊ ရှင်၏ မိတ်ဆွေမကလေး ဟဲလင်သည်၊ အလွန်တရာ ဒုက္ခပေးသူကလေးဘဲဟု ထင်မြင်ယူဆသွားမည်ကို ကျမ စိုးရိမ်မိပါသည်။ သို့ရာတွင် တစုံတခုအတွက် ကျမအရေးတကြီး ဖြစ်နေပါကြောင်းကို ရှင်သိရလျှင်၊ကျမအပေါ်အပြစ်တင်လိမ့်မည် မဟုတ်ကြောင်း ကျမယုံကြည်ပါသည်။ တနင်္ဂနွေနေ့က ဆရာမနှင့် ကျမတို့ ပြောပြခဲ့သည်ကို ရှင်သတိရမည်ဖြစ်ပါသည်။ ထိုအကြောင်းမှာ၊ သင်ပုန်းကြီးတန်းများအတွက် ကူညီရေး လဘက်ရည်ပွဲကလေးတခု ခင်းကျင်းလိုကြောင်း ဖြစ်ပါသည်။ အရာခပ်သိမ်း စိစဉ်ပြီးဖြစ်မည်ဟု ကျမတို့ တွေးထင်ခဲ့ ပါသည်။ သို့ရာတွင်

တနင်းလာနေ့၌ မစ္စက် အဲလိုင်းယော့ထ်က လူပေါင်းငါးဆယ်ထက် ပိုမိုဘိတ်ကြားရန် မလိုကြောင်း ကျမတို့ သိရပါသည်။ အကြောင်းမှာ မစ္စက် ဟောင်းဗီး၏အိမ်က ကျဉ်းမြောင်းနေ၍ ဖြစ်ပါသည်။ လူပေါင်း များစွာပင် လဘက်ရည်ပွဲသို့ တက်ရောက်လိုကြလိမ့်မည်ဟု ကျမ ယုံကြည်ပါသည်။ရင်းပြင် မျက်မမြင် ကလေးသူငယ်များ၏ဘဝကို တစုံတရာ ထွန်းလင်းတောက်ပြောင်ရန် ကူညီလိုကြလိမ့်မည်မှာ သေချာပါသည်။ သို့ရာတွင် ကျမ၏ မိတ်ဆွေအချို့က နောက်ထပ် အိမ်တလုံး ရှာဖွေ၍မတွေ့နိုင်လျှင်၊ အစီအစဉ်ကို ပယ်ဖျက်လိုကြပါသည်။မနေ့က ကျမ၏ဆရာမက ပြောပါသည်။ မစ္စက် စပေါင်းလ်ဒင်းကများ သူမ၏ လှပသော အိမ်ကြီးကို ကျမတို့အတွက် ပေးကောင်း ပေလိမ့်မည်လားတဲ့။ ထိုကိစ္စနှင့် ပတ်သက်၍ ရှင့်ထံသို့ အကူအညီ တောင်းရန် ကျမစိတ်ကူးပေါ်ခဲ့ပါသည်။ အကယ်၍ ကျမ မစ္စက်စပေါင်းလ်ဒင်း ထံသို့ စာရေးလိုက်လျှင်၊ သူမက ကျမအား ကူညီလိမ့်မည်ဟု ရှင်ထင်ပါသလား။ကျမ၏အကြံအစည်ကလေး ပျက်ပြားသွားရမည်ဆိုလျှင်တော့ အလွန်တရာ အားပျက် ဝမ်းနည်းမိမည်ဘဲ ဖြစ်ပါသည်။ အကြောင်းမှာ ကျမသည် လွန်ခဲ့သောအချိန်ကထဲက စ၍၊ မျက်မမြင် ကလေး များအား သင်ပုန်းကြီးတန်းသို့ ဝင်ရောက် ပညာသင်ကြားနိုင်ရန် တခုခုပြုလုပ်ရန် ရည်စူးထားခဲ့ခြင်းကြောင့် ဖြစ်ပါသည်။ အိမ်အတွက်နှင့် ပတ်သက်၍၊ ရှင်၏ထင်မြင်ချက်

ကို ကျေးဇူးပြုလျက် ကျမသိပါရစေ။ ရှင့်အား လွန်စွာ ဒုက္ခပေးလိုက်ရခြင်းအတွက်ကိုလဲ ကျမအပေါ်ခွင့်လွှတ်ပါရန် ပန်ကြားအပ်ပါသည်ရှင့်။

ချစ်စွာသော ရှင်၏ မိတ်ဆွေမကလေး
ဟဲလင်ကယ်လာ။

ဇွန်လကုန်တွင် မစ္စဆူလီဗင်နှင့်ဟယ်လင်တို့မှာ တဲ့စ်ကာ့ဘီယာသို့ ထွက်သွားကြလေသည်။

မစ္စ ကာရိုလိုင်း ဒါဘီထံသို့–
တဲ့စ်ကာ့ဘီယာ, အလာဘာမာ၊
ဇူလိုင်လ ၉–ရက်နေ့၊ ၁၈၉၂–ခု။

ကျမ၏ ချစ်စွာသော ကာရီရှင့်–

ယနေ့ရှင့်ထံသို့ ကျမစာရေး လိုက်ခြင်းမှာ၊ ကျမ၏ ချစ်မေတ္တာသည်၊ ရှင့်အပေါ်တွင် အဘယ်မျှ ပြင်းပြကြောင်း သက်သေခံချက်ပင် ဖြစ်ပါသည်။ ရက်သတ္တတပတ်လုံးလုံး တဲ့စ်ကာ့ဘီယာတွင် အမှောင်ရိပ် ဖုံးလွှမ်းကာ ပျင်းရိ ငြီးငွေ့ဘွယ်ရာ အခြေအနေတွင်ပါတ်လျက်ရှိပါသည်၊ အဆက်မပြတ်ရွာနေသောမိုးနှင့်ရာသီဥတု ပြောင်းလဲခြင်းက ကြည်လင်သည့် အတွေးအခေါ်များကို ဖြည့်ဖွက်ခါ စာချား ရေးချင်အောင် လှုံ့ဆော် နေကြောင်း။ သို့ပေတည့် အခြားပျော်ရွှင်ဘွယ်ရာတခုခု မလုပ်နိုင်တော့ကြောင်းကို ကျမ ရိုးသားစွာ ဝန်ခံပါသည်။ သို့စေကာမူ၊ ကျမတို့ ကျန်းမာလျက် ရှိကြောင်း။ အိမ်သို့ ချောချော မောမော ရောက်ကြောင်း။ ရှင့်အကြောင်း ကို

နေ့တိုင်းပြော၍၊ ရှင့်စာများကို ပျော်ပျော်ရွှင်ရွှင် စိတ်ဝင်စားစွာ ဖတ်ရှုနေကြကြောင်းကိုကျွမရေးသားရမည်ဖြစ်ပါသည်။ ကျွမသည် ဟူလ်တန်မြို့သို့ ကျေကျေနပ်နပ်လည်ပတ်ခဲ့ ပါသည်။အရာ ခပ်သိမ်းမိုးဦးကျ ရာသီတိုင်းလန်းလန်းဆန်းဆန်းရှိ၍ ကျွမတို့သည် တနေ့လုံးလုံး အိမ်အပြင်ဘက်သို့ ထွက်ခါလည်ပတ်ခဲ့ကြပါသည်။ တခါတရံ ကျွမတို့သည်ဒန်းပေါ်၌ ထိုင်လျက် ဆရာမက ကျွမဆရာမအားစာဖတ်၍ပြပါသည်။ ကျွမသည် နံနက်စာကိုပင် အမိုးမရှိသော စကြံသို့ထွက်၍ စားသောက်ကြပါသည်။ကျွမသည် ညနေတိုင်းလိုလို မြင်းစီး၍၊ တကြိမ်တွင် ငါးမိုင်ခရီးကို ဒုံးစိုင်းလျက် ကျွမစီးခဲ့ပါသည်။ အလွန်တရာပျော်ရွှင်ဘွယ်ရာကောင်းလှပါ ဘိ။ရှင်ကောမြင်းစီးလိုပါသလား။ ယခုကျွမတွင် အလွန် လှပ၍ ငယ်သော လှည်းကလေးတစီးရှိပါသည်။ မိဃ်းရွာနေသဖြင့်ရပ်ထားခဲ့ရသောလှည်းကလေးကို ဆရာမနှင့်ကျွမတို့ကညနေတိုင်းထုတ်၍ စီးခဲ့ကြပါသည်။ ၎င်းပြင် ကျွမတွင်အလွန်လှပသော ခွေးကြီးတကောင်ရှိပါသည်။ကျွမတွေ့ခဲ့ဘူးသမျှတွင် အကြီးဆုံးခွေးကြီးဖြစ်ပါသည်။ သူသည်ကျွမတို့နှင့်အတူလိုက်၍၊ကျွမတို့အား စောင့်ရှောက်ခြင်းပြုပါသည်၊ သူ့အမည်မှာ 'အိယူမာ' ဖြစ်ပါသည်။ နှစ်သက်လိုဘွယ်ရာ အမည်တခုမဟုတ်ပါလားရှင်၊ ထိုခွေးသည် 'ဆက်ဆုံခွေးမျိုး' ဟု ကျွမထင်ပါသည်။ ကျွမတို့ နောက်ရက်သတ္တပါတ်အကြာတွင် တောင်ဘန်းများ

ဆီသို့သွားရန် မြှော်လင့်ကြပါသည်။ ကျမ၏ မောင်ကလေး ဖိလစ်ပ်စ်မှာ မကျန်းမာပါ။ တောင်ပေါ်သန့်အေးသည့် သူ့အတွက် အကျိုးဖြစ်ထွန်းလိမ့်မည်ဟု ကျမတို့ထင်ပါသည်။မင်လိဒရက်မှာ အလွန်တရာ ရွှင်လန်းသောညီမကလေးတဦးမို့၊ သူမအား လွန်စွာရှင်ချစ်လိမ့်မည်ဟုကျမယုံကြည်ပါသည်။ ရှင့်ထံမှ ဓါတ်ပုံ ရသဖြင့်၊ ကျမအထူး ကျေးဇူးတင်ကျူးပါသည်။ ကျမ မျက်စိနှစ်ကွင်းအလင်းမှ ခုစေကာမူ၊ မိတ်ဆွေများ၏ ဓာတ်ပုံများကို ရယူလိုပါသည်။ ရှင်၏ လေးထောင့်စာလုံး ရေးသား ပေးပို့လိုက်သည့် ချည်ရွယ်ချက်များကို ကျမအလွန်တရာ ကြည့်နူးလျက်ရှိပါသည်။ ရှင်တွေးထင်သလို ကျမမျက်မမြင်သုံး ကျောက်သင်ပုန်းတချပ်နှင့်ရေးသားခြင်းမဟုတ်ပါ။ထွင်းကြောင်းပါသော ကပ်ပြားတချပ်နှင့်ရေးသားလိုက်ခြင်းပင်ဖြစ်ပါသည်။ရှင်သည် ရိုးရိုးစာကြောင်းများကဲ့သို့မဟုတ်ဘဲ အစက်အပြောက်များချထားသော မျက်မမြင်သုံး ကျောက်သင်ပုန်းနှင့် ရေးသား ထားခြင်းကိုလဲ ဘတ်နိုင်မည်မဟုတ်ပါ။ ကျေးဇူးပြု၍ ကျမ၏ မေတ္တာကို မစ္စဒါဘီထံသို့ကမ်း၍ ကျမ၏အချစ်ဆုံးမေတ္တာဖြင့် သူမကတဆင့် ဘေဘီ ရှယ် သို့ ကမ်းလှမ်းလိမ့်မည်ဟုမြှော်လင့်ကြောင်းကိုပါ ပြောပြ စေလိုပါသည်ရှင့်။ ကျမ မွေးနေ့တွင် ရှင်ပေးပို့မည့်စာအုပ်မှာ ဘာစာအုပ်ပါလဲ။ ရှင့်ထံမှ ပို့သည့် ကျမ နားမလည်သောစာအုပ် အများအပြားငင်ရှိပါသည်။ ကျမအား အထူး တသည် ပျော်ရွှ

သော လက်ဆောင်ကောင်းတခုမှာ၊ အသက် ၇၅ နှစ်ရွယ် လူကြီးလူကောင်းတဦးကပေးခဲ့သော ချစ်စရာလှပသည့် လက်ထိုးဇာအင်္ကျီရှည်ဖြစ်ပါသည်။သူရေးသမျှစာတိုင်း စာ ဝိုင်းမှာ၊ ကျမ၏ ကျန်းမာ ရေးနှင့် ပျော်ရွှင်ရေးကို သက်ဆွာစွာ အကျိုးပြုလိုချက်များ ပါပါသည်။ ရှင်၏ ညီအမ ဝမ်းကွဲတော်များကိုပြောပြပါ။ ကျမအား သူ့ဘို့ တတွေက ရွေးကောက်ပွဲ မတိုင် မီ ဝင်း ထရံ ပေါ် မှ တက် ၍၊ ကျ မ့ အ လာ ကို စောင့် ကြို ကြ လိမ့် မည် ဟု ကျမထင်မိကြောင်း။ အဘယ်ကြောင့် ဆိုသော် ပါတီအသီးသီးမှ အရွေးခံ ပုဂ္ဂိုလ်များ အလွန် တရာ ပေါများ၍ ငယ်ငယ်ရွယ်ရွယ် နိုင်ငံရေးသမား သည်သာ ကျွမ်းကျင်သော ရွေးကောက်ပွဲတခုကို ပြုလုပ်လိမ့်မည်ဟု ကျမ သံသယ ရှိခဲ့လို့ဘဲ ဖြစ်ပါသည်။ ရှင်စာရေးသောအခါ၊ ကျေးဇူးပြု၍ ကျမမေတ္တာကို ရှိစီထံသို့ ပို့လိုက်ကြောင်း ကျမအပေါ် ယုံကြည်စိတ်ချစေလိုကြောင်းများပါသည့် သွင်းရေးသားပါရှင့်။

ရှင်၏ချစ်စွာသောမိတ်ဆွေ
ဟယ်လင်ကယ်လာ။

အထူး။ ။ဤလက်နှိပ်စက်နှင့် ပေးစာကို ရှင်ဘယ်လောက် နှစ်သက်ပါ သလဲ။

× × × ×

ပြပွဲမြှင်ပွဲများနှင့် အဆောက်အဦးများဆိုင်ရာအရာရှိများနှင့် ဌာနဆိုင်ရာ တာဝန်ခံများထံသို့—

လူကြီးမင်းများ—

ဤစာနှင့်အတူ မစ္စဆူလီဗင်နှင့် အတူလိုက်ပါလာသူ မစ္စဟယ်လင်ကယ်လာသည် ဌာန အသီးသီး၏ နေရာချထားမှု အစီအစဉ်ကို အပြည့်အစုံ လေ့လာစုံစမ်းချန် ဆန္ဒပြင်းပြလျက် ရှိပါသည်။ သူမသည် မျက်မမြင် နားမကြားဖြစ်သော်လည်း စမ်းသပ်၍ သိရှိနိုင်စွမ်းရှိပါသည် သူမ လှည့်ပတ်သွားရာ ဌာနတိုင်းတွင် အကြောင်းအရာ ဟူသမျှ နားလည်နိုင်သော အံ့သြဖွယ်ရာ ကောင်းသည့် အမျိုးသမီးကလေး တဦး ဖြစ်ပါသည်။ သူမ၏ ကုန်ဆုံးကဲ့သည့် နှစ်ကာလများတွင် ယဉ်ကျေးမှုနှင့် ဉာဏ်စွမ်းထက်မြက်မှုတွင် သူမတူအောင် ထူးခြားသူကလေးလဲ ဖြစ်ပါသည်။ ကျေးဇူးပြု၍ သူမအား ဌာန အသီးသီးရှိ ကြည့်ရှုဖွယ်ရာများကို စမ်းသပ်စစ်ဆေး ကြည့်ရှုခွင့်ပြုပါ၊ အခြား ယဉ်ကျေးမှုဆိုင်ရာ ကြည့်ရှုဖွယ် များကို ကြည့်ရှုခွင့်ရအောင်တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးစေလိုပါသည်။

ကြို့တင်ကျေးဇူးတင်စွာဖြင့်

လေးစားစွာသောသင်တို့၏

အိပ် ချ် အင် န် ဟီဂျင်ဘော့ သံ့ သမိ

ဒါရိုက်တာ

မစ္စကာဝရှိလိုင်ဒါဘီ ထံသို့-
ဟာလ်တန်မြို့ ပင်ဘဲလ်ဖေးနီယားပြည်
ဩဂုတ်လ ၁၇-ရက်နေ့ ၁၈၉၃-ခုနှစ်။

ပြပွဲကြီးတွင်ရှိသော လူတိုင်းပင် ကျွန်မအပေါ်၌ ကြင်နာမှုရှိကြပါသည်။ ပြတိုက်အုပ်ချုပ်သူများ အားလုံးလိုလို ညွှန်ပြထားသည့် အရာများကို ကျွန်မအား ထိတွေ့စမ်းသပ်နိုင်ခွင့် ပြုလိုကြပါသည်။ သူတို့သည် အရာခပ်သိမ်းကျွန်မအား လွန်စွာပင် စိတ်စေတနာ ကောင်းကောင်းနှင့် ရှင်းလင်းပြသကြပါသည်။ နာမည်ကို မမှတ်မိနိုင်တော့ပြီဖြစ်သော ပြင်သစ်လူကြီးလူကောင်း တယောက်က ကျွန်မအား ကြေးနီနှင့် သံဖြူ ရောစပ်ထားသည့် သောဟာနှင့် ပြုလုပ်ထားသော ပြင်သစ်ရုပ်ထုများကို ပြသပါသည်။ သူတို့သည်ပြပွဲ၌ ကျွန်မ၏ပျော်ရွှင်ရေးအတွက် တခုမကျန် ပြသကြပါသည်ဟု ကျွန်မယုံကြည်ပါသည်။ သူတို့သည် ကျွန်မ၏ ထိတွေ့ကိုင်တွယ် ကြည့်ရှုခြင်းကို အလွန်တရာ အံ့ဩနေကြသည်။ ဒေါက်တာ ဘဲလ်သည် ကျွန်မတို့နှင့် အတူလိုက်၍၊ လျှပ်စစ် အဆောက်အဦးထဲတွင် ရာဇဝင်တွင်သော တယ်လီဖုံးများကို ကျွန်မတို့အားပြသပါသည်။ တဦးတယောက်မှာ အင်ပါယာ ဒွန်းပက်ဒရိုတလျောက် 'ဆင့်တင်နီယဲလ်'မှ (ရှိတယ် မရှိဘူး) ဟူသော စကားများကို နားထောင်နေကြောင်း ကျွန်မ တွေ့ခဲ့ ရပါသည်။ အိုင်လီနွိုစ်မြို့မှ ဒေါက်တာ ဂင်းလ်လက်သည် ကျွန်မတို့အား လစ်ဗရဲလ် အနုပညာမွှာနနှင့် အမျိုးသမီး အဆောင်

များဆီသို့ ခေါ်သွားပါသည်။ ကုန်လွန်ခဲ့သော အချိန်က ကျမသည်' တစ်ဖင်နီ '၏ ပြတိုက်ခန်းသို့ အလည်အပတ် ရောက်ခဲ့၍ ဒေါ်လာတသိန်းတန်သော လှပသည့်တစ်ဖင် နီစိန်ကြီးကို အဖက်ဖက်မှ လှည့်လျက် ကိုင်တွယ် စမ်း သပ်ခြင်းပြုခဲ့ပါသည်။ ကျမသည် မြင်သစ်ဓိဖုယားတပါး ကဲ့သို့ ဘုရင် လုဝစ်ခ်၏ ကုလားထိုင်ပေါ်တွင်ထိုင်လျက် ကိုင်တွယ်စမ်းသပ် ကြည့်ခဲ့ပါသည်။ ကျမ့ဘွင် ထမ်းမှု နန်းဟန်များ ကွယ်ဝပြည့်စုံသည်ဟု ဒေါက်တာ ဂင်းလ် လက်ကမှတ်ချက်ချလိုက်ပါသည်။မိန်းမဆောင်တွင်ကျမ တို့သည် ချရှားမင်းသမီး မားရီယာ စကာယိုဖ် စကွတ်ဂင်ကို တွေ့ခဲ့ရပါသည်လှပချောမောသောချရှာ အမျိုးသမီးတဦး ဖြစ်ပါသည်။ ကျမသည် ကုလားထိုင်နှင့် ရုပ်ထုနှစ်မျိုးစ လုံးကို လွှန်စွာနှစ်သက်ပါသည်။ ကျမသည် လူသိများ၍ ကြော်ကြားသော ကထိကတဦးဖြစ်သူ ပရော်ဖက်ဆာ မော်စ် နှင့်အတူ ဂျပန် ပြတိုက်ထဲသို့ သွားခဲ့ပါသည်။ ကျမသည်သူတို့၏ စိတ်ဝင်စားဘွယ် အကောင်းဆုံး ပြ ခန်းကို မမြင်ရသေးမီအချိန်က ဂျပန်လူမျိုးများသည် အံ့ ဩဘွယ်ရာကောင်းသော လူမျိုးတမျိုးဟု ကျမဘယ်တုံး ကမှ မတွေးထင်ခဲ့ဘူးပါ။ ဂျပန်ပြည်သည် အမှန်အားဖြင့် ကစားစရာအများအပြား ပြုလုပ်ရာ ကလေးများအတွက် နတ်ဘုံ နတ်နန်း တခုသဘွယ် ဖြစ်ပါသည်။ ဂျပန်အမျိုး သား တူရိယာများမှာလည်း ကြည့်ရှု၍ကောင်းရုံမျှမက သူတို့၏အနုပညာ လုပ်ငန်းများမှာ စိတ်ပါ ဝင်စားစရာ

ကောင်းလှပါသည်။ ဂျပန် စာအုပ်များမှာ အလွန်တရာ ထူးဆန်းလှပါသည်။ သူတို့၏ အက္ခရာစဉ်များမှာ ၄၇ လုံးရှိပါသည်။ ပရော်ဖက်စာ မော့စ် သည် ဂျပန်ပြည့် အကြောင်းကို အလွန်တရာကျွမ်းကျင် ကျယ်ပြန့်စွာသိရှိ ပါသည်။ နောက်တကြိမ်ကျမ ဘော့စ်တွန်မြို့သို့ သွားသောအခါ စလင်မ်ရှိ သူ့ပြတိုက်သို့ အလည်အပတ် လာရန် ကျမအား သူက ဘိတ်ကြားပါသည်။ သို့ရာတွင် ကျမသည်။ ငြိမ်သက်သော ပင်လယ်ကမ်းနား အိုင်ပေါ် တွင် လှေစီးရခြင်းက ပျော်ရွှင်လိမ့်မည် ထင်ပါသည်။ ကျမမိတ်ဆွေများသည် ပြပွဲကြီးတွင် တစုံတရာပိုမို စုံလင်စွာ မြတ်နိုးဘွယ် အာရုံထင်မြင်အောင် ကျမအား ဖေါ်ပြကြပါသည်။ တခါတုံးက ကျမတို့ ရေပေါ်တွင် ရှိကြစဉ်၊ နေသည် ကန္တာရမြေကြီး အနားစွန်းသို့ နိမ့်ကျ သွားရာ နှင်းဆီနုရောင် ဖြော့တော့တော့ ရောင်ခြည်မှာ ဗိုက်တောင်း မြို့တော် ဖြူပေါ်သို့ သွမ်းမိုး၍ စိတ်ကူးယဉ် အိပ်မက် တိုင်းပြည်ထက်ပင် ပိုမိုရှုချင့်စဘွယ် အသွင်ဆောင်လျက် ရှိပါတော့သည်။

ဟုတ်ပါသည်။ ကျမတို့မစ်ဒ်ဝေးပလဲဇင် စ် အခန်းသို့ ထွက်ခဲ့ကြပါသည်။ ထိုနေရာတွင် မူရင်းဒေသအစစ် အမှန်နှင့် ထင်ယောင်ထင်မှားဖြစ်အောင် စိတ်စွဲလန်းစေအောင် စီမံထားသောဌာနတခုဖြစ်ပါသည်။ ကျမသည် ကိုင်ရိုမြို့လမ်းများပေါ်တွင် ကုလားအုပ်ကိုစီး၍ ထွက်ခဲ့ ပါသည်။ တော်တော်ဘဲ ပျော်စရာ ကောင်းပါသည်။

ကျမတို့သည် ဘီးပါသော ကူတို့သဘော်ာ ပေါ်တွင် စီး၍ ရေခဲပြင်ပေါ်ဝယ် ဒွေး လ် ဘက် သို့ အရောက် ထွက်ခဲ့ကြသည်။

၁၀၉၃–ခုနှစ်။ မိုးစဉ်းရာသီတွင်းတခု စ် ကန် ဘီ ယာ၌ လလပ်အသင်းတခုထူထောင်၍ မစ္စက်ကယ်လာကဥက္ကဋ္ဌ အဖြစ် ဆောင်ရွက်ခါ ပြည်သူ့စာကြည့်တိုက် တခုကို ဖွင့်လှစ် ခဲ့လေသည်။ မစ္စက် ကယ်လာက အောက်ပါ အတိုင်း ပြောဟောဖြသည်။

'ကျမသည် ကျမ၏မိတ်ဆွေများထံသို့ သူတို့၏ရိုင်း ပင်း ကူညီမှုအတွက် စာရင်းတင်ရန် လုပ်ငန်းစဉ် အ ကြောင်းကိုစာရေးသားခဲ့ပါသည်။ ကျမ၏စာအုပ်ကောင်း များအပါအဝင် ရာပေါင်းများစွာသောစာအုပ်များ ကျမ ထံသို့ အမြန်ပေးပို့လိုက်ကြပါသည်။ ငွေကြေးနှင့် အာ ပေးကူညီ ထောက်ခံစာများလည်း ပါဝင်ပါသည်။ ဤ ခမ်းနားသော ကူညီမှုများမှာ အမျိုးသမီးများ ၏ အားပေး ခြင်းဖြစ်ပါသည်။ သူတို့သည် မြို့ထဲ၌ ယခုကဲ့သို့လေးစား အပ်သောပြည်သူ့စာကြည့်တိုက်တခုမှပေါ်ပေါက်မှုက စာအုပ်များကို ဝယ်ယူ ထားကြ ပါသည်။ သူတို့သည် လှည့်လည်၍ အလှူငွေများ ကောက်ခံနေကြပါပြီ'ဟူ၍ ပါရှိသည်။ ပဌမဆုံးအကြိမ် တရားဟောခြင်းဖြစ်သည်။

ဒေါက်တာ အက်ဒွင် ဒ်ဗရက် ဘေးလ်ထံ သို့–
ဟာလ်တန် ပင်စလီဗင်နီယာ
ဖေဖေါ်ဝါရီလ ၁၄–ရက်၊ ၁၈၉၄–ခုနှစ်။

ကျမ၏ချစ်စွာသော အကိုကြီးရှင့်

ရှင့်ထံမှ ထောက်ညှာစွာ ရေးသားပေးပို့လိုက်သော စာကို ကျမ လက်ခံရရှိသဖြင့် လွန်စွာဝမ်းမြောက် နေပါသည်။ ဤပြန်စာကိုရေးသားရန်မှာ မကြာခဏမှီအချိန်ကထဲက ကျမ စဉ်းစားတွေးတောထားခြင်း ဖြစ်ပါသည်။ ကျမထံသို့ ရှင်ပို့လိုက်သည့် လှပသော စာအုပ်ကလေးအတွက် ကျေးဇူးတင်ပါသည်။ သို့ရာတွင် ကျမသည် နှစ်သစ်ကူးပြီးသည့် အချိန်မှစ၍ အလွန်တရာ အလုပ် ရှုပ်ထွေးခဲ့ပါသည်။ 'လူငယ်မိတ်ဆွေ' စာစောင်ထဲတွင် ကျမ၏ဝတ္ထုကလေးကို ထည့်သွင်းဖေါ်ပြခဲ့ပြီးနောက်၊ ကျမထံသို့ စာပေါင်းမြောက်များစွာ ရောက်ရှိလာကြပါသည်။ လွန်ခဲ့သောအပါတ်ကဆိုလျှင်စာပေါင်း ၆၁–စောင်ရောက်လာပါသည်။ဤစာများထဲမှတချို့တဝက်ကိုသာ စာပြန်ကြားရပါသည်။ ကျမသည် ၎င်းတို့ ပေးစာများထဲမှ ဂုဏ်သရေနှင့် လက်တင်ဘာသာ လေ့လာရန် သင်ခန်းစာ အမြောက်အများ ရရှိခဲ့ပါသည်။ ရက်စက်ကြမ်းကြုတ်၍ အမိန့်သံပါသော ရောမစီဇာ ဘုရင်အကြောင်းကို ရှင်အသိဘဲဖြစ်ပါသည်၊ အကယ်၍ မိန်းကလေးတယောက်သည် သူ၏လှပသော လက်တင်ဘာသာနှင့် ရေးသားထားသော စစ်ပွဲများ၏အောင်မြင်ခြင်း၊ အလွန်တရာကြီး

ကျယ်သော လူကြီးတယောက်အဖြစ် ရရှိခြင်းတို့ကို နား လည်မည်ဆိုလျှင် သူမသည် များများစဉ်းစားကာ၊ များ များလေ့ကျင့်၍ အချိန်ရှိသမျှ တွေးတောပေမည် ဖြစ် ပါသည်။

ကျမသည် စာအုပ်ငယ်ကလေးအတွက် ၎င်း၏ တန် ဘိုးသာလျှင်မဟုတ်ဘဲ၊ ၎င်းနှင့်ပါတ်သက်သော အသင်း အဖွဲ့များ အတွက်ပါ အမြဲတစေ ဆုပေးမည် ဖြစ်ပါ သည်။ ၎င်းအကြောင်းကို စဉ်းစားရသည်မှာ ပျော်ရွှင် ဘွယ်တခု ဖြစ်ပါသည်။ ၎င်း၏ စာအုပ်များထဲမှ ၎င်း၏ အတွေးအခေါ်များ၊ ၎င်း၏ ခံစားချက်များကို ညွှစ်ထုတ် ယူစရာတွေ ပါဝင်သဖြင့် ဤကဲ့သို့သော စာအုပ်မျိုး ကျမထံ ပေးပို့ရန် သတိရရှိခြင်းကြောင့် အလွန်အကြူး ကျေးဇူးတင်အပ်ပါသည်။

× × × ×

ဖေဖေါ်ဝါရီ လထဲ၌ ဟယ်လင်နှင့် မစ္စဆူလီဗင်တို့ သည် တခေါက်ဘီယာမြို့သို့ ပြန်ခဲ့ကြသည်၊ သူတို့သည် မိုးဃ်းရာသီ နောက်ပိုင်း၌ စာဘတ်ခြင်း လေ့ကျင့်ခန်း ပြုလုပ်ကြခြင်းဖြင့် အချိန်ကုန်လွန်စေပါသည်။ နွေရာသီ၌ သူတို့သည် နားမကြားသူများအတွက် စကားပြော သင် ကြားရာ၌ အဆင့်အတန်းမြှင့်တင်ရေး အမေရိကန် အ သင်းအဖွဲ့တည်ရာ 'ချောတောကွာယာ' အစည်းအဝေး သို့ တက်ရောက်ကြကာ၊ မစ္စဆူလီဗင်က ဟယ်လင်ကယ်

လာ၏ ပညာရေး အကြောင်း ပါဝင်သည့် ဟောပြော ချက် စာတမ်းများကို ဘတ်ပြလေသည်။

နောက်တလတွင် ဟယ်လင်နှင့် မစ္စဆူလီဗင်တို့သည် နယူးရောက်မြို့ရှိ 'ရိုက် ဟူမေဆန်' စာ သင် ကျောင်း သို့ ဝင်ရောက်ပညာသင်ကြားကြလေသည်။ ၎င်းကျောင်း မှ အထူးသဖြင့် နှုတ်ခမ်းများနှင့်စာဘတ်ခြင်း အသံထွက် ပုံ ထွက်နည်း စသည်တို့ကို သင်ကြားပေးသည်။ သီချင်း သီဆိုခြင်း လေ့ကျင့်ခန်းများမှာ သူမ၏ အသံကို အင်အား တိုးတက်လာစေပါသည်။ သူမသည် ပါကင်စ် စာ သင်ကျောင်းမှ သင်တန်း ကိုလည်း အနည်းငယ် တက် ရောက် သင်ကြားခဲ့ပေသည်။ စမ်းသပ်ချက်မှာ စိတ်ဝင် စားဘွယ်ရာဖြစ်သော်လည်း အနည်းငယ်မျှသာတိုးတက် လာပေသေးသည်။

မစ္စကာရိုလိုင်း ဒါဘီ ထံသို့

ရိုက်ဟူမေဆန်ကျောင်း

နယူးရောက်မြို့၊ မတ်လ ၁၅ ရက်၊ ၁၈၉၅ ခု။

ကျွမ်သည်နှုတ်ခမ်းဖြင့် စာဘတ်ခြင်းအတတ် အနည်း ငယ် တိုးတက်လာပြီ ထင်ရ သော်လည်း၊ သွက်သွက် လက်လက် ဘတ်ရန်တော့ အလွန်တရာ ခဲခဲယဉ်းယဉ်း ဖြစ်နေပါသေးသည်။ သို့ရာတွင် ကျွမ ကြိုးစားလျှင် တနေ့နေ့၌ ရချအောင်မြင်လာ လိမ့်မည်ဟု ယုံကြည်ပါ သည်။ ဒေါက်တာ ဟူမေဆန်သည် ကျွမ၏ စကားပြော တိုးတက်မှုအတွက် ကျိုးစားနေဆဲဖြစ်ပါသည်။ 'ကာရီ'

ရယ် တခြားလူတွေလို ကျမကယ်လောက်များ စကား ပြောခြင်းကို နှစ်သက်မြတ်နိုးပါသလဲ၊ စကားပြောခြင်း မှာ ကြိုးစားခြင်းဖြင့် အောင်မြင်နိုင်မည် ဆိုလျှင်တော့ နေ့ရောညပါ ကျမကြိုးစားမည်သာ ဖြစ်ပါသည်။ ကျမ ၏ မိတ်ဆွေများမှာ သဘာဝအားဖြင့် ကျမ စကားပြော ခြင်းကို ကြားရ တွေ့ရလျှင် ဘယ်လောက်များ ဝမ်းသာ လိမ့်မည်ဆိုတာ စဉ်းစားစမ်းပါလား၍ရှင်၊ အခြားလူများ အတွက်အလွန်တရာလွယ်ကူသောစကားပြောခြင်းမှာနား မကြားသူကလေးတယောက်အဘို့သင်ကြားရန်အဘယ် ကြောင့်စိတ်ရှုပ်ထွေး၍ အလွန်တရာ ခက်ခက်ခဲခဲ ဖြစ်နေ သည်ကို ကျမအံ့သြမိပါသည်။ သို့ရာတွင် ကျမသီးခံ၍ ကြိုးစားခါ သင်ကြားလျှင် တချိန်၌ ကောင်းကောင်း မွန်မွန် ကျမစကားပြောတတ်မည်ဟု ယုံကြည်ပါသည်။

ကျမအလွန်တရာ အလုပ် များခဲ့သော်လည်း၊ စာများ များ ဘတ်ရန်တော့ အချိန်ကိုအရ ယူပါသည်။ ကျမ နောက်ဆုံးဘတ်ခဲ့သော စာအုပ်များမှာ 'စကင်လာ' ရေး သည့် 'ဝင်လ်ဟမ် ပြောပါ' နှင့် ပျောက်ဆုံးသော က ညာပျို စာအုပ်တို့ဖြစ်ပါသည်၊ ယခုကျမသည် 'လက် စင်း' ရေးသားသော 'ပညာရှိနာသင်' နှင့် 'မစ္စမူလက်' ရေး 'ဘုရင်အာသာ' ဝတ္ထုများကို ဘတ်နေပါသည်။

ရှင်သိသည့်အတိုင်း ကျမတို့ဆရာ ဆရာမ များသည် ကျမတို့အတွက် စိတ်ဝင်စားဘွယ်ရာ ဟူ၍ သူတို့ထင် သော အရာခပ်သိမ်းမှန်သမျှ ကျမတို့ နားလည်ရန် သင်

ကြွားကြပါသည်။ ကျမတို့သည် ပျော်ပျော် ရွှင်ရွှင်နှင့် ဘာသာရပ် အများပင် သင်ယူကြပါသည်။ ကျော့ဝါရှင်တန်၏ မွေးနေ့တွင် ကျမတို့သည် ခွေးပြပွဲသို့ ထွက်ခဲ့ကြပါသည်။ မေဒီဆင် ပန်းဥယျာဉ်၌ လူများ ပြည့်နှက်နေသော်လည်း၊ ခွေးများ အတွက် တီးဝိုင်းက အသံအမျိုးမျိုး ဆူညံမှုကြောင့် စိတ်ရှုပ်ထွေးခြင်း ဖြစ်ပွားစေ၍၊ထိုတီးမှုတ်သံမှာ ကြားရသူတိုင်းအား စိတ်နှလုံး မရွှင်ပြကြ စေကာမူ၊ မွန်းလွဲအချိန်၌ ကျမတို့သည် အလွန်တရာ ပျော်ရွှင်ကြပါသည်။ ခွေးများအားလုံးအနက် စိတ်ပါဝင်စားဆုံးမှာ ခွေးဘီလူးများဖြစ်ကြပါသည်။

သူတို့သည် သူတို့အား ယုယချော့မော့ခြင်းဖြင့် ထိပ်လန့်ကြောက်ရွံ့မှုမရှိစေဘဲ၊ လွတ်လွတ်လပ်လပ်ရှိကြစေရန်ခွင့်ပြုထားကြသည်။စုဝေးနေကြသောခွေးများအခြင်းခြင်း ပွေ့ဖက် နမ်းရှုံ့ခြင်း မပါဘဲ တကောင့်လက်ကိုတကောင်က ယှက်လျက် နေကြပုံမှာ သဏ္ဌာန်အားဖြင့်သူတို့၏အမူအကျင့် မသင့်လျော်ခြင်း အသိဉာဏ် ကင်းမဲ့ခြင်းကို ဖော်ပြခြင်းပင် ဖြစ်ပါသည်။ သူတို့သည် ဘယ်လောက်တောင်များ အကြည့်တန်သော တိရစ္ဆာန်ကလေးများ ဖြစ်ပါသလဲ၊ သို့ရာတွင် သူတို့သည် စိတ်သဘောထား အလွန်ကောင်း၍ မိတ်ဆွေဖိုဖို ကူညီသမှုပြုကြသည်။ သူတို့နှင့်တူသော အကူအညီ ပေးနိုင်သည့် တိရစ္ဆာန်မျိုးကား မရှိပါပေ။

ဒေါက်တာဟူမေဆန် ကျမနှင့်ဆရာမတို့သည် ခွဲးပြ ပွဲမှ ထွက်ခဲ့ကြ၍ 'မီထရိုပိုလစ်တန်ကလဝ်' သို့ လာခဲ့ကြ သည်။ ထိုကလပ်ကို တခါတရံ 'မီလျံနာရီ ကလပ်' ဟုခေါ်ကျယ်သူဌေးကလပ်ဟုခေါ်ကြသည်။ အဆောက် အဦးမှာ ကျောက်ဖြူများဖြင့် ဆောက်လုပ်၍ ခမ်းနား ကြီးကျယ်ပါသည်။ အခန်းများမှာ ကြီးကျယ်၍ ခမ်းခမ်း နားနား ပြုပြင်ထားလျက်ရှိပါသည်။ သို့ရာတွင် ထိုကဲ့သို့ ခမ်းနားကြီးကျယ်ခြင်းသည်ပင် ကျမစိတ်အား ဖိစီးနှိပ် စက်သလိုဖြစ်လာကြောင်းကိုတော့ ကျမဝန်ခံရပါမည်။ သူတို့ပတ်ဝန်းမှ ဆန်းကျယ် တောက်ပသော ပျော်ရွှင် ခြင်းများက သူတို့ထံသို့ အောက်ထစ်ဆုံး သယ်ဆောင် ယူငင်လာကြသည့်မီးလျံနာရီ ကလပ်ကိုတော့ ကျမ သည် မနာသိဝန်တိုမှုရှိခဲ့ပါ။

မှတ်စုက် လောရင့်စ် ဟတ်တန် ထံသို့–

တဲ့စ်ကခ်ဘီယာ, အလာဘာမာမြို့

ဇူလိုင်လ ၂၉ ရက်နေ့၊ ၁၈၉၅ ခုနှစ်။

ကျမသည် ကျမ၏ မောင်ငယ်က လေး ဖိလစ်ပ်စ်။ ကျမ၏ချစ်စွာသော ညီမကလေး၊ ကျမ၏မိဘနှစ်ပါးတို့ နှင့်အတူ။ ကျမ၏ လှပသာယာသည့် အိမ်ဝယ်။ ကျမ၏ နေ့အားတို့ကိုပျော်ပျော်ရွှင်ရွှင် ကုန်လွန်စေခဲ့ပါသည်။ ကျမ၏အလွန်နှစ်သက်မြတ်နိုးဘွယ်သောဆရာမသည်လဲ ကျမနှင့်အတူ ပျော်ပျော်ရွှင်ရွှင်မို့ ကျမပျော်ရွှင်မိပါ သည်။ ကျမသည် စာအနည်းငယ်ဘတ်ခြင်း၊ ခဏတဖြုတ်

လမ်းလျှောက်ခြင်း၊ စာအနည်းငယ် ရေးခြင်း၊ အပေါင်း အသင်း ကလေး သူငယ် များနှင့် ကစား ခြင်း ဖြင့် နေ့ရက်တို့ကို ပျော်ပျော်ရွှင်ရွှင် ကုန်းဆုံး စေပါသည်၊

ကျမ၏မိတ်ဆွေ သူငယ်ချင်း များသည်၊ လွန်ခဲ့သော နှစ်က ကျမ၏နှုတ်ခမ်းဖြင့်စာဘတ်ခြင်း၊ပါးစပ်နှင့်စကား ပြောခြင်းစသည့်တိုးတက်မှုတို့ကြောင့် အလွန်တရာဝမ်း မြောက် ပျော်ရွှင်ကြပါသည်။ ကျမသည်နယူးရောက်မြို့ တွင် နောက်တနှစ် ဆက်လက်၍ ပညာသင်ရန် ဆုံးဖြတ် ချက် ချထားပြီး ဖြစ်ပါသည်။ ၎င်းတို့ မြို့တော်ကြီးတွင် နောက်တနှစ် နေထိုင်ရဦးမည်ကြောင့် ကျမ ပျော်ရွှင်မိ ခြင်းဖြစ်ပါသည်။ နယူးရောက် မြို့တော်၌ ကျမနေထိုင်ရ လျှင် အိမ်ကိုဘယ်တော့မျှ ကျမ သတိရလိမ့်မည်မဟုတ် ဟု ထင်မြင်မိပါသည်၊ ကျမသည် လူပေါင်း များစွာနှင့် မိတ်ဆွေဖြစ်ရသည့်အချိန်မှစ၍ ဤကဲ့သို့သော ထွန်းလင်း တောက်ပသည့် အောင်မြင်ခြင်းအစပြုးရာ ဆောင်းရာသီ ကို ပြန်လည်ကြည့်ရှုနိုင်ပါပေသည်။ ကျမသည် နောက် တနှစ် အနာဂါတ်အဘို့ လှမ်းမြှော်၍ ကြည့်မိပါသည်။ မြို့တော်ကြီး၌အချိန်များပိုမိုရသလောက်ပညာဗဟုသုတ ရှာဖွေရန်လဲ ရည်မှူးထားပါသည်။

ကျမ၏ အကြင်နာဆုံးချစ်မေတ္တာကို မစ္စတာဟပ်တန် နှင့် မစ္စက်ရစ်ခ်စ်တို့ထံ ကျေးဇူးပြု၍ပို့ပေးပါ။ ကျမ သူ့ ကို လူကိုယ်တိုင်အားဖြင့် ကောင်းကောင်းမသိစေကာမူ၊ မစ္စတာ ဝါနာကိုလဲ ဆုတောင်း ပတ္တနာ ပြုလိုက်ကြောင်း

ပြောပြပါ။ ကျမသည် ဗင်းနစ်ဝါဒ္ဒစ်ကို နားထောင်ရင်း သူ့စာအုပ်သစ်၏ စာမျက်နှာများပေါ်တွင် မစ္စဘာ ဟပ်တန်၏ ကလောင်တန် လှုပ်ရှားရေးသားသံကို ကြားရပါသည်။ ထိုကလောင်သံမှာ သာယာကြည်နူးဘွယ်ရာ အသံတသံဖြစ်ပါသည်။ ထိုစာအုပ်ကိုဘယ်လူရခြင်း၌ ကျမ အဘယ်မျှ ပျော်ရွှင်လိမ့်မည်လဲ။

ပင်လယ်ပြင်ကိုဖြတ်သန်းလျက်လက်နှိပ်စက်ပြင့်ရိုက်သောစာတစောင် ရှင့်ထံသို့ ပို့လိုက်ရသဖြင့် ကျေးဇူးပြု၍ ကျမကို ခွင့်လွှတ်ပါ။ မစ္စက် ဟပ်တန်ရယ်၊ ကျမအိမ်သို့ ရောက်သည့်အချိန်ကထဲက ကျမ၏လက်ရေးစက်ကလေးပေါ်တွင် ခဲတန် တချောင်းနှင့် စာရေးရန် အကြိမ်ပေါင်းများစွာ ကျမကြိုးစားခဲ့ပါသည်။သို့ရာတွင်ပူအိုက်လွန်းသဖြင့် ထိုသို့စာရေးသားရန် လွန်စွာအခက်အခဲတွေ့ခဲ့ရပါသည်။ကျမလက်မှစိုထိုင်းထိုင်းအဆီများမှာ စက္ကူပေါ်တွင် အသွန်တချာကြောက်မက်ဘွယ်ကောင်းအောင် စွန်းကွက် ထင်ကုန်ပါသည်။ ထို့ကြောင့်ပင် ကျမ သည် ကျမ၏သက်နှိပ်စက်ကိုအသုံးပြုလိုက်ရခြင်းဖြစ်ပါသည်။ ထိုစက်များမှာ ကျမ၏ ‘ရီမင်တန်’ မဟုတ်ပါ။ အချိုးအစား မကောင်းသောစက်ကလေးဖြစ်၍၊ တခါတခါ ဖိဘ်ထွက်စရာ တွေ့ရသဖြင့်၊ အချိန်ကိုတိကျစွာ အသုံးမချနိုင်ပါ။

× × × ×

မစ္စကာရိုလိုင်း ဒါဘီ ထံသို့—

နယူးရောက်မြို့

ဧပြီလ ၂၅ ရက်နေ့၊ ၁၈၉၆ ခုနှစ်။

ကျွမ်းမှရှင်နှင့်တွေ့ရချိန်၌ ကျွမ်း၏လေ့ကျင့်ခန်းများမှာ ယခင်အတိုင်းဖြစ်ပါသေးသည်။ ရက်တပါတ်လျှင် သုံးကြိမ်လာသော ပြင်သစ်ဆရာမတဦးနှင့် ပြင်သစ်ဘာသာကိုသာ သင်ကြားနေပါသည်။ကျွမ်းသည် သူမ၏ နှုတ်ခမ်းများကို စိတ်ပါဝင်စားစွာ စူးစမ်းခဲ့ ပါသည်။ (သူမမှာ အင်္ဂလိပ်စာ ဥပဒေကိုတော့မသိပါ)။ ကျွမ်းတို့ ချောချော မောမော သင်ကြားကြပါသည်။ ကျွမ်းသည် မိုလိုင်ယာ ရေးသားသော အလွန် ရယ်ရွှင် ဖွယ်ရာ ကောင်းသည့် ပြင်သစ်ဇာတ်လမ်းတခုဖြစ်သော ‘ လီမဲဒီစင်းမာလ်ဂရေး လူဒီ ’ကို ပျော်ပျော်ရွှင်ရွှင် ဘတ်ခဲ့ပါသည်။ ယခုကျွမ်း သည် ပြင်သစ်စကားကို ကောင်းကောင်းပြောတတ်လာ ပြီဟု သူတို့ကပြောကြပါသည်။ ဂျာမန်စကားမှာလဲကျွမ်း ပြောတတ်လာပါသည်။ဘယ်နည်းနှင့်မဆို ပြင်သစ်လူမျိုး လူမျိုးများမှာကြီးကြီးစားစား ကျွမ်းပြောကြား ချက်များနားလည်ကြပါသည်။ထိုအချက်မှာ အလွန်အားတက်စရာဖြစ်ပါသည်။ အသံထွက် သင်ကြားခြင်း မှာလဲ ရောင့်ရဲတင်းတိမ်နိုင်ရန် ယခင်က ကဲ့သို့ အခက်အခဲများ တွေ့နေပါသည်။ ကျွမ်းဆန္ဒပြည့်ဝအောင်စကားပြောရန် ‘အိုင်’ကိုတော့ကောင်းစွာဆိုတတ်ပါသည်။မြှော်လင့်စရာ အချက်ဘဲဖြစ်ပါသည်။တခါတရံ၌ ကျွမ်း၏ကြိုးစားအား

ထုတ်မှုဖြင့် မှုံမွှားမွှား မြင်နေရသောပန်းတိုင်ကိုရောက်ရှိနိုင်ရမည်ဟု ယုံကြည်နေမိပါသည်။ သို့ရာတွင် နေ့ခံတမိနစ်အချိန်၌ ကျမအမြင်လမ်းကြောင်းမှာ ကွေးညွှတ် ပုန်းအောင်းသွားပါသည်။ ကျမသည် တဖန်အမှောင်ထဲဝယ် တလဲလဲလယ်လယ်နှင့် လှည့်ပတ် သွားလာ နေပြန်ပါသည်၊ သို့ရာတွင်ကျမသည် အားမလျော့ဘဲ ပင်ပင်ပမ်းပမ်းအားသွန် ကြိုးစားပါသည်၊ ကျမတို့သည် နောက်ဆုံး၌ ကျမတို့ ရှာဖွေနေကြသော ပုံစံများအတိုင်း အားလုံး တွေ့ရှိရလိမ့်မည်မှာ သေသေချာချာဘဲ ဖြစ်ပါသည်။

× × ×

မစ္စတာ ဂျွန် ဟစ် ဇ် ထံသို့-

ဗရူးစတာ, မတ်စ်, ဇူလိုင်လ ၁၅-ရက်၊ ၁၈၈၆-ခု၊

စာအုပ်အကြောင်းနှင့် ပတ်သက်၍ ထာဝစဥ်တည်မြဲလျက်ရှိသော စမ်းချောင်းသို့ ထွက်ခဲ့ကြသည့် ညီအ မနှစ်ဦး၏ ပေါင်းသင်း ဆက်ဆန်ပုံကို ဆရာမ၏ ချစ်စဘွယ်လက်ချောင်းများဖြင့် မျက် လှည့် ပြ သ လို ဘတ် ရ ခြင်းကြောင့် ကျမကိုယ်တိုင် အာရုံခံစားရာတွင် အလွန်တရာကျမ ပျော်ရွှင်လိမ့်မည် ဖြစ်ကြောင်း ယုံကြည်လျက်ရှိပါသည်။

ကျမ ပြူတင်းပေါက် အနီးတွင်ထိုင်၍ ရှင့်ထံသို့ စာရေးနေစဥ် နူးညွှံပျော့ပြောင်း၍ အေးမြသောပန်ကာလေသည် ကျမ၏ပါးကို ရိုက်ခတ်ခြင်းဖြင့် လွန်ခဲ့သည့်နှစ်ကကြိုးစားခဲ့ရခြင်းမှာ ကုန်ဆုံး သွားတော့ကြောင်း အာရုံ

ဝင်စားလာပါဘည်။ ပြောင်းလဲမှုအတွက် ဆရာမသည် လဲ့ အကျိုးကျေးဇူးတရားများကို စဉ်းစားနေဟန် တူပါ သည်။ သူမသည် အတိတ်ကိုမြှော်ခေါ် တွေးတောလျက် အစဖေါ်နေပါသည်။ ပြည့်ပြည့် ဝဝ ပျော်ရွှင်ရေးကို ရှင် ရရှိရန် ကျမတို့လိုလားကြပါသည်။ မစ္စတာဟစ်ဇ် ရှင့်၊ ဆရာမနှင့် မစ္စက်ပောဲ့ပ်ကင်စ် နှစ်ဦးစလုံးက ရှင် သည် တတ်နိုင်သမျှ အမြန်ဆုံး ပြန်လာရမည်ဟု ပြောနေ ကြပါသည်။ ကျမတို့သည် ရှင်၏ဆန္ဒပြည့်ဝမှုကို ပြုလုပ် ရန် ကြိုးစားကြပါမည်။

ဆရာမနှင့် ကျမတို့သည် ဖီလာဒဲလ်ဖီးယား မြို့၌၊ (၉) ရက်လုံးလုံး အချိန် ဖြုန်းခဲ့ကြပါသည်၊ ဒေါက်တာ ဂချ တာ၏ ကျောင်းသို့ ရှင်ရောက်ခဲ့ ဘူးပါသလား။ မစ္စဘာ ဟိုပ်ကင်စ်က ကျမတို့၏ လုပ်ငန်းများအကြောင်းကို ရှင့်အား ပြောပြီးကောင်း ပြောပြီးဖြစ်နေပါလိမ့်မည်။အချိန်ရှိသမျှ ကျမဘို့အလုပ်ရှုပ်နေကြပါသည်။ ကျမတို့သည် အစည်း အဝေးပွဲများသို့ တက်ရောက်ကြ၍ ကျမနှင့်ဖြင်သစ်ပြည် တွင် စကားလက်ဆုံးဝင်ဘူးသော ပဲရစ်မြို့မှ မွန်စီယူဝါ ကေ်နက် ကလကတ္တားမှ မစ္စဘနာဂျီ ချစ်စွာသောဒေါက် တာ ဘဲလ် တို့ အပါအဝင် ရာပေါင်းများစွာ တက် ရောက်ကြသည့်အထဲတွင် တရားဟောပြောခြင်းပြုခဲ့ကြ ပါသည်၊ လူများအား အကြောင်းအရာပေါင်း များစွာ ရှင်းလင်းခဲ့ကြပါသည်။ ကျမတို့သည် ရှင်လာ မလာကို စောင့်မျှော် ကြည့်ကြပါသည်။ ရှင်မလာကြောင်းကို သိ

ရသဖြင့် ကျမတို့အလွန်တရာ စိတ်ပျက် အားငယ်သွားခဲ့ကြပါသည်။ ကျမတို့ရှင့်ကို မကြာမကြာ စဉ်းစားကြပါသည်။ ကျမတို့အသဲနှလုံးများမှာ နူးညံ့သိမ်မွေ့သော ဂရုဏာစိတ်ဖြင့် ရှင့်ထံသို့ရောက်ကြပါသည်။ ဤစာ ကလေးမှာ ကျမတို့ရှင်နှင့်အတူ နေထိုင်ရခြင်းကို အဘယ်မျှပျော်ရွှင်ကြကြောင်း ပြောပြနိုင်သည်ကို ရှင်ကပိုမိုသိထားပါ လိမ့်မည် ကျမသည် ဇူလိုင်လ ၈ ရက် နေ့က အဖွဲ့ဝင် မင်းသားများအား စကားမပြောနိုင်ရှာကြသည့် ကောင်းချီးမင်္ဂလာ တရပ်မှာ ကျမအတွက် အဘယ်မျှလောက် စိတ်ခေါက်ထိခိုက်နေပါကြောင်း နားမကြားသူကလေးသူငယ် တိုင်းအား စကား ပြောနိုင်အောင် သင်ကြား ပေးနိုင်မည့် အခွင့်အရေးကောင်းကို ကူညီကြရန် တောင်းပန်စကားဖြင့် အသနားခံခဲ့ပါသည်။ ကျမသည် ရှင်းလင်းပြတ်သားစွာ ကောင်း ကောင်း မွန် မွန် ပြောနိုင်ကြောင်းကိုတော့ လူတိုင်း လူတိုင်းက ချီးကျူးခြင်း ပြုကြပါသည်။ ကျမစကားအနည်းငယ်ပြောပြပြီးသည့်နောက် ကျမတို့သည် လူပေါင်းရှစ်ရာရှိသော ပရိသတ်၏ဖိတ်မန္တကပြုချက်အရ တက်ရောက်ခဲ့ကြပါသည်။ ဤကဲ့သို့ ကြီးကျယ်သော ဖိတ်ကြားခြင်းမျိုးကို ကျမ မနှစ်သက်ကြောင်း ကိုတော့ ကျမဝန်ခံရပါမည်။ လူထု ဆန္ဒအရ ကျမတို့မှာ စကား များများ ပြောကြရ ပါသည်၊ ထို ပရိသတ်ဧည့်ခံပွဲမှာ ဖိယာဒဲလ် ဖိယာ မြို့တုံးကကဲ့သို့ ဖြစ်၍ ကျမတို့သည် ချစ်မေတ္တာ သက်ဝင်လာကြသော

မိတ်ဆွေများကို မကြာခဏ တွေ့ကြရပါသည်။ ကျမတို့သည် မြို့တော်မှ လွန်ခဲ့သော ကြာသပတေး နေ့ ညက ထွက်ခွာခဲ့ကြ၍ ဘဂျူးစဘာမြို့သို့ သောကြာနေ့ မွန်းလွဲအချိန်တွင် ရောက်ရှိကြပါသည်။ ကျမတို့သည် သောကြာနေ့ နံနက်က ကိပ်ကောဒ်ရထားကို မမှီလိုက်ကြ၍ 'ပရိုပင့်စ်တောင်း' မြို့သို့ ဆင်းခါ 'လောင်းပဲလို့' ခေါ်သင်္ဘောကိုစီးကြရပါသည်။ ဤကဲ့သို့ရေကြောင်းဖြင့်ပြ၍ သာယာလှသည့်ခရီးကိုကူးပြောင်းစီးရခြင်းပင်ကျမတို့ ဝမ်းမြောက်ကြပါသည်။ ဘော့စ်တွန် ပင်လယ်သင်္ဘောဆိပ်ကမ်းမှာလွန်စွာစိတ်ဝင်စားစရာကောင်းပါသည်။

ကျမတို့သည် ဘော့စ်တွန်မြို့၌ ရက်သတ္တ သုံးပါတ်နေထိုင်ခဲ့ကြပြီးသည်နောက် နယူးရောက်မြို့သို့ ထွက်ခွာခဲ့ကြရာ။ ကျမတို့တွင် ပျော်ရွှင်ဘွယ်ရာ အကောင်းဆုံးအချိန် တချိန် ရရှိခဲ့သည်ကိုတော့၊ ရှင့်ထံသို့ အကြောင်းမကြားလိုတော့ပါ။ ကျမတို့သည် 'ဝရင်သမ်'မြို့အပြင်တောရွာ၌ လှပသောအိမ်တလုံးနှင့်နေထိုင်သည့် ကျမတို့မိတ်ဆွေများဖြစ်ကြသော မစ္စတာနှင့် မစ္စက်ချင်ဘာလင်တို့ထံ အလည်အပတ် သွားကြပါသည်။သူတို့အိမ်သည် ကျမတို့ ပျော်ပျော်ရွှင်ရွှင်နှင့် လှေလှော် ကစားကြရာ။ လှပသော ရေအိုင်တအိုင်အနီးတွင်ရှိပါသည်၊ ကျမတို့သည် အိုင်ထဲ၌အကြီခ်ပေါင်းများစွာရေချိုးကြပါသည်။ မစ္စတာနှင့် မစ္စက် ချင်ဘာလင် တို့သည်၊ သူတို့၏ စာပေမိတ်ဆွေများကိုဘိတ်ကြား၍ ဇွန်လ ၁၇ ရက်နေ့က ပျော်

ပွဲစား ထွက်ခဲ့ကြသည်။ သူတို့ အားလုံး လူပေါင်း ၄၀–လောက်ရှိကြ၍ ၎င်းတို့မှာ စာရေးဆရာများနှင့်ထုတ်ဝေသူများဖြစ်ကြပါသည်။ ကျွမ်တို့၏ မိတ်ဆွေကြီး အာပွါ သတင်းစာအယ်ဒီတာ မစ္စတာ အောလ်ဒင်သဲပါ၍၊ ကျွမ်တို့သည် သူ၏ ပြုံးပြုံးရွှင်ရွှင်စကားပြောခြင်းဖြင့် လွန်စွာပျော်ရွှင်ကြရပါသည်။

× × ×

အောက်တိုဘာလ ၁–ရက်နေ့တွင် မစ္စကယ်လာသည် ကျောင်းအုပ်ကြီး မစ္စတာ အာသာ ဂင်းလ်မှင် အုပ်ချုပ်သော ကင်ဘရစ်ချ် အမျိုးသမီး ကျောင်းသို့ ငင်ရောက်၍ ပညာသင်ကြားသည်၊ ဤစာထဲတွင် ဖော်ပြ ထားသော စာမေးပွဲများမှာ ကျောင်း၌ အစမ်းစစ် မေးခွန်း များသာ ဖြစ်သည်။ သို့ရာတွင် ၎င်းတို့မှာ 'ဟာဗဒ်' မေးခွန်းပေါင်းများဖြစ်၍။ မစ္စကယ်လာသည် ' ရက်ဒ်ကလစ်ဖ်း' ကျောင်းအတွက်အဆင်သင့်သင်ကြားနိုင်ရန်အကြောင်းအရာအချို့ပါဝင်ပေသည်။

မစ္စက် လောရင့်စ် ဟတ်တန် ထံသို့–

၃၇–ကွန်ကော့ဒ် အဲဗင်းနျူး၊ ကင်းဗရစ်ချ်၊ မတ်စ်၊

အောက်တိုဘာလ ၈ ရက်နေ့၊ ၁၈၉၆ ခုနှစ်။

ဤနေ့နံနက်တွင် ကျွမ်စောစောအိပ်ရာကထပါသည်။ ထိုကြောင့်ပင် ကျွမ်ရှင့်ထံသို့ စာကြောင်း အနည်းငယ်ရေးလိုက် နိုင်ခဲ့ခြင်း ဖြစ်ပါသည်။ ကျွမ် ကျောင်းတွင် အဘယ်ကဲ့သို့ နှစ်သက်မြတ်နိုးစွာ ပညာသင်ကြောင်းကို

ရှင်ကြားချင်လိမ့်မည်ဟု ကျမသိပါသည်။ဘယ်လောက်လှပသော ကျောင်းတကျောင်း ဖြစ်သည်ကို ရှင်ကိုယ်တိုင် လာရောက်ကြည့်စေချင်ပါသည်။ ကျောင်းတွင်မိန်းကလေးပေါင်း တရာလောက်ရှိပါသည်။ သူတို့အားလုံး ကြည်ကြည်လင်လင် ပျော်ပျော်ရွှင်ရွှင် စာသင်ကြားလျက်ရှိကြပါသည်။ သူတို့တတွေနှင့် နေထိုင်ရခြင်းပင် ဝမ်းမြောက်ဘွယ်တခုပ် ဖြစ်ပါသည်။

ကျမ စာမေးပွဲများကို ချောချောမောမောအောင်မြင်ခဲ့သည်ဟု ရှင်ကြားရလျှင် ဝမ်းမြောက်ဝမ်းသာ ဖြစ်ပါလိမ့်မည်။ အင်္ဂလိပ်ဘာသာ၊ ဂျာမန်ဘာသာ၊ ပြင်သစ်ဘာသာ၊ ဂရိတ်ဘာသာနှင့်ရောမရာဇဝင်များကို ကျမအစစ်ခံပြီးစီးပါပြီ။ထိုဘာသာရပ်များမှာ၊ 'ဟာဗတ်ဒ်တက္ကသိုလ်' သို့ ဝင်ရောက် သင်ကြားရန် ကျောင်းဝင် စာမေးပွဲများ ဖြစ်ပါသည်။ ထိုကြောင့် ၎င်းဘာသာရပ်များကို အောင်မြင်နိုင်လိမ့်မည်ဟု စဉ်းစားရင်း ကျမ ကြည်နူး နေမိပါသည်။ ဤနှစ်မှာ ကျမနှင့် ဆရာမတို့အတွက် အလွန်အလုပ်များသော တနှစ်ဖြစ်ပါသည်။ ကျမသည် ဂဏန်းသင်္ချာ၊ အင်္ဂလိပ်စာပေ၊ အင်္ဂလိပ်ရာဇဝင်၊ ဂျာမန်စာပေ၊ လက်တင်စာပေနှင့် ထိုးတက်သော ပထဝီဝင် ဘာသာများကို သင်ကြား လေ့လာနေပါသည်။ စာပေ ဖတ်ကြားခြင်းနှင့်ပတ်သက်၍ ပြင်ဆင်မှုများ အထူးတလည်လိုအပ်လာပါသည်။ စာအုပ်အနည်းငယ်လောက်ကသာ ဖေါင်းကြွစာလုံးများနှင့် ပုံနှိပ်ထားပြီး ရှိပါသည်။ သ နား စ ရာ

ကောင်းသောဆရာမမှာ ကျွန်စာအုပ် အားလုံးကိုကျမသိနိုင်အောင် စာလုံးပေါင်း၍ ဘတ်ပြရှာပါသည်။ ထိုအလုပ်မှာ အလွန်ပင်ပန်းသောအလုပ် ဖြစ်ပါသည်။

မစ္စတာ ဟိုဲလ်စ် နှင့် ရှင်တွေ့လျှင် ကျမတို့ သူ့အိမ်၌ နေထိုင်ကြခြင်းကို ပြောပြပါရှင့်။

မစ္စကတ်ဗီလျံသော် ထံသို့

၃၇ ကွန်ကော့ ဒဘဲဗင်းနိုး ကင်းဗရစ်ချ်မတ်စ်

ဒီဇင်ဘာ(၂)ရက်နေ့။၁၈၉၆ ခုနှစ်။

စာလုံးတိုင်းကို ကျမလက်နှင့် စာလုံးပေါင်း၍ နေရသဖြင့် ကျမသင်ခန်းစာများ ပြင်ဆင်ရန် အချိန်ရှည်လျားစွာ ကုန်ခဲ့ပါသည်။ အတန်းသုံး စာအုပ်တအုပ်မျှ ကျမလေ့လာရန် ဖေါင်းကြွစာလုံးများနှင့် ရိုက်နှိပ်ထားခြင်းမရှိပါ ထို့ကြောင့်ကျမကိုယ်တိုင် တယောက်ဘည်း ဘတ်၍ လေ့လာ သင်ကြားရခြင်းမှာ ပိုမို၍ အခက်အခဲတွေ့နေရခြင်း။ဖြစ်ပါသည်။ ထိုအချင်းအရာသည် ဆရာမထက် ကျမအဘို့သာ၍ ပင်ပန်းနေပါသည်။ အကြောင်းမှာ ဆရာမသည် သူမ၏ချက်လုံးများဖြင့် အခ ၄ခဲ ကုန်ကြည့်ရှု၍ပြောပြခြင်းကို ကျမက အားလုံး မလိုက်နိုင်ခဲ့ခြင်းကြောင့် ဖြစ်ပါသည်။ တခါတရံ၌ ကျမသည် ကိုယ်တိုင် သပ်မှတ်ထားသော လေ့ကျက်ရန်စာများမှာ ကျမတို့ကိုယ်တိုင် အောင်မြင်အောင် ကြိုးစား လုပ်နိုင်သည်ထက် ပိုမိုများပြားနေသည်ဟု ထင်မိပါသည် သို့ရာတွင် တခြားအချိန်များတွင် ကျမပြောပြနိုင်သည်ထက်ပို၍ပင်

ကျမ လုပ်ငန်းခွင်၌ ပျော်ရွှင်မိပါသည်။ တခြားမိန်းကလေးများမှာလည်း အစစ အရာရာ သူတို့ကြိုးစားနိုင်သလောက် လုပ်ကိုင်ကြခြင်းဖြင့် ပျော်ရွှင်မှု ရရှိကြပါသည်။ ကျမသည် ဂဏန်းသင်္ချာမှတပါး အင်္ဂလိပ် ရာဇဝင်၊ ဂျာမန်ဘာသာ၊ လက်တင် ဘာသာရပ်များကို ပျော်ပျော်ရွှင်ရွှင်သင်ကြားပါသည်။ကျမတွင်သင်္ချာဘာသာ တရပ်အတွက် စိတ်လက် မပါအောင် ဖြစ်သွားမည်ကို စိုးရိမ်နေပါသည်။ ကျမ၏ ဂဏန်း စာလုံးများမှာ အစဉ်သဖြင့် မှားယွင်းသော နေရာများသို့သာ ရောက်ရှိသွားကြပါသည်။

မစ္စတာဂျွန်ဟစ်၏ ထံသို့

ဝရင်သမ်မတ် စ် ဇူလိုင်လ ၉ ရက် ၁၈၉ ခုနှစ်

ဆရာမနှင့် ကျမတို့သည် ကျမတို့မိတ်ဆွေ ချင်ဘာလင် စ် အိမ်သားများနှင့်အတူ နွေရာသီတွင် ဝရင်သမ်မြို့၌ အချိန်ဖြုန်းကြပါသည်။ ရှင်သည် ဘော့စ်တွန်မြို့တွင် စာအုပ်တအုပ်မှ တအုပ်သို့ ကူးပြောင်း ရေးသားထားသော နားထောင်သူ၊ ဝတ္ထုရေးသူ မစ္စတာချင်ဘာလင်ကို ရှင်သိရမည်ဟု ကျမထင်ပါသည်။

သို့ရာတွင် ကျမ၏ စာမေးပွဲများ အကြောင်းကို ရှင်ကြားလိုလိမ့်မည်ဆိုတာ ကျမသိပါသည်။ စာမေးပွဲများ အားလုံးပင် ကျမအောင်မြင်ကြောင်းကြားရလျှင် ရှင်ဝမ်းမြောက်လိမ့်မည် ဆိုသည်ကိုလဲ ကျမသိပါသည်။ ကျမသည် အခြေခံဘာသာရပ်များနှင့် တိုးတက်သော ဂျာမန်

ဘာသာ၊ ပြင်သစ်ဘာသာ၊ လက်တင်ဘာသာ၊ အင်္ဂလိပ် ဘာသာ၊ ဂရိတ်ဘာသာနှင့် ရောမ ရာဇဝင်ကို ကြေမြွှန်အောင် သင်ကြား ပြီးမြောက် ခဲ့ပါသည်။ ထိုသို့သင်ကြားပြီးစီးခြင်းမှာ မှန်ကန်သော ပညာရေးအတွက် အထူးကောင်းမွန်သည်ထင်ပါသည်။ မဟုတ်ပါလားရှင်။ ကျမသည် အချိန်ရှိသရွေ့ ကြိုးစားပမ်းစားအားထုတ်၍ပြင်ဆင်နေပါသည်။ ကျမသည် ကြောက်ရွံ့စိုးရိမ်ခြင်း တခုအတွက် ထိခဲ့သိမ်း မတားနိုင်ရှုံမှုမက အနည်းဆုံး စာမေးပွဲကျရှုံးသွားမည်ကို တုံလှုပ်ထိတ်လန့် နေပါသည်။ ကျမသည် စာမကြေဘဲနှင့်စာမေးပွဲအောင်မြင်သည့်ကိုလဲကျမ မသိလားသေးပါ။ သို့ရာတွင် ကျမ၏အောင်မြင်ခြင်းသရေမှုဂုဏ်တော့ ရရှိနိုင်ရန် စဉ်းစား ထားပါသည်။ ကျမ၏အောင်မြင်ခြင်းကို ချစ်ခင်သော ဆရာမကား သာလျှင် ယူဆောင်ပေးခြင်းဖြင့် ပျော်ရွှင်မှု သုခ အဝဝ ခံစားရပါမည်။ မှန်ပါသည်၊ ပျော်ရွှင်ခြင်းမှာ ကျမထက် ပိုရှိ၍၊ ဆရာမ၏အားထုတ်ခြင်းများ ပါဝင်ပါသည်။ အကြောင်းမှာ သူမသည် ကျမ၏ထာဝစဉ်ကောင်းစားရေးကို ရှေ့ရှုသော အမျိုးသွီးဖြစ်လို့ဘဲ ဖြစ်ပါသည်။

စက်တင်ဘာလကုန်တွင် ဆရာမှ မစ္စဆူလီဗင်နှင့် မစ္စကဲလာတို့သည် ကင်းဗချစ်ချ်ကျောင်းသို့ ပြန်သွားကြပေသည်။ သူတို့သည် ထိုကျောင်းတွင် ဒီဇင်ဘာလ မှတိုင်မှီ စောစောပိုင်း အချိန့်တိုင်အောင် နေထိုင် ကြပါသည်။ ထိုနောက် မစ္စတာဂင်လ်မင်၏ အနှောက်အယှက်ကြောင့်

မစွက်ကဲလာသည့် မစ္စဟဲလင်နှင့် သူမ၏ ညီမကလေး မင်လ်ဒရက်ကို ကျောင်းနှုတ်လိုက်ပါသည်။ မစ္စဆူလီဗင်နှင့် သူမ၏တပည့်မ ဟယ်လင်ကယ်လာ တို့သည် ဝရင်သမ်မြို့သို့သွား၍ စာပေသင်ကြားမှု ကျွမ်းကျင်ကာ စိတ်စေတနာ ကောင်းသော မစ္စတာ မားတန် အင်က(စ်)ကိုသ ထံဝယ် ပညာသင်ယူ ကြလေသည်။

မစ္စကာရိုလိုင်း ဒါဘီထံသို့–

'ဝရင်သမ်မြို့'

စက်တင်ဘာလ(၁၁)ရက်နေ့၊ ၁၈၉၈–ခုနှစ်။

ကျမသည် အိမ်ပြင်သို့ထွက်၍ အချိန်ရှိသချှလှေလှော်ခြင်း၊ ရေကူးခြင်း၊ မြင်းစီးခြင်းနှင့် အခြားပျော်မွေ့ဘွယ်ရာ အမျိုးမျိုးဖြင့် အချိန်ဖြုန်းခဲ့ပါသည်။ ဤနေ့နံနက်၌၊ ကျမသည် တကိုယ်တည်း(၁၂)မိုင်ခရီးကို မြင်းစီးခဲ့ပါသည်။ ကျမသည် ကြမ်းတမ်းသောလမ်းကို စီးရသဖြင့် သုံးကြိမ်လေးကြိမ် မြင်းပေါ်မှ လိမ့်ကျပါသည်။ ယခု ကျမသည် အခံရခက်လောက်အောင် ခြေနာနေပါသည်။ သို့ရာတွင် သာယာ ကြည်နူးဘွယ်ရာ ကောင်းသော ရာသီဥတုက ချောမွေ့သည့် လမ်းပေါ်သို့ ပျော်ပျော်ရွှင်ရွှင် လမ်းလျှောက်လိုအောင် လှုံ့ဆော်ပေးနေပါသည်။ ကျမ ခြေနာသည်ကို စိတ်ထဲ၌ အမှတ်မထားတော့ပါ။

ကျမသည်အဆန်းထွင်၍ ရေကူးခြင်း၊ ဒိုင်ဗင်ထိုးခြင်းများ ပြုလုပ်တတ်ပါသည်။ ကျမသည် ရေ တော်တော်နက်သည့်အောက်သို့ပင် ရေကူးနိုင်ပါသည်။ရေအောက်

ဝယ် ခေနစ်သွားမည်ကို မပိုးရိခဲ့ရဘဲ ကျမစိတ်တိုင်းကျ ကူးချင်သလို ကူးခတ်နိုင်ပါပြီ။ မကောင်းပါသသားရှင်။ ကျမအဘို့ ခေအိုင်ထဲသို့ လှည့်ပါတ် လှေလှော်ခြင်းကို မောင်ပခ်း သလောက် နီးနီး ဖြစ်နေပါပြီ။ လှေပေါ်တွင် ကုန်ချိန် အဘယ်မျှ သေးလေး အရေး မကြီးတော့ပါ။ ထိုကြောင့် ကျမသည် အဘယ်မျှလောက် သန်မာတောင့် တင်း၍ အသားအရေ ညိုနေပြီကို ရှင်ကောင်းကောင်း တွေးကြည့်နိုင်ပါသည်ရှင့်။

မစ္စတာ ဝီလျံ ဝိတ်ဒဲ ထံသို့—

ဘော့စ်တွန်မြို့ ဖေဖေါ်ဝါရီလ ၁၉–ရက်၊ ၅၀၉၉–ခု၊

တာ့ကြောင့် စာမပြန်ပါသလဲရှင်။ 'အက်လုပ်ကွ ိုးစ်' ရောက်လာပြီး နောက်တရက်တွင် ရှင့်ထံသို့ ကျမစာရေး လိုက်သည်ဟု ထင်မိပါသည်။ ထိုစာထဲတွင် သူတို့နှင့် အဘူ ကျမအဘယ်လောက် ပျော်ရွှင်သည်ကိုလဲ ဖေါ်ပြ လိုက်ပါသည်။ ထိုစာကိုရှင့်ထံမရောက်ဟု ထင်ပါသည်။ ဘယ်နည်းနှင့်ခဆို ချစ်ဆွေကြီးရယ် ကျမအတွက် ဤကဲ့ သို့သော ဒုက္ခချိုးစုံ ကမ္ဘာကြီးတခုဆီမှ ကျမ အားရှင်ဆွဲ ထုတ်လိုက်သဖြင့် ကျေးဇူးတင်ပါသည်၊ အင်္ဂလန်ပြည်မှ စာအုပ်များ ယခုအခါ ပို့လိုက်ပြီဟု ရှင်ကြားသိရလျှင် ဝမ်းမြောက်လိမ့်မည် ဖြစ်ပါသည်။

ကျမတွင် 'အင်နိုက်' ၇ ကြိမ်မြောက်နှင့် ၈ ကြိမ်မြောက် ထုတ် စာအုပ်များ အသင့်ရှိနေပါပြီ။ 'အိုင်လိတ်'၏ စာအုပ် တအုပ်မှာ အားလုံး အနက်၊ ကုသိုလ်ကံအကောင်း

ဆုံးဖြစ်၍။ ကျမ၏ ကျောင်းသုံးစာအုပ်များ၏ ဖော်င်းကွင်း စာလုံးများပါသောနောက်ဆုံးပိတ်စာအုပ် ဖြစ်ပါသည်။

နားမကြားသူ အတွက် စိမံ ပြုလုပ် ထားကြောင်းကို ကြားရခြင်းမှာ ကျမအဘို့ အကြီးအကျယ် ပျော်ရွှင်စေ ပါသည်။ ကျမ ပိုမို၍ သင်ကြား ရလေ– ပိုမို၍ ကြင်နာ ထောက် ထား ခြင်း တွေ့ ရ လေ ဖြစ် ပါ သည်။ အ ဘယ် ကြောင့်ပါလဲ။ လွန်ကဲ့သော အချိန်ကာလေးအတွင်းကလူ များသည် နားမကြားသူ များအား တစုံတရာ စာသင် ကြား၍ မဖြစ်နိုင်ဟု တွေးထင်ခဲ့ကြပါသည်။ သို့ရာတွင် ရာပေါင်းများစွာသော အမျိုး အတန်းအစား များထက် တိုးတက်စွာ ဖြစ်နိုင်အောင် သင်ကြားနိုင်လျှင် သင်ကြား နိုင်ခြင်း ကြင်နာခြင်းရှိသည့်အသဲနှလုံးများမှာ သူတို့အား ကူညီရန် ဆန္ဒပြင်းပြလျက် ရှိကြပါသည်။ ယခုအချိန်၌ ကျမတို့သည် ကံမကောင်းအ ကြောင်း မလှ သူ များ မှာ သာယာလှပသော ဘဝသစ် အစစ်အမှန်ကို တွေ့မြင်နိုင် အောင်သင်ကြားကြပြီးဖြစ်ကြောင်းတွေ့ရှိကြရပါသည်။ ချစ်မေတ္တာသည် အစဉ်သဖြင့် ဖိနှိပ်ချုပ်ချယ်ထားသော ဝိညာဉ်တနေ့ကိုချဉ်းကပ်ရန် နည်းလမ်း ရှာဖွေ တွေ့ရှိပါ သည်။ ၎င်းပြင် လွတ်သပ်ခြင်းနှင့် အသိဉာဏ် ထက်မြက် ခြင်းကန္တာဆီသို့ ဦးဆောင်ညွှန်ပြလျက်ရှိပါသည်။ လက် နှစ်ဘက်စလုံး စမ်းသပ်၍ရသော အက္ခရာစာလုံးများမှာ နိဒါန်းဖြင့်ပြသည့် အက္ခရာများထက် ပိုမိုလွယ်ကူသည် ဟု ကျမတွေးထင်မိပါသည်။စာအုပ်များထဲတွင် အ[illegible]

၁လုံးကြီး များဖြင့် ရေးသားထားသကဲ့သို့ စာကြောင်း များမှာ သဏ္ဍာန် တူကြ ပါသည်။ သို့ရာတွင် နားမကြား သူတဦးအား စာလုံး ပေါင်း၍ သင် ကြား သော အခါ၊ နိသျှည်းဖြင့် အက္ခရာစဉ်မှာ ဗိုရို၍ လွယ်ကူခါ ထင်မြင် လွယ်မှုတော့ နည်းသည်ဟု ကျမထင်ပါသည်ရှင့်—

မစ္စက်လောရင့်စ် ဟတ်တန် ထံသို့

၁၂–နယူးဘာရီလမ်း၊ ဘော့စ်တွန်မြို့။

မတ်လ ၅ ရက်နေ့ ၁၈၉၉–ခု။

ဇွန်လတွင် ကျမ၏ စာမေးပွဲများအတွက် အဆင်သင့် ဖြစ်လိမ့်မည်ဟု ကျမ သေသေချာချာ ယုံကြည်ပါသည်။ ယခု လောလောဆယ်တွင် ကျွန်မ၏ ရိုးစင်းကောင်းကင်၌ တိမ်တကွက်သန်းယှက်လာပါသည်။ သို့ရာတွင် ထိုတိမ် တကွက်မှာ ကျမဘာဝဝယ်မှောင်ရိပ်တရိပ်ထိုးကျစေးခြင်း ပင် ဖြစ်ပါသည်။ ကျမသည်အချိန်ရှိသရွေ့ အလွန်တရာ ပူပန်ကြောင့်ကျလျက်ရှိပါသည်၊ ကျမဆရာမ၏မျက်လုံး များမှာ သိပ်မကောင်းတော့ပါ။ အမှန်မှာ၊ သူမသည် အ လွန်တရာရဲရင့်၍သီးခံမှုတရားရှိသော်လည်း၊ကြိုးစားမှုကို မစွန့်ပစ်သော်လည်း မျက်လုံးများမှာ ဗိုရိုဒုက္ခပေးလျက် ရှိပါတော့သည်။ ထိုသို့ဖြစ်ခြင်းမှာ ကျမအတွက် သူမ၏ အမြင်ဖြင့် အနစ်နာခံခါ ကူညီသမှုပြုခဲ့ရာ။ ယခုလိုသူမ၏ မျက်လုံး ဒုက္ခပေးလာခြင်းမှာ ကျမအား စိတ်သောကအ ရောက်ဆုံးဖြစ်စေပါသည်၊ကောလိပ်ကျောင်းသို့ကျမတို့ အတူတကွသွားရောက်ကြမည့်အစီအစဉ်ကိုပင် ကျမစွန့်

လွတ်ရတော့မည် ကဲ့သို့ ဖြစ်လာပါသည်။ ကမ္ဘာပေါ်ရှိ သိမှတ်စရာ ဗဟုသုတများ အားလုံးမှာ ကျမအတွက် ပျော်ရွှင်မှု ပြုလုပ်မပေးနိုင်တော့ပါ။ ဤကဲ့သို့ တန်ဖိုးရှိ သောပညာများလဲ ရရှိနိုင်တော့မည် မဟုတ်ပါ။ မစ္စက် ဟတ်တန်ရယ် ကျမဆရာမအား အနားယူရန် တိုက်တွန်း ဘို့ ကြိုးစားပေးစမ်းပါလားရှင်။ သူမ၏မျက်လုံးများမှာ ဆေးကုသဘို့ ကောင်းပါသည်ရှင်။ ကျမ ပြောပြလျှင် တော့ သူမနားထောင်မည်မဟုတ်ပါ။

ကျမတွင် အရုပ်ကားအချို့ရှိပါသည်။ ၎င်းတို့အား လုံး ကောင်းကြလျှင်၊ အကောင်းဆုံး တပုံကို မစ္စတာ ရော့ဂါစ်ထံသို့ ပေးပို့လိုပါသည်။ သူနှစ်သက်လိမ့်မည် ဟု ရှင်ထင်ပါသလား။ ကျမ သူ့ထံ တနည်းနည်း နှင့် ပို့လိုပါသည်။ ကျမအတွက် သူဆောင်ရွက်ပေးကဲ့သလို ကျမကလည်း မေတ္တာတုံ့ပြန်လိုခြင်းဖြစ်ပါသည်။ ဤကဲ့ သို့ ပေးပို့ရခြင်းထက် သူ့အတွက် တစုံတရာ ကူညီရန် ကျမ မတွေးနိုင်ခဲ့ပါ။

သည်နေရာတွင်ရှိကြသောလူတိုင်းပင် ဆင်ကျင့်ရေးဆွဲ သော အရုပ်ကားများအကြောင်းကို ပြောဆို နေကြပါ သည်။ သူတို့အပြောမှာ ထိုအရုပ်ကားများသည် အံ့ဩ စရာကောင်းသောပြပွဲပုံကြီးများဖြစ်သည်ဟုဆိုပါသည်။ ၎င်းတို့ကိုကြည့်ရှုရန် ကျမအဘယ်မျှ မျက်လုံးများအလို ရှိနေပါသလဲရှင်။ သူတို့၏လှပသောအရောင်အသွေးများ ကိုမြင်ရပါလျှင်၊ ကျမအဘယ်လောက်ဝမ်းမြောက်ပျော်

ရွှင်ပါမည်လဲ။ သို့စေကာမူ၊ အရုပ်ကားများမှ ပျော်ရွှင်ဘွယ်ရာများကို ကျမအတွက် ဆီးတားခြင်း မရှိကြသည့်က ကျမဝမ်းမြောက်ရ ပါသည်။ ကျမ၏ မိတ်ဆွေ များပိုင် မျက်လုံးများဖြင့်ကြည့်ရှု၍ ကျမအားတဆင့်ပြောပြသော စိတ်ကျေနပ်မှုမှာ တကယ်အစစ် ပျော်ရွှင်ခြင်းတရပ်ဖြစ်ပါသည်။ ကျမ မိတ်ဆွေ များ က အ ရုပ် ကား များ ကို ကောက်ယူ၍ ကျမလက်ထဲသို့ထည့်သော အလှအပများနှင့် ကျမပျော်ရွှင်နိုင်ခြင်းကိုဘဲ အလွန်တရာ ကျေးဇူးတင်မိပါသည်။

မစ္စတာ ကစ်ပ်လင်း ကမ္ဘာကျော် စာရေးဆရာကြီး မသေကြောင်း ကြားသိရသဖြင့်၊ ကျမတို့အားလုံး ပျော်ရွှင်၍ ကျေးဇူး တင်ကြပါသည်။ ကျမ လက်ဝယ် သူ၏ 'တောတွင်းစာအုပ်' ဝတ္ထုကို ဖေါင်းကြွ စာလုံးများဖြင့် ရောက်ရှိနေပါပြီ။ ထိုစာအုပ်သည် ဘယ်လောက် များ ခမ်းနား၍ အသက်ဝင်သောစာအုပ်ဖြစ်ပါသလဲ။ အကယ်၍ ကျမသည် သူ့စာအုပ်သည် ဘယ်လောက်များသဘာဝ ကျကျ ချစ်စရာကောင်း၍သူ့ဘဝသရုပ်ကိုတိတိကျကျ ဖေါ်ပြလိုက်ပါသလဲရှင်။

ဝ ဝ ဝ ဝ ဝ

မစ္စတာဝီလျံ ဝိတ် နှ ထံသို့—

ဝရင်သမ်မြို့ မတ်စ်

ဇွန်လ ၅ ရက်နေ့၊ ၁၈၉၉ ခု။

လွန်ခဲ့သော ရက်သတ္တပါတ်လောက်က ရှင်ပို့လိုက်

သော လင်နီဟက်ဂိဂုဒ်စာမှာ ကျွန်မအဘို့ အလွန် တရာ စိတ်ဝင်စားစေပါသည်။ ထိုစာသည် အမှုအရာ၏ဖြောင့် မတ် တည်ကြည်ခြင်းကို အသိအလျောက် ဖေါ်ပြထား သည်နှင့် တူပါသည်။ ရာဇဝင် အကြောင်းနှင့် ပါတ် သက်၍ သူမ ပြောပြချက်များမှာ ကျွန်မအား အထူးတာ လည်း ပျော်ရွှင်မြူးထူးစေပါသည်။ ထိုအကြောင်းအရာ ကို သူမ ပျော်ရွှင်ခြင်းမှာကျွန်မအဘို့ဝမ်းနည်းမိပါသည်။ သို့ရာတွင်တခါတရံ၌ အဘယ်မျှမှောင်ကျ၍ အဘယ်မျှ နားလည်ရန် ခက်ခဲ့သည်ကို ကျွန်မအလွန်တရာ အာရုံဝင် စား ကြည့်မိပါသည်။ အစိုးရ၏ ရှေးထုံး ရှေးနည်း ဥပ ဒေအရအုပ်ချုပ်ခြင်း၊ရှေးဟောင်းအယူဝါဒနှင့်ကြောက် ရွံ့ဖွယ်ရာကောင်းသော ရှေးခေတ် လူများ၏ ရာဇဝင် စသည်တို့မှာ တောင်တောင်ဘဲအတွေးနက်လှပါသည်။

၎င်းကဲ့သို့သော အဖြစ်အပျက်မျိုးကို ကျွန်မ မနှစ် သက် ကြောင်းကိုတော့ အမှန်အတိုင်း ဝန်ခံရပါမည်။ နားမ ကြားသူအဘို့ ထိုစာပေမျိုးမှာ များများစားစား အသုံး ဝင်လိမ့်မည်ဟု ကျွန်မ မထင်ပါ နားမကြား၍ အနေ သောလူများမှာလျှင် မြန်မာ လှုပ်ရှားခြင်းနောက် သို့လိုက် နာမှတ်သားရန်အလွန်တရာခဲယဉ်းကြောင်းကို တွေ့ရှိရပါ သည်။ သည်ပြင်လဲ အမှတ် လက္ခဏာများမှာ လိုအပ် သော ဘာသာရပ်အတွက် လွယ်လွယ် ကူကူနှင့် လွတ် လွတ်လပ်လပ် အသုံးပြုရမည့် တန်ခိုးသတ္တိကို အကြီး အကျယ် ဆီးတားနှောင့်ရှက်သည်နှင့် တူပါသည်။ ဘာ

ကြောင့်ပါလဲ။ တခါတရံ၌ သူတို့၏လက်ဖဝါးများတွင် စာလုံးပေါ်ငါးသောအခါ သူတို့ နားလည်ချိန်ပင် အခက် အခဲ တွေ့ရကြောင်း ကျမ သိရှိပါသည်။ တခုလုံး၌ ကြည့်ရလျှင်၊ သူတို့သည် အသံဗိသအောင် မသင်ကြား နိုင်ပါမူ အက္ခရာစာလုံးသင်နည်းဥပဒေမှာ ဆက်စပ်ဘတ် ရှုရန် အကောင်းဆုံးနှင့် အသင့်လျော်ဆုံး ဖြစ်ပါသည်။ ဘယ်နည်း နှင့်မဆို နားကြား မျက်မမြင်သူမှာ မည်မျှ အ ရည်အချင်း ရှိသော ဆရာဖြင့် သင်ကြားစေကာမူ လက္ခ ဏာများကို အသုံးပြု၍ မသင်ကြားနိုင်ဟု ကျမ ပြောရဲ ပါသည်။

တနေ့တွင် ရက် ခ် နဟီး လ် ကယာတာနှင့် သူ မ ၏ ဆရာမကို ကောင်းကောင်းသိသူ နားမကြားသော နေ ဝေပြည်သား လူကြီးလူကောင်း တဦးနှင့် ကျမ တွေ့ရှိခဲ့ ပါသည်။ ကျမတို့သည် သူမအကြောင်းကို စိတ်ပါဝင် စားစွာ ဆွေးနွေး ကြပါသည်။ သူမသည် အလွန်ပျော် ရွှင်စွာ အလုပ်လုပ် သည်ဟု သူက ပြောပြ ပါသည်။ သူမသည်ဗိုင်းငင်၍ ခေတ်ဆန်သော အထည်အလိပ်များ ကို ယက်လုပ် ပါသည်။ စာဘတ်ခြင်း ပျော်မွေ့ဘွယ်ရာ တခုခုကို ညွှန်ပြခြင်းဖြင့် သူမဘဝကိုအသုံးချနေပါသည်။ တခုစဉ်းစားကြည့်စမ်းပါ။သူမသည် အက္ခရာနည်းဥပဒေ ကို အသုံးမချနိုင်ပါ။ သူမသည် နှုတ်ခမ်းများဖြင့် ကောင်း စွာ စာဘတ်ပါသည်။ အကယ်၍ သူမသည် စာပိုဒ်ကို နားမလည်နိုင်လျှင် သူမ၏မိတ်ဆွေများက သူမလက်ထဲ

သို့စာရေး၍ပြောကြပါသည်။ ဤနည်းအားဖြင့်သူမသည် လူစိမ်းသူစိမ်းများနှင့် စကားလက်ဆုံဝင်အောင် ပြောခဲ့ပါသည်။ ကျမသည် ‘ချမလက်ထဲ၌ တစုံတခုရေးသား ဖြခြင်းကို သိနားလည်သော်လည်း နှုတ်ဖြင့်တဆင့်ပြန်၍ မဖော်ပြနိုင်ခဲ့ပါ။ ထို့ကြောင့်ရှင်သိသည့်အတိုင်း ‘ရက် ဒ် နမီး လ်’ မှ တစုံတခုတော့ကျမထက် အဦး ကျွဲဂ္ဂမိ တတ်မြောက်နေမည် ဖြစ်ပါသည်။ တချိန်ချိန်၌ ကျမသူမ အား တွေ့ရလိမ့်မည်ဟု မျှော်လင့်ပါသည်ရှင့်

ရက်ဒ်ကလိဖ်ကောလိပ်၏ ကျောင်းအုပ်ချုပ်ရေး—

ဘုတ်အဖွဲ့ ချယ်ယာမင်ထံသို့—

၁၃၈–ဘရက်တဲလ်လမ်း။ ကင်းဗရစ်ချ်မြို့။ မတ်စ်။

မေလ ၅–ရက်၊ ၁၉၀၀–ခုနှစ်။

လူကြီးမင်းရှင့်

လာမည့်နှစ်တွင် သေချာ လာသင်ကြားရန်အတွက်ကျမ ၏ ကြံရွယ်ချက်များအတိုင်း ဆုံးဖြတ်လျက်ရက်ဒ်ကလိဖ် ကောလိပ်ကျောင်းသို့ ပညာသင်ကြားမှုအခွင့်အရေး ရရှိ ရန် ကျမအား အကူ အညီတခု ပေးပါရန် ပန်ကြား လျှောက်ထားပါသည်ရှင့်။

လွန်ခဲ့သော ဇူလိုင်လက ကျမအား ရက် ဒ် ကလိဖ် ကျောင်းသို့ ဝင်ရောက်နိုင်ခွင့် လက်မှတ် ရရှိပြီးသည်မှ စ၍ ကျမသည် အချိန်နာရီတွက်နည်း၊ ရာသီဥတုဖြစ်ပေါ် လာပုံသင်နည်း၊ ပြင်သစ်၊ ဂျာမန်၊ ဘာသာရပ်များ စကား ပြောပြောနည်း၊ အင်္ဂလိပ်ရာဇဝင်၊ အင်္ဂလိပ်စာပေကျမ်း

ကြီးကျမ်းဂန်နှင့် ဝေဖန်လေ့လာရေး၊ အင်္ဂလိပ် စာစီစာကုံးရေး သားနည်း၊ အစရှိသည်တို့ကို သီးသန့်ဆရာတဦး ငှါး၍ လေ့လာထားပြီး ဖြစ်ပါသည့်ရှင့်။

အကယ်၍ ကောလိပ်ကျောင်း၌ ဤဘာသာရပ်များ အားလုံး မဟုတ်သေးလျှင်လည်း တခြား ဘာသာရပ်ကို အများဆုံးဆက်လက်သင်ကြားရန် ကျမဆန္ဒပြင်းပြလျက် ရှိပါသည်၊ ကျမသည် (၁၃)နှစ်လုံးလုံး ကျမ၏ စကား ပြန်တဦးနှင့် စာမေးပွဲ မေးခွန်းများကို ဘတ်ကြားပြသသူ တဦးအဖြစ် ပေါင်းသင်း ဆက်ဆံ လာခဲ့သော ကျမ၏ ဆရာမ မစ္စဆူလီဗင်ရှေ့ဝယ် လိုအပ်သည့်ပညာရပ်များ ကို ဆည်းပူး လေ့လာထားခဲ့ပြီး ဖြစ်ပါသည်။ ကောလိပ် ကျောင်း၌၊ သူမသည် ကျမနှင့် အတူတတ်နိုင်သမျှဘာသာ ရပ် အချို့အတွက် ပြန်လည် ပြောပြရန် သင်တန်းခန်းထဲ သို့အသုံးလိုက လိုက်ပါ ပါလိမ့်မည်။ ကျမသည် ကျမ၏ ထက်ရေးစာမှုများအတွက် လက်နှိပ်စက်ကို အသုံးပြုပါ သည်။ အကယ်၍ပရော်ဖက်ဆာတဦးသည် ကျမ၏စကား ကိုနားမလည်ခဲ့ပါမူ ကျမသည် သူ၏မေးခွန်းများအတွက် ရေးဖြေ ပြုလုပ်၍ နာ လည်အောင် ပြန်လည် ပြောပြနိုင် ပါသည်။

ဤကဲ့သို့သောစာကြေအောင် ပြုလုပ်ပြီးစီးထားသည့် အချေအနေများက ‘ ရက်ဒ် ကလိဖ် ’ ကောလိပ်ကျောင်း ဝယ် ကျမ၏ပညာသင်ကြားရေးအတွက် စာရင်းသွင်းခါ နေရာချထားမည် မဟုတ်ပါလားရှင်။ ကျမ၏ ကောလိပ်

ကျောင်း တကျောင်း၌၊ ပညာသင်ကြားရေး နည်းလမ်းများ၏ ဗဟိုရှိအချက်အချာ အလွန်တရာအရေးကြီးသည်ကို ကျမ ယုံကြည်ပါသည်။ အခြားလူများ အဘို့တော့ သူတို့ လိုက်နိုင်မည် မလိုက်နိုင်မည် ကျမ မပြောတတ်ပါ။သို့ရာတွင် စစ်သားစစ် တဦးမှာ စစ်မြေပြင်သို့မထွက်ရမီ တော်ခတော် သင့်မသင့် မဆုံးဖြတ်ရဘူး မဟုတ်ပါလားရှင်။

မစ္စက် လောရင့်စ် ဟတ်တန် ထံသို့—

၁၃၈–ဘရက်တဲလ်လမ်း၊ ကင်းဗရစ်ချ်မြို့။

ဇွန်လ(၉)ရက်နေ့၊ ၁၉၀၀–ခုနှစ်။

ကျမ၏စာနှင့် ပတ်သက်၍ ကျောင်းအုပ်ချုပ်ရေး— ဘုတ်အဖွဲ့မှပြန်စာကို မကြားသိရသေးပါ။ သို့ရာတွင်၊ သူတို့သည် ကျမအား သက်ညှာစွာ စဉ်းစားလိမ့်မည်ဟု ရိုးသားစွာ ကျမမျှော်လင့်ပါသည်။ ကျမ၏မိတ်ဆွေများမှာ ထိုမျှကြာအောင်နှောင့်နှေးနေသည့်ကို အထူးအဆန်းသဘွယ် စဉ်းစားနေကြပါသည်။ ကျမ၏ အရည်အ င်း နှင့်ပါတ်သက်၍၊ သတ်မှတ်ရန်လဲ သူတို့ထံ မမေးမြန်းရသေးသည်သာမက အဖွဲ့ဝင်များနှင့် တွေ့ဆုံကာ အခြေအနေ ပြောင်းလဲရန်ပင် မစီမံရသေးပါ။ ကော်နဲလ်မှာ ကျမ၏အရည်အချင်းကို ကြည့်ရှု၍ သင့်လျော်သောအစီအစဉ်များ ပြုလုပ်ပေးရန် စီမံနေပါသည်။ အကယ်၍၊ ကျမသည် ကောလိပ်ကျောင်းသို့သွားရန် ဆုံးဖြတ်ခွင့်ရမည်ဆိုလျှင် ချီကာဂို ယူနီဗာစီတီမှာ အလားတူ ကျမ၏

လိုလား တောင့်တမှု တခုဘဲ ဖြစ်ပါသည်။ သို့ရာတွင်။ ရက်ဒ်ကလိဖ်ကောလိပ်ကျောင်းအတွက် စိတ်ကြွနပ်စွာ ပြင်ဆင်ထားခဲ့သော ကျမမှာ၊ အခြားတကျောင်းကြောင်း သို့သွားရမည့်ဆိုလျှင် စာမေးပွဲများ အောင်မှ အောင်ပါ တော့မည် သားဟု တွေးထင်နေပါသည်ရှင့်။

နောက်မကြာမီပင် မစ္စကဲလာသည့် ရက်ဒ် ကလိဖ် ကောလိပ်ကျောင်းသို့ ဝင်ရောက်၍ ပညာ သင်ကြား လေသည်။

မစ္စတာ ဂျွန် ဟစ်၏ ထံသို့—
၁၄—ကူးလ်လစ်ချ် အဲဗ်ိန်း ကင်းဗရစ်ချ်မြို့။
နိုဝင်ဘာလ ၂၆ ရက်၊ ၁၉၀၀ ခုနှစ်။

ကျမ၏ အကြံအစည်မှာ၊ မျက်မြင် နားမကြားသော ကလေးသူငယ်များအတွက်၊ ကျောင်းတကျောင်း တည် ထောင်ဖွင့်လှစ်ရန်ဖြစ်ပါသည်။ ပဌမသော်—ကျမသည် ထိုကိစ္စအတွက် ကူညီ ထောက်ပန့်ခြင်းကို လွန်စွာအားရ ဝမ်းသာလျက်ရှိပါသည်။ ဆရာများ အတွက် ငွေရမ်း၍ တာဝန်ကြေအောင် ပြုရခြင်းမှတပါး၊ အခြားအနှောင့် အယှက်များတွေ့ရလိမ့်မည်ဟု ကျမ ဘယ်တော့မျှ စိတ် ကူးမကြည့်ခဲ့ဘူးပါ။ သို့ရာတွင် ယခု အချိန်၌ ကျမ၏ သူငယ်ချင်းမိတ်ဆွေများနှင့်တိုင်ပင်၍ ကြည့်သောအခါ။ အထူးတလည် အရေးကြီးသည့် ပြဿနာ ပေါ်လာပါ သည်။ (——) ၏ အကြံအစည်မှာ အဓိပ္ပါယ်လုံးဝမရှိဟု ကျမသန္နိဋ္ဌာန်ချထားလိုက်ပါသည်။မျက်မမြင် နားမကြား

သောကလေး သူငယ်များ အတွက် ဖြစ်နိုင်သည့်နည်းနှင့် ကြိုးပမ်းရန် ကျမစိတ်အား ထက်သန်နေခြင်းမှာ ကျမအဲဘိုု့ စေတနာ အတိုင်း အကျိုးပေးလာသည်ဟု ဆိုထိုက်ပါသည်။

ကျမတို့ ကိုယ်ပိုင် အိမ်များဘွင်၊ တပည့်တယောက်စ နှစ်ယောက်စ ခေါ်ထားနိုင်ကြသည်ကိုလည်း ကျမမိတ်ဆွေများက စဉ်းစားခဲ့ကြ ပါသည်။ အကျိုး မရှိသော ကျောင်းကြီးတကျောင်းဖွင့်လှစ်မထားးဘဲ။ အခြားသူများကိုအကူအညီပေးနိုင်မည့်အကျိုး ရှိသောကျောင်းကလေးသာဖွင့်ရန် ကျမစိတ်၌ဆန္ဒပေါ်လျက်ရှိနေပါသည်။သူတို့သည် လွန်စွာ ထောက်ထားညှာတာမှုရှိကြပါသည်။သို့သော် ကျမသည် လူတယောက်၏ အမြင်ထက် လုပ်ငန်းစဉ်တခုမှ အကောင်အထည်မပေါ်နိုင်စကားကြွယ်နေကြခြင်းကိုတော့ မခံမရပ်နိုင်အောင် ဖြစ်နေပါသည်။ သူတို့သည် ကျမဆန္ဒအတိုင်း ကျမကဲ့သို့သော ဒုက္ခိတ သတ္တဝါများအား ပညာဗဟုသုတ၊ ချစ်ခြင်းမေတ္တာတို့၏အမှန်တရားသို့ ရောက်ရှိကြရေးကိုလက်ခံရရှိနိုင်ရန် သနားဂရုဏာတရား—အဘယ်မျှထားရမည်ကို သူဘို့ လုံးလုံးနားမလည်ကြပါ။ သူတို့ ငြင်းခုံချက်များ၏ အလေးချိန် စွမ်းအားထဲသို့ ကျမသည် ယခုတိုင် မမှတ်မှသုံ အာရုံဝင်စား၍ ကြည့်ရှုနေဆဲဖြစ်ပါသည်။ ဖြတ်သားစွာကျမတွေ့မြင်ရပါပြီ။လက်တွေ့လုပ်၍မဖြစ်နိုင်သော(ဒေါ်......)၏စိစဉ်မှုကိုကျမစွန့်လွှတ်ရမည်ဖြစ်ပါသည်။ ကျမ'ရက်ဒ်ကလိဖ

ကောလိပ်ကျောင်း'သို့ နေ့စဉ် ကျမ၏လုပ်ငန်းများကိုအုပ်ချုပ်ရန် ကျမအား အကြံပေး ကော်မတီတရပ်ကို ဖွဲ့ပေးသင့်သည်ဟု သူတို့က ပြောကြ ပါသည်။ ဤ အကြံပေးချက်ကို ကျမသည် လေးလေးနက်နက်စဉ်းစား၍အားလုံးသောအရေးတကြီးကိစ္စများအတွက်အကြံဉာဏ်တောင်းယူရန် ပညာရှိ မိတ်ဆွေကောင်းများကို ထာဝစဉ် ကျမရရှိနိုင်သဖြင့် ဝမ်းမြောက်ဝမ်းသာ ဂုဏ်ယူမိပါသည်ဟု ကျမက မစ္စတာ ရိုဂျာဒက်စ်အား ပြောပြလိုက် ပါသည်။ ဤကော်မတီအတွက်ကျမသည် ပုဂ္ဂိုလ် ၆ ဦးကိုရွေးချယ်လိုက်ပါသည်။ ကျမ၏မေမေ၊ ဆရာမ၊ (သူမသည် ကျမအတွက် မိခင်တဦးကဲ့သို့ဖြစ်နေ၍။ မိခင်ဆရာမဟုခေါ်ရပါသည်) မစ္စက်ဟတ်တန်၊ မစ္စတာ ရိုဂျာဒက်စ်၊ ဒေါက်တာ ဂရီးယားနှင့် မစ္စတာရိုဂျားစ်တို့ကို ရွေးချယ်လိုက်ပါသည်။ သူတို့သည်လဲ ကျမအား ကောလိပ် ကျောင်းသို့ဝင်ရောက် ပညာသင်ကြားနိုင်ရေးအတွက် ဤနှစ်ကာလများအတွင်း အပူတပြင်း ထောက်ခံကြိုးစားသမှု ပြုကြသူများဖြစ်ပါသည်။ မစ္စက် ဟတ်တန်က ကျမ မေမေထံသို့စာရေးလိုက်ပါသည်။အကြောင်းမှာ၊ကျမ အတွက်အကြံပေးအဖွဲ့ဝင်များအဖြစ် မေမေနှင့်ဆရာမတို့အပြင်၊အခြားထည့်သွင်းလိုသောပုဂ္ဂိုလ်များ ရှိသေး ပါက၊ ကြေးနန်းရိုက်၍ ပြန်ကြားပါရန် သိစေလိုက်ခြင်းဖြစ်ပါသည်။ ဤနေ့နံနက်တွင်ပင် မေမေ ထံမှ ဤ အစီအစဉ် အတိုင်း သဘောတူကြောင်းပြန်စာကိုကျမတို့လက်ခံရရှိကြပါသည်

ယခုကျမတွင်ဒေါက်တာဂရီယာနှင့်မစ္စတာရိုဂျားစ်တို့ထံ သို့ စာရေးရန် ကျန်ရှိနေပါသေးသည်။

ကျမတို့သည် ဒေါက်တာဘဲလ်နှင့်အချိန်အဘော်ကြာ အောင် စကားပြောခဲ့ကြပါသည်။ နောက်ဆုံးသော် အ ခြားစကားများ ပြောဆိုပြီးကြသည့် နောက်တွင်၊ ကျမတို့ ဝမ်းမြောက်စရာ အကြံတခုကို တင်ပြလိုက် ပါသည်။ မျက်မမြင် နားမကြားသော ခလေးသူငယ်များ အတွက် ကျောင်းတကျောင်း တည်ထောင် ဖွင့်လှစ်ရန် အကြံမှာ ကြီးကျယ်မွန်မြတ်သော အစီအစဉ်တခု ဖြစ်သည်ဟု သူ က ပြောပြပါသည်။ အဘယ်ကြောင့် ဆိုသော် ထိုဒုက္ခ တကာလေးများမှာ မျက်စိမြင် နားကြားရသော ကလေး များ၏ ဘဝကဲ့သို့ လွတ်လပ်ခြင်း၊ ဆန္ဒပြည့်ဝခြင်း၊ ချမ်း သာကြွယ်ဝခြင်း စည်းစိမ်း ထဲဝယ် အဘုံး အတန်ဆုံး အခွင့်ကောင်းများဖြင့်ရောက်ရှိလာကြရတော့မည်ရို့ဖြစ် ပါသည်။ ကျမသည်၎င်းအချက်ကို ယုံကြည်ချက် မထား ခဲ့ဘူးပါ။ ကျမတို့အဘယ်လောက် ကူညီ စောင့်ရှောက် နိုင်မည်ကိုလည်း ကျမမမြင်နိုင်ပါ။ မစ္စတာဘဲ လ် က အ ဘယ်ကဲ့သို့ ထိုအကြံကိုပေးစေကာမူ၊ ဒေါ်....နှင့် မျက် မမြင် နားမကြားသော ကလေးသူငယ် များအား ပညာ အရည်အချင်းတိုးမြှင့် ပေးရေးအတွက် အဖွဲ့တဖွဲ့ စည်း ရုံးမည့်သူမ၏ အစီအစဉ်ကို စိတ်ပါဝင်စားလျက် ရှိကြ သူ သူမမိတ်ဆွေ အားလုံးတို့က ဆရာမနှင့် ကျမကိုယ် တိုင်ပါ မပါ အဖွဲ့ဖြစ်အောင် သိမ်းသွင်း နိုင်လိမ့်မည်ဟု

ယူဆထားကြသည်။ သူ့အကြံဉာဏ်အတိုင်း သူတို့၏ နေအိမ်အသီးသီး၌ မျက်မမြင် နားမကြားသော ကလေးများအား စာပေပို့ချသင်ကြားရန် သူတို့က ဆရာမကို ကျမအား သင်ပေးသလို သင်ကြားနိုင်အောင် ခန့်အပ် လိုက်ကြပါသည်။ ဆရာများအတွက် နေထိုင်ရန် အိမ် များ၊ လခများပေးနိုင်ရေးကို ငွေများလိုအပ်လာပါသည်။ ထိုအချိန်၌ ဒေါက်တာဘဲလ် က ဖြည့်စွက် ပြောပြန်ပါ သည်။ ကျမ၏အသံနှစ်လုံးမှာ အကြီးအကျယ် ဆန္ဒပြည့် ဝစွာ လိုလားနေစဉ်၊ မျက်စိမြင် နားကြား မိန်းကလေး များနှင့် ယှဉ်ပြိုင်လျက် 'ရက် ဒ် ကလိ ဗ်' ကျောင်းမှပင် ကျမသည် ကျမ၏ အစီအစဉ်အတိုင်း မနားမနေကြိုးစား တိုက်ယူခဲ့ပါသည်။ ဒေါ်....သည် ပျော်ပျော် ရွှင်ရွှင် နှင့် ကြည်ကြည်လင်လင် ထွက်ခွာသွားသဖြင့် ကျမတို့ က လက်ခုပ်တီး၍ အော်ဟစ် ကြပါသည်။ တကြိမ်က ကျမတို့စိတ်ဒိုက်နေကြရသည်ထက် ယခုအခါ၌ ဆရာ မနှင့် ကျမတို့မှာ စိတ်ပေါ့ပါးလာကြပါသည်။ ယခုချက် ခြင်းတော့ ကျမတို့တာမျှ မလုပ်နိုင်ကြပါ၊ သို့ရာတွင် ကျမ၏ကောလိပ် ပညာရေးအတွက် စိုးရိမ်ခြင်းနှင့် မျက် မမြင် နားမကြားသော ကလေးများ၏ အနာဂါတ်စည်ပင် သာယာရေးမှာ ကျမတို့၏အသံနှစ်လုံးများမှ ထကြွလုပ် ရှားလျက် ရှိကြပါသည်။ ဒေါက်တာဘဲလ်၏ အကြံပေး ချက်ကို ရှင် မည်သို့ တွေးထင်ကြောင်း ကျမထံ ပြောပြ စမ်းပါ၊ ထိုအချက်သည် ကျမအဖို့ လိမ္မာ ကျွမ်း ကျင်

ရေးနှင့် လက်တွေ့ လုပ်ကိုင်နိုင်ရေးကို ဖော်ပြ သည်ဟု ထင်ပါသည်။ သို့ရာတွင် ထိုကိစ္စနှင့် ပါတ်သက်၍ ကိုယ်ထိလက်ရောက် မပြုလုပ်မှီ စကားမပြောမှီ အရာခပ်သိမ်း ကျွမ့်သိနှင့် ထားရမည်ဖြစ်ပါသည်။

ဆရာကြီး မစ္စတာဂျွန်ဒီဝရိုက် ထံသို့
ကင်ဗရစ် ချ် မြို့
ဒီဇင်ဘာလ ၉ ရက်နေ့၊ ၁၉၀၀ ခုနှစ်။

ကျွမသည် စော်ကား မော်ကြွားတတ်သော မိန်းကလေး တယောက်ဟု ထင်ပါသလား၊ ကျမအဘို့ ရှင်၏ အကြံဥာဏ်တို့ကို လုံလုံလောက်လောက် ဖော်ထုတ်ပြရခြင်းမှာ ခိုးဝါးသည်ဟု ကျမ မထင်နိုင်ပါ။ သတင်းစာထဲသို့ ဘယ်တုံးကမျှမထည့်သေးသော စာအမြောက် အများပင်ရှင့်ထံပေးပို့ရန်ကျမစဉ်းစားထားခဲ့ပါသည်။ ရှင့်ထံမှ စာတစောင်ရလျှင် ကျမဝမ်းမြောက်ရမည် ဖြစ်ပါသည်။ ဟုတ်ပါသည်။ ကျမ အမှန် ဝမ်းမြောက်ပါလိမ့်မည်၊ ထိုအကြောင်းကို လျှင်မြန်စွာဖြေဆိုရန် ကျမ ကြိုးရွယ်ထားခဲ့ပါသည်။ သို့ရာတွင် တကြိမ်က အလုပ်များလွန်းသဖြင့် အမှတ်မထားမိလောက်အောင် နေ့ရက်များ ကုန်ဆုံးသွားပါသည်။ ဤလတွင် ကျမအလွန်တရာ အလုပ်များခဲ့ပါသည်။ ထိုအကြောင်းကို ရှင်လဲ ယုံကြည်မည် ဖြစ်ပါသည်။ 'ရက် ဒ် ကလိ ဖ်' ကျောင်းမှ မိန်းကလေးများသည် ထာဝစဉ်သူတို့ နားရွက်များဖြင့် အလုပ်

လုပ်ကြပါသည်၊ အကယ်၍ ရှင်သံသယဖြစ်နေလျှင် ရှင်ကိုယ်တိုင်လာရောက်၍ ကြည့်ရှုသင့်ပါသည်။

ကျွန်မသည် ဒီဂရီတခုရရှိရန် ကောလိပ် ပညာများကို မှန်မှန်ကြီး ကြိုးကြိုးစားစား လေ့လာနေပါသည်၊ ကျွန်မ ဘီ-အေ-မဘယောက် ဖြစ်လာလျှင်၊ ရှင်ကျွန်မကို စော်ကားမော်ကား လုပ်တတ်သော ကောင်မကလေးတယောက်ဟု ခေါ်ဆိုလိမ့်မည်မထင်ပါ။ ကျွန်မသည် အင်္ဂလိပ်ဘာသာ၊ ခက်ခဲနက်နဲသော အင်္ဂလိပ် စာပေကျမ်းဂန် (ရိုးရိုးအင်္ဂလိပ်ဘာသာမှ ကွဲပြားခြားနားခြင်းကိုကျွန်မ-မမြင်နိုင်ပါ။) ဂျာမန်၊ ပြင်သစ်နှင့် ရာဇဝင် ဘာသာများကို သင်ကြား လေ့လာနေပါသည်။ ကျွန်မ မျှော်လင့်သည်ထက် ပိုမို၍ကျွန်မလုပ်ငန်းအတွက်ဝမ်းမြောက်နေပါသည်စကားတမျိုး ပြောရဦးမည်ဆိုလျှင် ကျွန်မ စာရေး အကြောင်း ကြားရခြင်းပင် ပျော်ရွှင် ဝမ်းသာ နေပါသည်။သို့သော် ယခု အ ချိန် မှာ အလွန် တရာ ကြပ် တည်း ပင် ပမ်း သော အချိန်များ ဖြစ်ပါသည်။ သို့ရာတွင်၊ ကျွန်မ အဘိုး ထိုကြပ်တည်းသော အချိန်များထဲသို့ နစ်မြုပ် မသွားခဲ့သေးပါ။ ကျွန်မသည် ဂ ဏန်း သ ချျာ။ သို့ မ ဟုတ်-ဂရိတ်နှင့် လက်တင်ဘာသာကိုလဲ လေ့လာ သင်ကြားခြင်း မ ပြု မဟုတ်ပါ။ 'ရက် နဲ ကလ လိ ဗ်' ကျောင်း၌၊ ၌၊ သင်တန်းများမှာ ရွေးချယ်ထားသော ဘာသာများကို သင်ကြားခြင်းပြုပါသည်။ အင်္ဂလိပ်ဘာသာ၌ မမှားနိုင်

သော သင်ခန်းစာများကိုသာ ရှင်းလင်းသင်ပြပြင်းပြုပါ သည်။ ကျမကောလိပ်ကျောင်းသို့ မရောက်မှီအချိန်ကပင် အင်္ဂလိပ်ဘာသာနှင့် တိုက်တော်သော ပြင်သစ်ဘာသာကို အောင်မြင်ခဲ့ပါသည်၊ ကျမအနှစ်သက်ဆုံး ဘာသာရပ် များကိုသာ ကျမရွေးချယ်ပါသည်။ မည်သို့ပင်ဖြစ်စေကာ မူ၊ ကျမသည် လက်တင်ဘာသာနှင့် ဂရိတ်ဘာသာများ ကို လုံးလုံးစွန့်ပစ်ရန် မကြံရွယ်ခဲ့ပါ။ နောက်သော်ကား ၌လေ့ကျင့်ခန်းများကို သင်ကြားကောင်း သင်ကြား ပါလိမ့်ဦးမည်။သို့ရာတွင်၊ဂဏန်းသင်္ချာကိုတော့ တသက် လုံးနှုတ်ဆက်ခဲ့ပါသည်။ ကျမရှင့်အား ရဲရဲကြီးပြောဝန့် သည်မှာ၊ ကြောက်မက်ဘွယ်ရာ ကောင်းသော ထိုနတ် မိစ္ဆာများကို နောက်ဆုံးကြည့်ရှုခြင်းဖြင့် ကြည့်ရှုကာ ပျော်ရွှင် ကြည်နူးခဲ့ပါသည် ဆိုခြင်းပင် ဖြစ်ပါသည်။ လေးနှစ်အတွင်း ကျမ ဒီဂရီ ရရှိလိမ့်မည်ဟု မျှော်လင့် ပါသည်။ သို့ရာတွင် ထိုကိစ္စနှင့်ပတ်သက်၍ အသေးစိပ် ရည်မှန်းချက်များတော့ ပြောစရာမရှိပါ။ မြန်မြန်ဆန်ဆန် ပြောသင့်သော အချိန်လည်း မဟုတ်သေးပါ။ စာများကို သာ တတ်နိုင်သမျှ ဆည်းပူးလိုပါသည်။ တနှစ်တတန်း၊ သို့မဟုတ်–နှစ်တန်းတက်ရောက်နိုင်လျှင် ကျမ–မိတ်ဆွေ များမှာ ဝမ်းသာကြမည်ဖြစ်ပါသည်။ သို့ရာတွင် ကျမ ဘဝကို ကောလိပ်ကျောင်း၌သာ မြှုပ်နှံ၍ အချိန်ဖြုန်း တည်းမှုကိုတော့ တိုက်ဖျက်ရမည်သာ ဖြစ်ပါသည်ရှင့်။

× × × ×

ဆရာကြီး မ္စတာ ဝိလျံဝိဒ် ထံသို့—
ကင်းဗရစ်ချ်မြို့။
ဖေဖော်ဝါရီလ ၂-ရက်၊ ၁၉၀၁-ခုနှစ်။

စကားမစပ်ရှင့်ထံတွင် အမိဝမ်းမှကျွတ်လွတ်ပြီးသည့်နောက် နှစ်ပေါင်း များစွာကြာမှ မျက်မမြင် ဘဝသို့ရောက်ရသူများအတွက် အထူးပုံနှိပ်ထားသော မျက်မမြင်စာ အင်္ဂလိပ်ဘာသာ နမူနာများ ရှိပါသလားရှင်။ သို့မဟုတ် အချိန်ကြာမြင့်စွာ ပင်ပင်ပမ်းပမ်းလုပ်ကိုင်ခဲ့ရသော လက်ချောင်းများဖြင့် စမ်းသပ်နည်းဥပဒေ အခြားမျက်မမြင်များထက် အာရုံလျော့ပါးစွာ ထိတွေ့ဆက်ဆန်ခြင်းဖြင့် မကျွမ်းကျင်ခဲ့ပုံ၊ သဘောတရား အချက်အလက်များ ဖော်ပြချက် စသည်တို့ ရှိပါသလားရှင်။ ကျွန်မသည်အင်္ဂလိပ် မဂ္ဂဇင်းတစောင်၌ ဤကဲ့သို့သော နည်းစံနစ်အကြောင်းကို ဘတ်ရှုခဲ့ရဘူးပါသည်။ ထိုသို့ ဘတ်ခဲ့ရခြင်းထက် ပိုမို၍ ကျွန်မသိလိုပါသည်။ အကယ်၍ သူတို့ပြောသလို လုံလုံလောက်လောက် ဖြစ်လျှင် ဘာကြောင့်အင်္ဂလိပ် မျက်မမြင်စာမှာ တခြားတိုင်းပြည်များအားလုံးရှိ မျက်မမြင်များ၏ မှီခိုအားထားခြင်း မပြုနိုင်သည်ကိုကျွန်မ အကြောင်းရှာ၍ မတွေ့ပါ။ ဘာကြောင့် များစွာသော ဘာသာအချပ်ချပ်ဖြင့် တိဘိကျကျ ပုံနှိပ်မထားနိုင်ခဲ့ပါသလဲ။ ရှင်သိသည့်အတိုင်း ဂရိတ် ဘာသာကပင်ဖေါင်းကြွ မျက်မမြင်စာကို ရိုက်နှိပ် နိုင်ပါ သေးသည်။ ထိုနောက် ' အတွင်းသဘောကို နှိုက်နှိုက်ချွတ်ချွတ် လေ့

လာနည်းစံနစ် ' ဖြင့် ဝိဝိလုံလောက်စွာ ဘာသာပြန်ဆို ထားသည့်ဟု ဆိုပြန်ပါသည်။ ထိုသို့ဖြစ်လျှင် ကျယ်ပြန့်သောစာကြွယ်နှင့် ကွက်လပ်တခုကို စိမ့်ပေးနိုင်လိမ့်မည်။ ကျမအထင်ဖြင့် မျက်မမြင်များအတွက် ငါးမျိုး ခြောက်မျိုးပုံနှိပ်ထားသည်ထက် ဘာတခုမျှဝိဝိ၍၊ တည်ထွင်ချက်မရှိသေးပါ။

၍စာသည် မျက်မမြင်များအတွက် ဖေါင်းကြွစာလုံးဖြင့် ပုံနှိပ်ဖြန့်ချိသော ' ကြီးကျယ်လှသည့် ကမ္ဘာလုံး ' မဂ္ဂဇင်း အယ်ဒီတာထံမှ အစမ်းသဘော ရေးသားချက်တခုမှ အကျိုးကျေးဇူး တုံ့ပြန်ခြင်းကို ဖေါ်ပြလိုက်ပါသည်။ မဂ္ဂဇင်းမှာ ယူကြည့်ထိုက် မကြည့်ထိုက် ဝေဖန်ရန် ဖြစ်ပါသည်။ မျက်မမြင်များအတွက် အထူးမဂ္ဂဇင်းတအုပ် မဟုတ်သော်လည်း မဂ္ဂဇင်းကောင်း တအုပ်ကိုတော့ ကြည့်ရှုသင့်ပါသည်။ ဖေါင်းကြွမျက်မမြင်စာလုံးရိုက် လစဉ်ထုတ် အကောင်းဆုံး ကျမတို့၏ မဂ္ဂဇင်းတအုပ်ကို ဘတ်ရှုကြည့်ရန် ထိုအင်္ဂလိပ် မဂ္ဂဇင်း အားဖြင့် ထောက်ခံရာ ရောက်နေပါသည်။ မျက် မ မြင် များ ချည့် ထိုစာအုပ်ကို ကူညီထောက်ပံ့ ခြင်း မပြုနိုင်သော်လည်း အပိုသုံးအဖြစ်နှင့် ငွေကုန်ကြေးကျ အများ ကြီးတော့ မဟုတ်ပါချင်။

× × × ×

ကန္တာ၁လုံးမင္ဂဇင်းကြီး ထံသို့—

ကင်းဗရစ်ချ်မြို့
ဖေဖေါ်ဝါရီလ ၁၆ ရက်၊ ၁၉၀၁ ခုနှစ်။

ကန္တာ၁လုံးမဂ္ဂဇင်းကြီး
နယူးရောက်မြို့တော်

လူကြီးလူကောင်းများရှင့်—

ရှင်တို့ထံမှ စိတ်၁င်စားစရာ စာအတွက် စာပြန်ရန် အချိန်ကို ယနေ့မှပင် ကျမရရှိခဲ့ပါသည်။ ကျမ ၏ နားထဲတွင် ငှက်ကလေး တကောင်က သတင်းကောင်းများ သီဆိုနေသံကို သာ ကြားယောင်နေပါသည်။ သို့ရာတွင် ထိုအသံမှာ ရှင်တို့ထံမှ ဖြောင့်ဖြောင့်တန်းတန်း ပေးပို့လိုက်ခြင်းဖြင့် ပျော်ရွှင်ရသည်ကို သံသယတော့ ဝင်မိပါသည်။

ကန္တာ၁လုံးမဂ္ဂဇင်းမှ ဘာသာရပ်ကို သင်ကြားနိုင်ရန် ပုံနှိပ်ခဲ့ခြင်းမှာ ကြီးကျယ် ခမ်းနားခြင်း ဖြစ်မိ ပါသည်။ မျက်စိနှစ်ကွင်းအလင်းမရသူများအတွက် ဆင်ခြင် တိုင်းထွာ၍ ဤကဲ့သို့ ဖြန့်ချိထုတ်ဝေခြင်းတချပ်ဖြင့် ဆရာဘာသာ ပမာ လက်ခံနိုင်အောင် မျက်စိမြင်သူများပမာ၊ အံ့သြဘွယ်ရာ ပျော်ရွှင်မှုသုခခံစားရေးအတွက်ဟုဆိုခြင်းကိုတော့ ကျမ သံသယ ဖြစ်မိပါသည်။ ကန္တာ၁ပေါ်တွင် ဆန္ဒအ

လျောက် အတွေးအခေါ်များကို ပြီးပြည့်စုံအောင် တဦး ဘယောက်အတွက် ဘတ်ကြားရန် ဆိုခြင်းမှာ ဖြစ်နိုင်ပါ သည်။ကမ္ဘာတွင် ပျော်ရွှင်မှုများ၊ဝမ်းနည်း ကြေကွဲခြင်း များ၊ ပျက်ကွက်ဆုံးရှုံးခြင်းများ၊ အောင်မြင်ခြင်းများမှာ တဦးတယောက်အဘို့ စိတ်အား ထက်သန်ဆုံး စိတ်ဝင် စားမှုဖြစ်ပါသည်။ စကားလုံးများ အတွက် နက်နက်နဲနဲ ပျော်ရွှင်ခြင်းတရပ်ဖြစ်လာနိုင်စရာရှိသည်ဆိုခြင်းမှာမှန် ကန်ပါ လိမ့်မည်။ ကမ္ဘာလုံး မဂ္ဂဇင်းကြီး၏ကြိုးပန်းချက် ဖြင့် အမှောင်ထဲတွင်ထိုင်၍နေရသူများအား အားပေးသမှု ပြုခြင်း။ အဆင့်အတန်း မြင့်စာပေ ကြွယ်ဝအောင် အ ထောက်အကူပြုမြင်းအတွက် အကျိုးပြုမည်ကို ကျမ ယုံ ကြည်ပါသည်။

ကျမ သံသယဖြစ်နေခြင်းမှာ မျက်မမြင်များက ကမ္ဘာ လုံး မဂ္ဂဇင်းကြီး၏ ဖေါင်းကြွ ပုံနှိပ် ထုတ် ဝေသော စာ စောင်တခုကိုဝယ်ယူဘတ်ရှုခြင်းဖြင့် ထာဝစဉ်ကျယ်ပြန့် ကြီး ထွား လာ မည် ဆို ထား ချက် ပင် ဖြစ် ပါ သည်။ အ ကြောင်း ကို ဆို ရ လျှင် မျက် မ မြင် လူ တန်း စား များမှာ ဆင်း ရဲ နွမ်း ပါး ကြ ခြင်း ကို ကျ မ ပြော လို ပါသည်။ သို့ရာတွင် မျက်မမြင်များ၏ မိတ်ဆွေသူငယ် ချင်းများက လိုအပ်ခဲ့ပါလျှင် ကမ္ဘာလုံးမဂ္ဂဇင်းကြီးအား

ဘာကြောင့်မကူညီဘဲ လစ်လျူရှုကြပါသလဲ။ မြင့်မြတ်သောဆန္ဒ အသီးသီး၏ ရက်ရက်ရောရော အာရုံ ဝင်စားခြင်းကိုအခြေပြုလုပ်လျှင် ဖြစ်နိုင်စရာရှိပါသည်။ ကျမ၏ အသဲနှလုံးမှ လှိုက်လှိုက်လှဲလှဲနှင့် စတင် လုပ်ကိုင် နိုင်ချိန် ဘုရားသခင်သည် ရှင်တို့ဆန္ဒအတိုင်း အမြန်ကူညီပါစေဟု ဆုတောင်းပတ္တနာပြုလိုက်ပါသည်ရှင့်။

ဟဲလင်ကယ်လာ။



## ဤစာအုပ်ကိုရေးသားခြင်းမှာ

ဤအချိန်၌ မစ္စကယ်လာ၏ 'ကျမဘဝဖြစ်စဉ်' စာအုပ် ပေါ်ပေါက်လာခြင်းမှာ သင့်မြတ် လျော်ကန်ပါပေသည်။ သူမဘဝသက်တာ တလျှောက် ဆောင်ရွက်ချက်များ၏ မှတ်သားဖွယ်ရာ အောင်မြင် ပြီးစီးခဲ့ ခြင်း များပင် ဖြစ်ပေသည်။ အနာဂါတ်အတွက် သူမ ဘာဘဲ လုပ်လို လုပ်သို ယခုလောလောဆယ်အားဖြင့် ရှင်းလင်း ဖေါ်ပြခြင်းပြုသော အောင်မြင်မှုတို့ကား အနည်းငယ်မျှ ထပ်လောင်းဖြည့်စွက်ခြင်းသာလျှင် အထောက်အကူ ပြုလိမ့်မည်သာ ဖြစ်ပေသည်။ သူမသည် လူစဉ် မမှီစေကာမူ သင့်တင့် လျောက်ပတ်သော အခြေအနေများအရ တတ်နိုင်သမျှ သူမ ကြိုးစား၍သင်ကြားသလောက် သူမ၏ပညာရေးကို ရှေ့ရှုထမ်းဆောင် သွားနိုင်ကြောင်းမှာ လွန်ကဲ့သည့် ၂ နှစ် အချိန်အတွင်း 'ရက်ဒ်ကလစ်ဖ်' ကျောင်း၌ ပညာဆည်းပူးနိုင်ခဲ့ခြင်းဖြင့် အောင်မြင်ပြီခဲ့ဟု သေချာစွာ ပြောနိုင်ပါပေသည်။ မစ္စကယ်လာက သူမကိုယ်တိုင် အဓိပ္ပာယ်မျှလောက် သံသယရှိစေကာမူ။ ယခုအချိန်၌ အနာဂတ်ယူရန်ဖြစ်နိုင်သောအခြေအနေသို့တိုင်ရောက်ခဲ့ပါပြီ။

သူမ၏ မြောက် များ စွာ သော ကိုယ်ရေး ကိုယ်တာ အစွန်းပွတ္တိ မှတ်တမ်းများကို အမှတ်စဉ်ဖြင့် တတွဲပြီးဘတွဲပင် ဘေ့စ်တွန်မြို့မှ သတင်းစာ တစောင်တွင် အရေးကြီးသည့် အဓိပ္ပာယ်ဒိတာ မှတ်ချက်တခုဖြင့် ရေးသားဖေါ်ပြ

ထားပြီးဖြစ်သေသည်။ စာရေးသူသည်။ မစ္စကယ်လာ၏ ကောလိပ်ကျောင်းသူဘဝတန်ဘိုးနှင့်ပတ်သက်၍ အမှား အယွင်း အတိမ်းအစောင်း မရှိရအောင် သတိထားချက် ဖြင့် မဖော်ပြမိသည်ကို ယူကျုံးမရ ဖြစ်နေ ပေသည်။ သူသည် သူမက ကောလိပ် ပညာသည် ကျယ်ပြန့်သော ဘာသာရပ်များမဟုတ်ပါဟု ရှင်းလင်း ထုတ်ဖော် ပြော ကြားချက်ကို ကိုးကား၍ရေးသားခြင်းပြုသည်။ သူမသည် ကောလိပ်ကျောင်းတွင်နေထိုင်သော အခြားကျောင်းသူ ကျောင်းသားများ၏ဖြေ့ာလင့်ချက်ကင်းမဲ့ခြင်းကို အမှတ် သညာပြုလျက် အကြောင်း အမျိုးမျိုးဖြင့် စုံစမ်းသိမှတ် ခါ ရှာဖွေရန်မြှော်လင့်ချက် ထားခဲ့ပေသည်။ သို့ရာတွင် မစ္စကယ်လာသည် သူမ၏ ကိုယ်ရေး အတ္ထုပ္ပတ္တိထဲတွင် ပြတ်တောင်းပြတ်တောင်း ရေးသားခြင်းဖြင့်အကြောင်း အရာမျိုးစုံကို အမှတ်တရ ဖြစ်စေခဲ့ပါသည်။ အယ်ဒီတာ မှတ်ချက်ရေးသူသည်။ ကွဲလွဲချက် မရှိရအောင် သူမ၏ အကြီးအကျယ် ရယ်မောဘွယ်ရာ အရေးအသား မျိုးကို သတိဝီရိယကြီးစွာထား၍ ထုတ်ဖော်သမှု ပြုရပေသည်။ မစ္စကယ်လာသည်ပင် သူမ၏အမြင်များမှာ အရေးအကြီး ဆုံးအချက်အလက်များ ဖြစ်ကြောင်းကို မစဉ်းစားခဲ့ပါ။ သူမသည် သူမ၏ စာဘတ် ပရိသတ်အား ကောလိပ် ကျောင်းဝယ် အောက်တန်း ကျောင်းသား ကျောင်းသူ တဦး၏ အတွေ့အကြုံ များကို ပညာရေးနှင့် ပြီးပြည့်စုံစွာ တစုံတယောက်မျှ မရေးသားဘူးသည့် အကြောင်းအရာ

အမျိုးမျိုးပင် သိရှိစေနိုင်ရန် သူမ၏အရေးတကြီးကိစ္စချပ်များမှ အကြံဉာဏ် များကို ထုတ်ဖော် မြွက်ကြားခဲ့ပေသည်။ ဥပမာ အားဖြင့် သမ္မာ ကျမ်းစာ အကြောင်းကို သူမပြောပြရာ၌ ကြားရသူတိုင်းအချို့မှာ အံ့သြသွားစေပါသည်။ သူမအတွက်တော့ ထိုသူများ မမြင်ကွယ်ရာတွင် ပျော်တပြုံးပြုံး မော်မဆုံးနိုင်အောင် ရှင်းလင်းပြတ်သားစွာ အင်္ဂလိပ်စာကြီး ပေကြီးတွင် သမ္မာကျမ်းစာတခုလုံး ဘာသာပြန်ကြားရန် ရွှင်မြူးနေခဲ့ပေသည်။ ထိုသမ္မာ ကျမ်းစာကို ဘာသာရေး လေ့လာချက် ဝတ္တုရားတခု မဟုတ်ဘဲ သူမ၏ ဆရာမအားဖြင့် သို့မဟုတ် သူမ၏ မိဘများအား ဖြင့် အကူအညီယူကာ ဘာသာပြန်ကြားခဲ့ခြင်းသာ ဖြစ်သည်။

ကျွန်ုပ်သည် မစ္စကယ်လာနှင့် စာဘာသာသူ ၏ တောင်းပန်သင့်ပါသည်။ ထိုအကြောင်းမှာ လိုအပ်သည့် ရှင်းလင်းချက်ကို တကြိမ်ထပ်၍၊ ဖော်ပြရမည်မှတပါး မစ္စကယ်လာ၏ ရည်ရွယ်ချက်ကိစ္စမှာ အဘယ်မျှ တန်ဘိုးရှိကြောင်း စိတ်ထဲဝယ် စွဲမြဲမှတ်ထင်နေမိခြင်းပင်ဖြစ်သည်။ မစ္စကယ်လာ၏ စောစောပိုင်း ပညာ သင်ကြား ရေးမှာ သူမဘဝတွင် မှတ်တမ်းတင်ရန် ကျကျနန အတတ်ပညာနှင့် ပြည့်စုံခြင်းကား မရှိခဲ့သေးချေ၊ ယုတ်စွအဆုံးအရေးကြီးသော အချက်အလက်များပင် မပါဝင်သေးပေ။ သူမ အဘယ်မျှ သင်ကြားခဲ့ရသည်ကို အသေးစိပ် အားဖြင့် သူမလည်း မသိနိုင်ချေ။ သူမ၏ကလေးဘဝ အသိဉာဏ်မှာ အချို့ကိစ္စများ၌ မှတ်မိနိုင်စွမ်းမရှိ၊ သူမ၏ဆရာမနှင့်

အခြား ပုဂ္ဂိုလ်များထံမှ နှောင်းအချိန် သင်ကြားခဲ့ရခြင်း သည်သာ တစွန်းတစ သတိရခဲ့ပေသည်။ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ ကလေးဘဝ အဖြစ်အပျက်များကို ၁၅-နှစ် အရွယ်လောက်ကစ၍သာ အတိအကျ မှတ်သားနိုင်သလို သူမသည်လဲ သူမ၏ အဖြစ်အပျက်များကို ထို အ ရွယ် လောက်မှာပင် ပြန်လည်မှတ်သား နိုင်ပေမည်။ ထိုသို့ရေး သားလိုက်ခြင်း မှာလည်း မစ္စကယ်လာ၏ မှတ်သားချက် များနှင့်သူမဆရာမ၏မှတ်တမ်းများမှာ အခြင်းခြင်းမကိုက် ညီဘဲ ကွဲလွဲချက် တွေ့ရခြင်းကြောင့် ဖြစ်ပါသည်။

မစ္စကယ်လာက သူမ၏အကြောင်းအရာများကို ရေး သားဖော်ပြရာ၌ ဘဝအခက်အခဲများအား အဘယ်ကဲ့သို့ သူမကျော်လွှားခဲ့ရသည် များကိုသာ ရေးသားခြင်း ဖြစ် ခဲ့သည်။

ကျွန်ုပ်တို့ ရေးသားရသောအခါ၊ မိသုကာတဦးသည် သူ့အကြံဥာဏ်များကို မျက်စေ့ ရှေ့ဝယ် အကောင်အ ထည်မဖော်လာမီ လုပ်ငန်းတခုလုံး ချင့်ချိန်မှန်းဆရသကဲ့ သို့ သူမရေးသားထားသည့် စာမျက်နှာများ ရှေ့နောက် အစီအစဉ် အထားအသို ပြေပြစ်ချောမောအောင် စီစဉ် ရထားကာ၊ အပြန်ပြန်အလှန်လှန် စီစစ်၍ ဖော်ပြနိုင်ရန် ရေးသားရခြင်း ဖြစ်သည်၊ မစ္စကယ်လာသည် သူမ အ ကြောင်း အရာများကို ရေးသားရာ၌၊ လက်နှိပ်စက်ဖြင့် ရိုက်ရသောကြောင့်၊ ပြန်လည်၍ မဘတ်နိုင်။ တဦး တ ယောက်က မျှလည်း သူမ၏ မျက်မှမြင် အကွရာ များနှင့်

ရေးသား ချက်ကို တ ဖန် ပြန် လည် မ ဘတ် တတ် ဖြစ် ခဲ့ ပေသည်။

ဤအခက်အခဲမှာ သူမ ကိုယ် တိုင် ဘတ် နိုင် သော လက်ရေး စာမူ တခု ပြုရသည့် သူမ၏ မျက်မမြင်သုံး ကျောက် သင် ပုန်း စက် ကို အသုံး ပြု ခြင်း အား ဖြင့် တစိတ်တဒေသ ပြောင်းလဲသွားခြင်းဖြစ်ပေသည်။ သို့ရာ တွင် သူမ၏ လုပ် ငန်း မှာ နောက်ဆုံး၌။ လက် နှိပ် စက် ဖြင့် ရိုက်ထားရမည့်ဖြစ်သည်။ မျက်မမြင်သုံးစက်မှာ တ နည်းအားဖြင့် ခဲယဉ်းသောအရာဝတ္ထုတခုဖြစ်ပေသည်။ သူမကလဲ သူမ၏လက်နှိပ်စက်ပေါ်မှာဘဲ တခါထဲ ရိုက် နှိပ်တတ်သော အလေ့အကျင့် ရှိခဲ့ပေသည်။ သူမသည် အသေးအဖွဲ့ ကိစ္စကလေးသည်ပင် သူမ၏ မျက်မမြင်သုံး လက်ရေးမူကိုမှီခိုလာခဲ့ရသည်။ သူမသည်လွန်ခဲ့သောတ နှစ်ကျော်ကာလက သူမ၏ အထုပ္ပတ္တိကို စတင်ရေးသား လာရာမှတ်သားချက်များဟူသမျှ စာမျက်နှာပေါင်းတရာ တိတိ မျက်မမြင်သုံး ကရိယာမှ ထုတ်နုတ် ရေးသားရ ခြင်း ဖြစ်ပေသည်။ သူမ၏ လက်ရေးစာမူဖြင့် မှတ်သား ခြင်း မပြီးဆုံးမှီ ဤမှတ်သားချက် များကို မှား ယွင်း ၍ ဖျက်ဆီးပစ်ခဲ့ရပေသည်။ သို့ဖြစ်၍ သူမ၏ အထုပ္ပတ္တိရေး သားရာတွင် လက်နှိပ်စက်ကို အမှီသဟဲပြုကာ သူမ ဦး ကျော်ဝယ် မှတ်သားမိသလောက် စက်တင် ရိုက်နှိပ် ရင်းသီးခြားအကြောင်းအရာများကို မစ္စဆူလီဗင်က တ ဖန် ပြန်လည်ဘတ်ပြခဲ့ရပေသည်။

လွန်ခဲ့သောဇူလိုင်လက သူမသည်နောက်ဆုံးအခဏ်းကို ခွန်စိုက်အားစိုက် ရေးသား ပြီးဆုံးသည်နောက် အထုပ္ပတ္တိတခုလုံး ပြန်လည်ရေးသားလေသည်။ သူမ၏ မိတ်ဆွေကောင်း မစ္စဘာဝ ပီလျံဝိတ် ၌ သည်။ မင်္ဂဇင်းတွင် ထည့်သွင်းမည့်စာမူ ဖြင်ချက်များမှ သူမအတွက် မျက်မမြင်သုံး ကော်ပီတခုကို အပြည့်အစုံ ရှာဖွေပေးသည်။ ထိုနောက် ပဋ္ဌမအချိန်တုံးကခံရလျှင် သူမသည် ရုတ်တရက် ချက်ခြင်းသူမ၏ လက်ချောင်းဖြင့် လက်ရေးစာ မူတခုလုံးကို ဘတ်ရှုခဲ့ပေသည်။ သူမသည် စာပိုဒ်များ ထပ်တလဲလဲဖြစ်နေခြင်း၊ စာမျက်နှာအခဏ်းများ အစီအစဉ် ကွဲလွဲခြင်းစသည်တို့ကိုတွေ့ရသည်။ သူမ၏ကိုယ်ရေးရာဇဝင်စီကုန်းခြင်းမှာ လုံးဝအခဏ်းတိုများ ဖြစ်နေ၍၊ထိုအခဏ်းများကို တဖန်ပြန်ခါ ခွဲခြားသမှု ပြုရပြန်သည်။

အချို့စာပိုဒ်များမှာ နဂိုအနေအထားအတိုင်း အချို့မှာ သူမ၏လုပ်ငန်းအခြေအနေများမှ ထုတ်နုတ် ဖေါ်ပြခြင်းပြုပေသည်။ သူမသည် အကြောင်းအရာ အထုပ္ပတ္တိတခုထက် မျက်မမြင်သုံး စာပေများကိုသာ တတွဲပြီး တတွဲ ရေးသားခဲ့လေသည်။ အသေအချာကောက်နုတ်၍ ဖော်ပြရပါမူ၊ သူမ၏ဝတ္ထုမြောက်များစွာသော စာပိုဒ်များမှာ အင်္ဂလိပ်ဘာသာရပ်တို့ဖြင့် ရေးသားသည့် ထိုတိုတောင်းတောင်း စကားပြော ရေးသားနည်းများသာ ဖြစ်သည်။ တခါတရံ၌ အခြေခံကလေးက ၎င်း၏ မူရင်းသတ်မှတ်ချက်များကို ဖော်ပြပေသည်။

ဝတ္ထုကြောင်းကိုတဖန်ပြန်လည်ရေးသားရာ၌မစ္စကယ်လာသည် သူမ၏မျက်မမြင်သုံး လက်နှိပ်စက်ဖြင့်သီးချားစာမျက်နှာများကို အမှားအမှန် ပြုပြင် ခဲ့ပေသည်။ သူမသည် လက်နှိပ်စက်ဖြင့်ရှည်လျားသော ပြင်ဆင်ချက်များကို ရေးသားကာ စာလုံးတိုင်း စာလုံးတိုင်း ကာရံဝါကျညီညွတ်အောင် စီစဉ်သမှု ပြုတော့သည်။ ထိုနောက်ဝတ္ထုတခုလုံးကို သူမ၏ မျက်မမြင် စာကော်ပီမှ ဘတ်ရှုကြည့်သည်။ ဘတ်ရင်း အမှားအမှန် ပြင်၍ လက်ရေးမှုဖြင့် တိုက်လျက်ပြီးမှ စာပုံနှိပ်သူထံသို့ ပို့လိုက်ခြင်းဖြစ်သည်။ ယင်းသို့ပြန်လှန် စစ်ကြောသမှု ပြုနေစဉ်အတွင်းသူမသည် စာပိုဒ်များနှင့် အကြောင်းအရာ အဓိပ္ပါယ်ပြသနာရပ်များကို တိုင်ပင်ဆွေးနွေးခြင်း ပြုသည်။ သူမသည် သူမ၏လက်ချောင်းကို မျက်မမြင် လက်ရေး စာမူပေါ်တွင် အပြေးအလွှား စမ်းသပ်ရာမှ ယခုအချိန်၌ ရပ်တန့်ကာ အမှားအမှန် ပြင်ဆင်ချက်များကို ညွှန်ပြသည့်မျက်မမြင်စာ မှတ်စုများဖြင့် ပြန်လည် တိုက် ကြည့် နေတော့သည်။ သူမသည် အချိန်ရသလောက် လက်ရေးမှုနှင့်ကိုက်မကိုက်ကိုကျယ်လောင်စွာဘတ်ကြားနေသည်။

သူမသည် စာရေးဆရာကြီးတယောက်က သူ့အယ်ဒီတာ သို့ ပေးပို့သော မိတ်ဆွေများ ပြောကြားချက်ကို နားထောင်သကဲ့သို့ ယခုအချိန်၌၊ ဝေဖန်ချက်များကို သူမက နားထောင်ခဲ့သည်၊ အကောင်းဆုံးဝေဖန်သူ မစ္စဆူလီဗင်က စာစီစာကုံး ရေးသားခြင်း၊ ပြန်လှန် စစ်ဆေးခြင်းမှ

စ၍၊အရေးကြီးသော အချက်အလက်ဟူသမျှသွ နိဖြခြင်း ပြုပေသည်။ သတင်းစာတစောင်ကမူ မစ္စကာယဲလာသည် စာအုပ်ဖြစ်မြောက်အောင် ရေးသားခြင်းအတွက် စိတ်အားထက်သန်သော မိတ်ဆွေသင်္ဂဟများ အကူအညီဖြင့် တစုံတရာ အကြောင်းများကို သြဇာညောင်းစေလျက်၊ စာအုပ်တွင် ရေးသားဖေါ်ပြခဲ့ ဘူးသည်ဟု ဆိုသည်။ မှန်ကန်သော အကြောင်းတချက်မှာ–သူမသည် မြောက်များစွာသော အကြံဉာဏ်များကို လေ့ကျင့်ခြင်းဖြင့် ထင်လောင်း ဖြည့်စွက်ခါ၊ တိုးတက်မှု ရရှိခဲ့ခြင်း ဖြစ်သည်။ ဤစာအုပ်သည် မစ္စကာယဲလာ၏ လွတ်လပ်သော တန်ခိုးအာနိသင် အစွမ်းတက်မှုအတွက် နောက်ဆုံး သက်သေခံ ချက်ပင် ဖြစ်ပါပေသည်။

### တဦးတယောက်နှင့် စပ်ဆိုင်သော အကြောင်းအရာ။

၁၉–ရာစုနှစ် အတွင်း၌၊ စိတ်ပါဝင်စားဘွယ် ရာအကောင်းဆုံး ပုဂ္ဂိုလ်နှစ်ဦးမှာ နပိုလီယံနှင့် ဟယ်လင်ကာယ်လာတို့ဖြစ်သည်ဟု စာရေးဆရာကြီး 'မတ်ခ်တွမ်း' က ပြောခဲ့လေသည်။ ဤကဲ့သို့သော ချီးကြူးချက်နှင့်အတူ ကဏ္ဍာကြီးသည် သူ့အား သူမ ပြုလုပ် ဆောင်ရွက်ခဲ့သည်ထက် ပိုမို၍ ကြည်ညို လေးစားကာ ဖြောင့်မှန်ကြောင်း ထင်ရှားစေပါသည်။ မရေးသားခဲ့ဘူးသော သူမ၏ အကြောင်းအရာ တိကျမှန်ကန် ကြီးကျယ်ပုံကို တော့ တဦးတယောက်မျှ မပြောပြနိုင်ပါ။ ကွန်နိုပ်သည်

သာ အားလုံးသော အကြောင်းအရာများကို မစ္စကယ်လာ၏ လုပ်ငန်းစဉ်နှင့် ပတ်သက်၍ အနည်းငယ် ရှိသည့် အချက်အလက် မျိုးစုံမှ ထပ်လောင်း ဖြည့်စွက်ခါ သူမ တဦးတည်းသာ စပ်ဆိုင်သော အကြောင်းအရာကို သီးသန့် ရေးသားခြင်း ပြုနိုင်ပါပေသည်။

မစ္စကယ်လာသည် အရပ်မြင့်၍ သန်မာထွားကြိုင်းသော အစဉ်သဖြင့် ကျန်းမာရေးနှင့်ပြည့်စုံသော အမျိုးသမီး ဖြစ်ပေသည်။ သူမသည်နကိုရှိအနေထက်ပို၍ လှုပ်ရှားတက်ကြွသောသဘောထားရှိသည်။အကြောင်းမှာ–သူမသည် လူများအား အင်္ဂလိပ်စကား အများဆုံး ပြောခြင်းထက် သူမ၏လက်များကို ပို၍ အသုံးချကြောင်း ဖော်ပြလေသည်။ ၎င်း အလေ့ အကျင့် အတွက် တခု တည်းသော အကြောင်းအရာမှာ သူမ၏လက်များသည် ထူးထူးခြားခြား ရှည်လျား၍၊ ကျွန်ုပ်တို့ အမြင်ဖြင့် ပြောရ သော်– မျက်လုံးအစား လျင်မြန်စွာ ထိတွေ့ စမ်းသပ်နိုင်ဘွယ်ရာ အရည်အချင်း သတ္တိအတွက် ကရိယာတန်ဆာပလာများ ဟုပင် ဆိုရမည်ဖြစ်သည်။ အားလုံးသော နားမကြားသူများမှာ သဘာဝအားဖြင့် စကားပြောဆိုကြသည့် အခါ လှုပ်ရှားခြင်းပြုကြသည်။ မှန်ပါသည် တခါတရံ သူတို့အတွက် အကောင်းဆုံးသော နည်းလမ်းမှာ ‘အက်သေး ဒဲလ်အက်ပဲ’ တည်ထွင် ခဲ့သည့် လက်ပြ ချေပြ ဘာသာ သင်္ကေတဖြင့် ကိုယ်ခန္ဓာလှုပ်ရှားခြင်းမှစ်နစ်တကျ ဆက်ဆံရေးကို ပြုလုပ်အပ်သည်ဟု ယုံကြည်ရပေသည်။

မစ္စကယ်လာ စကားပြောသောအခါ၊ သူမ မျက်နှာသည် သူမ တွေးထင်သည့်အတိုင်း စိတ်ထားနှင့် အညီ ဖော်ပြနိုင်စွမ်းရှိသည့်သာမက ကြည့်လင် ရှင်ပြလျက်ရှိပေသည်။ အမူအရာဖော်ပြခြင်းမှာ စကားပြော သကဲ့သို့ အဓိပ္ပါယ်တဝက် နားလည်စေ ပါသည်၊ သူမကား အခြားသူ၏ ဖော်ပြ ပြောကြားချက် ကိုတော့ မသိပါချေ။ သူမသည် ရင်းနှီးသော မိတ်ဆွေတဦးနှင့် တွေ့ဆုံလျှင် သူမ၏လက်များသည် အဘယ်သို့ပင်မိတ်ဆွေ၏ မျက်နှာဆီသို့ သိရှိရန် လျင်မြန်စွာရောက်သွားစေကာမူ 'ပါးစပ်ကလဲ တွန့်လိမ်နေတာဘဲ' ဟု ပြောလေ့ ပြောထ ရှိပေသည်။ ဤနည်းအားဖြင့် သူမသည် ပုဘ်ခတ်နေသောမျက်လုံး သို့မဟုတ်-ညစီသည့်အသံမှသတိမေ့လျော့ချက်ကို ဝါကျများ၏ထက်ဝက်မျှ အဓိပ္ပါယ်သိသာရန် တတ်နိုင်လာပေသည်။

သူမ၏လူများအတွက် မှတ်ဉာဏ်မှာ ထူးထူးခြားခြား အာရုံနှူးလျက်ရှိပါပေသည်။ သူမသည် တဦးတယောက်၏ လက်ဆွဲနှုတ်ဆက်ပုံခြင်း မဟုတ်ဘဲ၊ ကွဲပြား ခြားနားချက်ကို သိသည်။ ကျွက်သားများတင်းကြပ်စွာ ဆုပ်ကိုင်ခြင်းဖြင့် ထူးခြားသောလက္ခဏာရုပ် အားလုံးပင် နှီးနှောခြင်း မပြုမှီ လက်ချောင်းများနှင့်ဆုပ်ကိုင်၍ အမှတ်တရဖြစ်စေ ပါသည်။

မစ္စကယ်လာနှင့် မစ္စဆူလီဗင်တို့၏အထူးခြားဆုံးအမူအရာမှာ ရွှင်မြူးနေကြခြင်းပင် ဖြစ်သည်ဟု ဆိုကောင်း

ဆိုရပေမည်။ ကျွမ်းကျင်ခြင်းမှာ စကားလုံးများကို အသုံးချတတ်ခြင်းနှင့် သူတို့တတွေနှင့်ကစားတတ်သော သူမ၏ အလေ့အကျင့်၊ မှတ်ဘွယ်ရာစကားများနှင့် လက်ာတိုများကို အဆင်သင့် ရေးစွမ်းနိုင်ခြင်းတို့ဘဲဖြစ်ပေသည်။

တစုံတယောက်က သူမအား စာပေ သင်ကြားခြင်း၌ နှစ်သက်မှု ရှိမရှိ မေးမြန်းရာ၌....

'ဟုတ်ကဲ့၊ ကျမနှစ်သက်ပါတယ်ရှင်။ ဒါပေမဲ့ ကျမကစားနေ်စားတာကိုလဲ သဘောကျတာဘဲ။ တခါတလေတော့လဲ တူရိယာတွေ ကျမကိုယ်ထဲ သွတ်သွင်းထားနိုင်ရင် ကောင်းမှာဘဲလို့တောင် တွေးမိပါတယ်ရှင်'ဟု သူမက ပြန်ပြောပါသည်။

သူမသည် ဒေါက်တာ ဖါနက်စ်နှင့်တွေ့ဆုံသောအခါ ကောလိပ်ကျောင်းမှ ပရော်ဖက်ဆာများ သူမကို မပြောပြသေးသည့် ရှိတ်စပီးယား၏ ကျောင်းသားဘဝ၊ ဘျွန်ုစ်တို့ အားလုံး သိထားကြပြီးသော ရှိတ်စပီးယားသည် ရေဖြန်းမင်္ဂလာခံယူခါ လက်ထပ်၍သေဆုံးသွားကြောင်းကို သူမ သိရှိအောင် သတိပေးစကားပြောကြားခြင်းဖြင့် သိခွင့်ရခဲ့သည်။

ကောင်းပါဘိရှင်၊ ဒီလိုဆိုရင် သူဟာ အသွန်အရေကြီးတဲ့ အမှုကိစ္စတွေအားလုံး ပြုလုပ်ပြီးစီးသွားဘယ်လို့ ယူဆနိုင်တာပေါ့'ဟု သူမက ပြန်ပြောလိုက်လေသည်။

တကြိမ်က အကွဲ့ရာနည်းဥပဒေကို သင်ကြားနေသော ဆိတ်ဆွေတဦးသည် (ဂျီ) အကွရာကို သင်ကြားစဉ်

သင်္ကေတ စာပျဉ်တခုပေါ်တွင် (ဂျီ)နှင့်တူသည့်(အိပ်ချ်) ကိုချည့် လက်ချောင်းကလေးနှစ်ချောင်းက ရောက်ရှိသွား တော့သဖြင့်၊ မစ္စကယ်လာသည် နောက်ဆုံး၌ ထိုသူအား 'သေနပ်မောင်း နှစ်ခုစလုံးနဲ့ ပစ်နေတာသား'ဟု ပြောခဲ့ ဘူးလေသည်။

တခါတုံးကမစ္စတာဂျို့ဇက်(ဗ်)ဂျက်ဖါဆင်သည်မစ္စ ကယ်လာအား သူမ၏ ခေါင်းထဲတွင် ဘယ်ကဲ့သို့သော ဥာဏ်တုံးဥာဏ်ခဲများ ရှိနေကြောင်းကို ရှင်းလင်းပြောပြ ခဲ့ပေသည်။

'အဲဒါဟာ မင်းရဲ့ဆုတံဆိပ်ကို တိုက်ခိုက်ယူနေတဲ့ ဥာဏ်တုကလေးပေါ့ကွဲ့'ဟု သူကပြောခဲ့သည်။

'အခက်အခဲမျိုးစုံကို ဆန့်ကျင်ဘက် ရင်ဆိုင်တိုက်ရ တာကလွဲလို့တော့ ကျမ ဘယ်တော့မှ မတိုက်ခိုက် ခဲ့ပါ ဘူး'ဟု သူမကပြန်ပြောလိုက်သည်။

မစ္စကယ်လာ၏ စိတ်တံခိုးမှာ သူ့ရသဏ္ဍာန်နှင့်ပြည့်စုံ၍ လေးနက်သော စိတ်ဓါတ်မျိုး ဖြစ်ပေသည်။

သူမသည် (၁၃) နှစ်သို့ အရွယ်လောက်တုံးက ဆို လျှင် စကားပြော သင်ကြားရန် သူမ၏စိတ်ကို သန္နိဋ္ဌာန် ချမှတ်ခဲ့ပေသည်။သင်ခန်းစာများကိုလေ့လာသင်ကြား ခွင့် မရချိန်ကထဲက သူမ ဆရာမအား အနား မပေးဘဲ စုံစမ်းမေးမြန်းခဲ့သည်။ ပညာဗဟုသုတ ပြည့်စုံသူများနှင့် ယှဉ်တွဲ၍အဆုံး မစ္စဆူလီဗင်ကပင် သူမ၏ ပျော်ရွှင်ရေး အတွက် ဆန္ဒပြည့်ဝအောင် အတတ်နိုင်ဆုံး ကူညီအား

ပေးသမှုပြုကာ အောင်မြင်မှုကိုပါ စမ်းသပ်ချက် တ ခုပြီ တခုနှင့် သူမအပေါ် လိုက်လျောခဲ့ကြပေသည်။ ယင်းသို့ မနေမနားကြိုးပမ်းအားထုတ်ချက်က သူမအား ကောလိပ် ကျောင်းသို့ တက်ရောက်သင်ကြားခွင့် ရခဲ့ခြင်း ဖြစ်ပေ သည်။ သူမသည် စာမေးပွဲများ အောင်မြင်၍ ကျောင်း ဆက်လက်နေထိုင်ခွင့် လက်မှတ် ရ ရှိ ပြီး သည့် နောက် 'ရက်ဒ် ကလီးဗ်' ကျောင်းအုပ်ကြီးနှင့် အခြား ပုဂ္ဂိုလ် များက ပညာ ဆက်လက်မသင်ကြားရန် အကြံဥာဏ်ပေး ကြသည်။ သူမကား၊ ဤသို့လျှင် တနှစ်နှောင်းခဲ့ရသည်။ သို့စေကာမူ၊ သူမသည် သူ့ အကြံအစည်အတိုင်း ကော လိပ်ကျောင်းသို့ ဆက်လက်၍ ပညာမသင်ရမခြင်း စိတ် ကြေနပ်မှု မရှိခဲ့ချေ။

သူမဘဝသည် တခြားလူများ စီမံပြုလုပ်ကြသကဲ့သို့ ပင်၊ ကြိုးပမ်းအားထုတ်ချက်များမှာ တဆင့်ပြီးတဆင့် ချောမောစွာတက်လှမ်းခဲ့ပေသည်။ သူမ၏အောင်မြင်ခြင်း မှာလည်း တခြား ပုဂ္ဂိုလ်များကဲ့သို့ သူ မ ကိုယ် တိုင် ဒင်ပြည့်ကျပ်ပြည့် ကြိုးစားသည်နှင့်အမျှ ပြီးပြည့်စုံစွာ အောင်မြင်ခဲ့ခြင်းဖြစ်ပေသည်။ သူမ ၏အသိမရှိမှု မှန်သမျှ ဆန္ဒ မပြည့်ဝမှု မှန်သမျှ သူမ၏ စိတ် ဓါတ် အား ပေး ချက်ဖြင့် ထူထောင်သမှု ပြုနိုင်ခဲ့ပေသည်။ အခြားပုဂ္ဂိုလ် တဦးဦး သွားနိုင်သော နေရာတိုင်း သူမသည်သဲ သွား ရောက်နိုင်ခဲ့ပေသည်။ သူမ၏ ကိုယ်လက် ကျန်းမာချေး လေးစားမှုမှာ 'စတီဗင်ဆင်' ကဲ့သို့ ရဲရင့်ခြင်း ရှိလှပေ

သည်။ ထိတ်ရှိုရုံနှင့် တဒိုဒို တရိရိ ဖြစ်နေသော ကောင်ကလေးအတွက် လူငယ်ကလေး 'စဘီဗင်ဆင်' က ကြိုးစားအားထုတ်၍ ချော့မော့ခဲ့ပေသည်။ မစ္စကယ်လာမှာ ထိုလူငယ်ကလေးနှင့် တူလှပေသည်။ သူမသည် သစ်တောများထဲသို့ လှည့်လည်ကာ ရှိုပုတ်အောက်သို့ တိုးဝှေ့လျက် ဆူးခြစ်ခံပြီး သွေးထွက်သံယို ဖြစ်ခဲ့သည့်တိုင်အောင် သူမကား သူ့ကိုယ်သူ နာကြင်မှု ဖြစ်စေပါသည်ဟု ဝန်ခံရိုး၍ မရနိုင်ချေ။ နောက်တကြိမ်တွင် ဤကဲ့သို့ တောထဲထွက်၍ မသွားဘဲ အိမ်၌ကစားရန် သွေးဆောင်ဖြားယောင်းမှု မပြုနိုင်အောင် ဖြစ်ခဲ့ပါသည်။

ထိုကြောင့်လူများက သူမအား တစုံတရာစမ်းသပ်ဘို့ ကြိုးစား ကြည့်သောအခါ သူမသည် မျက်မြင် နားကြား လူများကဲ့သို့ ပျော်ပွဲရွှင်ပွဲ ဖြေးခုန်ကစားပွဲ၌ အံ့ဘယ်ချလောက် အကြောင်းယုတ္တိမရှိသည့် အချက် အလက်များနှင့် စမ်းသပ်စေကာမူ ဆုံးဖြတ်ထားသည် အတိုင်း လုလ္လဝိရိယမပေါ့ဘဲ ဆောင်ရွက် နိုင် စွမ်း ရှိခဲ့ပေသည်။

အမေးပုစ္ဆာတရပ်ကို ဖြေဆိုရန် သူမ မသိသောအခါတိုင်း အဖြစ်နိုင်ဆုံးကို သေသေ ချာချာ စဉ်းစား တွေးတောခြင်းပြုသည်။ မျက်စိမြင်သူက အရောင်ကို ပြောပြနိုင်သလို သူမအားသင်၏ကုတ်အင်္ကျီအရောင်ကိုမေးလျှင် သူမသည်အင်္ကျီကိုစမ်းသပ်၍ 'အနက်ရောင်'ဟု ပြောပြပါလိမ့်မည်။ အကယ်၍ အင်္ကျီအရောင်က အပြာဖြစ်နေ

သဖြင့် သူမအား နာလိုခံခက် ဖြစ်စေအောင် အပြာဖြစ်နေကြောင်း ပြောပြလျှင် သူမသည် သင်အား နှစ် နှစ်ချိုက်ချိုက် ပြန်လည်ဖြေဆိုတတ်ပါသည်။

'ရှင် ဒီလိုသိနေတဲ့အတွက် ကျမ၀မ်းလဲသာပါတယ်။ ကျေးဇူးလဲတင်ပါတယ်။ ရှင် သိချက်နဲ့ များ ဘာ့ကြောင့် ကျမကို မေးရသလဲရှင်'

သူမ၏နက်နက်နဲနဲ လေ့လာ စူးစမ်းမှု ဝွန့်ဝွန့်စားစား ဆောင်ရွက်မှုညာဉ်က သူမအား စိတ်ဓါတ်ထက်သန်စေလျက်။ စိတ်ပညာရပ်ကို စမ်းသပ် တည်တွင်သူအတွက် အရှိလိုသော အကြောင်းအရာတခု ဖြည့်စုံအောင် စီစဉ်ပေးသလို ဖြစ်စေပါသည်။ဒါတွင်မကသေးပါ။မစ္စကယ်လာသည် ဝိဇ္ဇာပညာရပ်ကို ဘာ့ကြောင့် လေ့လာ စူးစမ်းမှုပြုခဲ့ခြင်းကိုလဲ မစ္စဆူလီဗင်ကသိရှိခဲ့ပါ။သူမကိုယ်တိုင်ကတော့ စမ်းသပ် တည်ထွင်ချက် များကို ပြုလုပ်ခဲ့သည်မဟုတ်ပါ။ စိတ်ပညာရှင်တယောက်က သူမအား မစ္စကယ်လာသည် အိပ်နေရင်း သူမ၏ လက်ချောင်း များဖြင့် စာလုံးပေါင်းမပေါင်း မေးမြန်းသောအခါ။မစ္စဆူလီဗင်က ဤကဲ့သို့ အသေးအဖွဲ့ကိစ္စကလေး များကို ထိုင်၍ စောင့်ဆိုင်းပြီးပြုလုပ်ရမည့်တန်ဘိုးကို သူမမတွေးတောခဲ့ပါဟု ပြန်ပြောပါသည်။

မစ္စကယ်လာမှာ အပေါင်းအသင်း များနှင့် သီးခြားနေထိုင်လိုစိတ် ရှိပေသည်။ အကယ်၍တဦးတယောက်က သူမအား ရယ်စရာ မောစရာ ပြုလုပ် ပေးလျှင် ရယ်မော

တတ်ပါသည်။ ယခုလဲဘဲ သူမကြားရသမျှ ဖြိုးဖြိုး ရယ်ရယ်နှင့် နားထောင်ပေသည်။ တခြားပုဂ္ဂိုလ် များက စိတ်ပါလက်ပါ တူရိယာဂီတသံစုံများကို တီးမှုတ်သီဆို နေလျှင် သာယာနာပျော်ဘွယ် ထွက်ပေါ်လာသော ဂီတ အာရုံတန်ဝယ် အလေးဂရုပြု၍ နားစိုက်ခြင်းဖြင့် သူမ၏ မျက်နှာအမူအရာမှာ ကြည်လင် တောက်ပလာပါသည်။ မှန်ပါသည်၊သူမသည် မစ္စဆူလီဗင်၏ လှုပ်ရှားချက် များ ကို တသွေမတိမ်း အာရုံခံစားရင်း သူမ၏စိတ်ဓါတ်အား ပြန်လည်အသိဝင်စေပါသည်။ ထိုကြောင့်ပင် တခါတရံ သူမအား လက်ချောင်းများဖြင့် စာလုံးပေါင်း၍ စကားမ ပြောဘဲ ပါးစပ်မှ အသံသွက်လျက်ပြောသည်ကိုပင် ဘာ ပြောနေကြောင်း သူမသိရှိနေခြင်း ဖြစ်ဟန် တူပါသည်။ ဤနည်းအားဖြင့် သူမသည် သာယာ ညိမ့်ညောင်းသော ဂီတအသံကို အရသာခံ၍ ပျော်ရွှင်ခဲ့ခြင်း ဖြစ်ပေသည်။

ဂီတသည် သူမအား သွေးကြောများ လှုပ်ရှား ထကြွ စေလျက် အနည်းငယ်မျှ အမိပ္ပါယ်ဖေါ်နိုင်ကောင်းဖေါ် နိုင်ပါလိမ့်မည်။ သူမသည် သီချင်းမဆိုနိုင်၊စန္ဒယားမတီး နိုင်သော်လည်း စောစောအချိန်ပိုင်းက လေ လာစမ်းသပ် ချက်များအရ၊အသံနေအသံထားမှန်ကန်အောင် တီးကွက် များကိုစမ်းကာ သွက်သွက် လက်လက် သင်ကြားနိုင်ပါ သည်။ သူမ၏ ဂီတဖြင့် ပျော်ရွှင်ခြင်းမှာ အသံလှိုင်းများ လေထဲတွင် လူ လှိမ့်ပါလာချက်က အလွန်တရာ ကြည် နူးမှုကိုပေးပေသည်။သူမ၏ ထိတွေ့ စမ်းသပ်ချက်ဖြင့် ခိုင်

မာသော အကြောင်းအရာများ၏ ဂယက်လှိုင်းသံမှ ဂီတသံစုံကြူးချဲ့ခြင်းကို နားထောင်ရန်ကား သူမ၏ တစိတ်တဒေသ အတွေ့အကြုံဖြစ်ကြောင်း သံသယ မရှိသင့်ပါ။ ကြမ်းပြင်ပေါ်တွင်ရှိသောစန္ဒယားလက်တန်များ ပေါ်သို့ သူမလက်ကို တင်ထားနိုင်ခဲ့ခြင်းက သူမအဘို့ သောတအာရုံ ခံစားနိုင်ကြောင်း ပိုမို၍ သက်သေခံ အထောက်အထား ဖြစ်ပေပါသည်။ သို့ရာတွင် သူမသည် လေလဟာပြင်ထဲမှ လှုပ်ရှားခြင်းကို အာရုံခံစားနိုင်ဟန် တူပါသည်။ သူမသည် 'စိန့်ဘာသိုလိုမြူး' ဘုရားရှိခိုးကျောင်းဝယ် လေသွင်း၍ တီးရသည့် စန္ဒယားကို တီးစဉ်က အဆောက်အဦးတခုလုံး ခြေနင်းခလုပ် အမှတ်အသားများဖြင့် အသံထွက်စေကာ လှုပ်ရှားသွားစေပါသည်။ သို့ရာတွင် ယင်းသို့ ဆူညံလှုပ်ရှား အသံ ထွက် လာ ခြင်း က သူမအတွက် ပျော်ရွှင်မှု ခံစားရေးတွင် အ တူ တကွ ဆက်ညီသည့် အကြောင်း ချင်းရာ တော့ မ ဟုတ် ပါ။ လေထဲမှ ရိုက်ခတ် လာသော လှိုင်းသံသည် တူရိယာမှတ်သားချက်များကဲ့သို့ သူမ၏ဇိတ်ဆန္ဒကို သွေးဆောင်မျှားယောင်းကာ တက်ကြွမှုအခြေပေးသည်။ တခါတရံ သူမသည် သူမ၏ လက်ကို အသံ ထွက်ပေါ် လာရာလည်ချောင်းပေါ်သို့တင်လျက် အသံဆက်စပ်မှုရအောင် ကြိုးပမ်းလိုက်သောအခါ ဤသို့ ပြုလုပ်ချခြင်း အားဖြင့် သူမအဘို့ ပျော်ရွှင်မှု ဖြစ်လာစေပါသည်၊ သူမ၏အာရုံခံစားခြင်း အာ ယံမျှလောက် ပြည့်ပြည့်ဝဝ ရှိသည်ကိုတ

ဦးတယောက်မျှ သိနိုင်ကြမည် မဟုတ်ပါ။ မစ္စကယ်လာသည် ၁၈၉၅ ခုနှစ်က ထုတ်ဝေသော မဂ္ဂဇင်း တစောင်ကို ဘတ်ရှုရင်း အမျိုးမျိုးအစားစား ရေးသားကြသည့် စာရေးဆရာများ၏ စာပေအနုပညာ တတ်မြောက်ပုံ ဟူသမျှ အရသာခံခဲ့သည်။ စာရေးဆရာ စကာခ်းမင်းမှာ သူမ၏အသဲစွဲပင် ဖြစ်ပါသည်။ သူမသည် စကာခ်းမင်းနှင့် ဘီးသိုဗင်တို့၏ စာပေများကိုဘတ်ရှုရင်း စာပေ အရေးအသား ကွဲပြားချက်ကိုလဲ သိရှိပေသည်။ ဤသို့ ဘတ်ရှုခဲ့ခြင်းဖြင့် တဦး တယောက်က သူမအား မေးမြန်း စုံစမ်းလျှင် သူမမှတ်မိသမျှ ဒိုးဒိုးဒေါက်ဒေါက် ပြန်လည်ပြောကြား နိုင်သည်။

မစ္စကယ်လာ၏ကြိုးပမ်းချက်ဖြင့် လူများတကာနေ့စဉ် ကြုံတွေ့ ဆုံဆီး နေရသောအမှုကိစ္စများကို သူမသည်လဲ နားလည် လာခဲ့ ပေတော့သည်။ သူမ၏ပညာရေး ပို၍ စံနစ်တကျ တိုးတက်လာသည်နှင့်အမျှ သူမသည်စာအုပ်များဖြင့် အလုပ်ရှုပ်ထွေးလာလေသည်၊ ဤကဲ့သို့ အလွန်တရာ စိတ်ပါဝင်စားကာ၊ ပညာရေးဘက်၌ အာရုံစိုက်လာသူမို့ လဲ မစ္စဆူလီဗင်မှာ သူမအတွက် နည်းကောင်းလမ်းပြ ညွှန်ကြားရန် လွန်စွာလွယ်ကူ လာပေတော့သည်။ သူမနှင့်တွေ့သော ပုဂ္ဂိုလ်တိုင်းပင် မိမိတို့၏အကောင်းဆုံး ကြံစည်စိတ်ကူးချက်များကို သူမအား-အသိပေးခြင်းဖြင့် သူမတွင် ပညာဗဟုသုတ တိုးပွါးလာစေပါသည်။ စကားအမြဲ ပြောဆိုခြင်းနှင့် ပတ်သက်၍ သူမ၏မိတ်ဆွေများမှာ

နောက်အဘိုးသော်–သူမ၏လက်ထဲသို့ စာလုံးပေါင်းဖြင့် စကားပြောခြင်းကို ရပ်စဲ ပစ်လိုက်ကြသည့် ပြဿနာချပ်များလည်း မလွဲမရှောင် နိုင်အောင် ပေါ်ပေါက် လာပေတော့သည်။

'ရှင်တို့ဘာအကြောင်းကို ပြောနေကြတာလဲရှင်'။

သူမသည် နေ့စဉ် တွေ့မြင်နေရသူများအား ဤသို့တစေ ပြောဆိုလာတတ်လေသည်။ ထို့ကြောင့် သူမ၏ အသေးစိပ် ကျိုးကြောင်းဆင်ချင် မေးမြန်းပြောဆို မှုသည် သူမတဦး တယောက်တည်းနှင့် စေ့စပ်သေချာစွာ ပြည့်ပြည့်ဝဝ ဖြစ်လာပေတော့သည်။ သူမသည်ဘဝ သက်တာတလျှောက် ရံဖန်ရံခါ တွေ့ကြုံရသော အသေးအဖွဲ့ကိစ္စကလေးများတွင် ဆွံ့ အနေသော ဘဝမှ စကားပြောကောင်းသူတဦး ဖြစ်လာပေသည်။

သူမ၏ဗဟုသုတများမှာ သူမအား တိုက်ရိုက်အကျိုးပြုလေသည်။ အပြင်သို့ထွက်၍ သူမ လမ်းလျှောက် နေသောအခါ သူမသည် အပင်ပုကလေးတပင်၏ သင်းပျံ့ပျံ့ယနံ့ ဆွဲဆောင်မှုကြောင့် ရုတ်တရက် ရပ်တန့်လိုက်လေသည်။ သူမသည် အပြင်သို့ထွက်၍ သစ်ရွက်များကို ထိကိုင်စမ်းသပ် ကြည့်သည်။ ကမ္ဘာမြေပြင် ပေါ်ဝယ် ပေါက်ရောက်လျက်ရှိသော အရာဝတ္ထုများ အားလုံးကို သူမသည်ကျွန်ုပ်တို့ကဲ့သို့ သေသေချာချာ စမ်းသပ်ခြင်း သူမ၏လက်ချောင်းများထဲ၌ သစ်ရွက်များကို ဆုတ်ကိုင်ကာ ပန်းပွင့်များကို အနံ့ခံ ရှုးစမ်းခဲ့ခြင်းဖြင့်

ပျော်ပျော် ရွှင်ရွှင်နှင့် လမ်းလျှောက်ခြင်း ပြီးဆုံးသည့်နောက် အမှတ်တရပ်ဖြစ်နေပါသည်။

သူမသည်နေရာသစ်တခုသို့ရောက်သောအခါ အထူးသဖြင့် နိုင်ယာဂရာ ရေတံခွန်ကဲ့သို့ စိတ်ဝင်စားစရာကောင်းသည့် နေရာတခုဝယ် သူမနှင့်အတူ လိုက်ပါသူတိုင်း (သူမနှင့်အတူ လိုက်ပါသူတိုင်းဟု ဆိုရာ၌ ထုံးစံအတိုင်း ဆရာမ မစ္စဆူလီဗင်ဘဲဖြစ်သည်) မှာ သူမသည်အသေးစိတ်ရှုမြင်ကွင်းများ အနေအထားအသွင်သဏ္ဍာန်ပြောပြချက်ဟူသမျှ နားထောင် မှတ်သားရခြင်းဖြင့် အလုပ်ရှုပ်လျက်နေပေတော့သည်။မိမိတပည့်မ၏စိတ်ခါတ်ကိုသိနှင့်ထားသောမစ္စဆူလီဗင်မှာလမ်းတလျှောက်တွင်တွေ့မြင်သမျှအရာဝတ္ထုများမှာ ကောင်းနိုးရာရာကို ရွေးချယ်ကာ မစ္စကယ်လာအား ကျွန်ုပ်တို့မျက်လုံးများနှင့်ရှုပ်ရှက်ခတ် တွေ့မြင်ရသလို မဟုတ်စေဘဲ အကြောင်းအရာတို့တွင် သူမအတို့အမြင်ကဏ္ဍာ တချမ်း၏ ရှုမျှော်ခင်းကိုပြတ်ပြတ် သားသား တွေးထင်နိုင်ရန် စီမံပြောပြရလေသည်။ အကယ်၍သူမ၏ အပေါင်းအဖေါ် တဦးဦးကသူမအား ယုံလုံလောက်လောက်အသေးစိတ်ပြောမပြနိုင်ပါမူ မစ္စကိုယ်လာသည့် သူမ စိတ်ကြေနပ်မှု မရမခြင်းတွေးခေါ်စဉ်းစား၍သဘောမပေါက်မခြင်း ပုစ္ဆာအမျိုးမျိုးကဲ့ မေးမြန်းပါတော့သည်။

သူမသည် သူမ၏မျက်စိနှင့်မမြင်ရသော်လည်းကျွန်ုပ်တို့မျက်လုံးများက ကျွန်ုပ်တို့ဆန္ဒအတိုင်းမြင်စေနိုင် သကဲ့

သို့သူမ၏အတွင်းစိတ်ခံတတ် စွမ်းပကား ထန်ပြင်းစူးရှသလောက် အဓိပ္ပါယ်သဘော ပေါက်နိုင်ပါသည်။ လမ်းလျှောက်ရာမှ သူမပြန်လာသော အခါ မြင်ကွင်း များကို ပြောပြခဲ့သည့်အတိုင်း ထင်ထင်ရှားရှား တိတိကျကျပင် ထိုအကြောင်းအရာကို တဖန် ပြန်လည်ပြောပြ တတ်ပေသည်။ ရေးသားဖော်ပြချက်များနှင့် သူမ ဆရာမ ပြောပြချက်များမှ စကားအခွန်အသံအသုံးအနှုန်း နည်းလမ်းများ၏ အမှားအယွင်းတို့ကို သူမသည် နှိုင်းယှဉ်ခြင်း အတွေ့အကြုံ တခုဖြင့် ပြုပြင်ယူဆနိုင်ခဲ့ပေသည်။ မှန်ပါသည်။ သူမ၏ဘာဝအမြင်မှာ စိတ်ကူးယဉ် ကဗျာလင်္ကာကို အပြည့်အစုံချွတ်ချွင်၍ အထက်တန်း ကျကျ ရောင်စုံချယ်ကာ ကြည်နူးအောင် ရှုကြည့်ပေသည်။ သူမ ရှုကြည့်တွေ့မြင် သော စကြာဝဠာ ကြီးကား တ ကယ် အ စစ် တည်ရှိနေခြင်းထက် အနည်းငယ်မျှ ပိုမိုသည့် ကပ်ကမ္ဘာ တခုဖြစ်သည့်မှာ သံသယရှိစရာမလိုတော့ပါ၊ သို့ရာတွင် ထိုအကြောင်းနှင့်ပတ်သက်သော ဗဟုသုတမှာ တဦးတယောက်တွေးထင်နိုင်သကဲ့သို့ ပြည့်စုံခြင်းမရှိပါ။ တခါတရံ၌ သူမသည် တဦးတယောက်မျှ သူမအား မပြောပြဘူးသော အကြောင်းအရာအချို့ကိုပြောပြခြင်းဖြင့် သင့်ကို အံ့သြနေတတ်ပေသည်။ ဥပမာအားဖြင့် ပင်လယ်ရေထဲသို့ ဦးစွာပဌမ သူမဆင်းသက်ချိန်၌ ရေ အ ရ သာ ငံကြောင်းကို သူမ မသိခဲ့ခြင်းပင် ဖြစ်ပါသည်၊ အမျိုးမျိုးအစားစား ကွဲပြားလျက်ရှိသော မတော်တဆ ဖြစ်ပျက်

ခြင်းများနှင့်ကျွန်ုပ်တို့နေ့စဉ်ကြုံတွေ့နေရသည့် ပါတ်ဝန်းကျင် အဖြစ်အပျက်များက သူမအား ပြည့်စုံစွာလေ့လာကြည့်ရှုခွင့် မပြုနိုင်သေးချေ။ သို့ရာတွင် နှိုက်နှိုက် ချွတ်ချွတ် လေ့လာ စုံစမ်းခြင်းမှ သူမ၏ အမြင်ဖြင့် ပြီးသော ကမ္ဘာကြီးနှင့်အတူ သူမသည် အသေးစိပ် အကျွမ်းတဝင် စူးစမ်းမှုကြောင့် လုံ့လုံ့လောက်လောက် နားလည်ခွင့်ရရှိခဲ့ပေသည်။

သူမသည် သူမ၏ထိတွေ့ခြင်းအာရုံမှ သိရမှုအတွက် ပဋ္ဌမဈေးဦးစွာ လက်ဖြင့်စမ်းသပ်ခါ၊အများဆုံး ကြိုးပမ်းခဲ့ပေသည်။ ဤသိမှုအာရုံသည် အခြားမျက်မမြင် လူအချို့တို့ထက် အလွန်တရာကောင်းကောင်းမွန်မွန်ပိုမိုထူထောင်နိုင်ခဲ့ခြင်းတော့မဟုတ်၊ မျက်မမြင် 'လောရာဘရစ်မင်' သည့် အပ်ချည်မြှင်၏ အကြီးအသေးပုံသဏ္ဌာန် ကွဲပြားခြားနား ခြင်းကို တိတိကျကျ ပြောပြ နိုင်၍၊ လှ ပ သော ဇာများကိုပင် ထိုးနိုင်လေသည်။ မစ္စ ကယ်လာ သည်လဲ လက်ထိုးဇာနှင့် အဝတ်အထည်များကို ချုပ်လုပ်နိုင်ပါသည်။ သို့ရာတွင် သူမချုပ်လုပ်ပုံမှာ ပိုမိုကောင်းမွန်သော လက်ရာများဖြင့် သာလွန် ထူခြားချက်များ တွေ့ရှိရပေသည်။ သူမ၏ အမျိုးမျိုး အစားစားသော အရည်အချင်းများနှင့် အောင်မြင် ပြီးစီးခြင်းတို့က သူမ၏ ထိတွေ့ခြင်းအာရုံအသိကိုချည့် အားကိုး၍ တည်ထွင်ချန် လုံလောက်စွာ အသုံးချခဲ့ခြင်းမဟုတ်ပါ။ ယင်းသို့အောင်မြင်ခြင်းမှာ နဂိုရ် အနေအထားအတိုင်း စိတ်အား ထက်သန်မှု၏ တ

ဖက်တွင် အလွန်တရာ ဝေးကွာစွာ တည်းရှိခဲ့ပေသည်။ တနေ့သော်–မိတ်ဆွေဘဥ်ိုးသည် မဥ္စကာယ်လာအား ငွေ ဒင်္ဂါးအမျိုးမျိုးဖြင့် စမ်းသပ်ခဲ့သည်။ သူ့ခကား သူမမြှော် လင့်ခဲ့သည်ထက် ငွေဒင်္ဂါးများကို စမ်းသပ်ရာ၌ ပိုမို၍၊ နှုံးကွေးခဲ့ပေသည်။ သူတို့၏ အရွယ်ပမာဏ အလေးချိန် များကို စမ်းတဝါးဝါးနှင့် ချိန်ဆနေသည်ကို တွေ့ရပေ သည်။ သို့ရာတွင် ဤသို့နှုံးကွေးခြင်းမှာ သူမသည် ငွေ ဒင်္ဂါးများကို ဘယ်တော့မျှကိုင်တွယ်၍ မသုံးစွဲသလောက် နီးနီး ဖြစ်ခဲ့သည်ဟု ပြောသင့်ပါပေသည်။ မြောက်များ စွာသော ဘဝအတွေ့အကြုံ အလုံးစုံဝယ် အသေးအဖွဲ့က လေးတို့ပါ မကျန်အောင် လေ့လာ စမ်းသပ်ခဲ့သူ မစ္စ ကာယ်သာမှာ ဤ အချက် တချက် ကို တော့ ချို့ယွင်းခဲ့ ပါသည်။

သူမသည် အမြင့်ခြောက်လက်မရှိသော ရုပ်ထုတခု၏ အကြောင်းအရာနှင့် အထူးထူးအပြားပြားတွေးတောကြံ ဆခြင်းကို မမေ့ ပျောက် အောင် မှတ် သား ခဲ့ပါသည်။ မြေကြီးပေါ်တွင် ရပ်တည်၍ မချထားနိုင်သော လက် တဝက်ရှိ ရုပ်ထုတခုထက် သာလွန်သေးငယ်သည့် တစုံမ တရာ ရုပ်ထုကလေးအဘို့မူ၊ သူမအတွက် လက်တွေ့စ သပ်ချက်မပြုနိုင်ဘဲ လှလှပပ တွေးတောကြံဆမှု တ အဖြစ်သာလျှင် သူမက ဖေါ်ပြသမှု ပြုပေသည်။ သူမ၏ လက်နှစ်ဘက်စလုံးနှင့် အရေးအကြောင်းကလေးများပါ မကျန် ကိုင်တွယ်စမ်းသပ်နိုင်သော ရုပ်ထုကြီးများကိုမူ၊

၎င်းတို့၏ အထက်တန်းကျကျ ဘဝင်မြှောက် ဆွဲဆောင်နိုင်စွမ်းရှိသည့် တန်ဘိုးကို သူမက သိရှိပါသည်။ သူမသည် မိမိကိုယ်တိုင် စဉ်းစားတွေးတောခြင်းဖြင့် ကျွန်ုပ်တို့ သိနှင့် ထားသည်ထက် ပိုရှိ၍ သိနိုင်ပေသည်။ အကြောင်းမှာ သူမသည် ကျောက်ဆစ်ရုပ်ထု တခု၏ အကြမ်းပြင်း ပုံလောင်းထားခြင်းကို လျင်မြန်စွာ ကိုင်တွယ်သုံးသပ်နိုင်ခဲ့၍၊ အတိုအရှည် အကြီးအသေးမှ မကြွေအောင် အမှန်အကန် တိတိကျကျ သိခဲ့သောကြောင့် ဖြစ်ပါသည်။ သူမသည် ဘော့စ်တွန်မြို့ရှိ အနုပညာပြတိုက်တွင်ရောက်ရှိစဉ် လှေခါးထစ် တခုပေါ်၌ မတ်တတ်ရပ်လျက် လက်နှစ်ဘက်စလုံး ဖြန့်ကာ ရုပ်ထုများပေါ်သို့ ကိုင်တွယ် စမ်းသပ်ခဲ့လေသည်။ သူမသည် အလွန်တရာ သေးငယ်သော မိန်းကလေးများ က,ပြနေသည့် ရုပ်ထု ကလေးတရုပ်ကို စမ်းမိသောအခါ၊

'သီချင်းဆိုတဲ့လူတွေက ဘယ်မှာရှိသလဲ' ဟု မေးမြန်းခြင်း ပြုတော့သည်။ သူမသည် သီချင်းဆိုသူများကို စမ်းသပ်တွေ့ရှိပြန်ရာတွင်....

'တယောက်က သီချင်းမဆိုဘူး' ဟု ပြောပြပါသည်။

သီချင်းဆိုသူ၏ နှုတ်ခမ်းအစုံမှာ ပိတ်နေခြင်းကြောင့် ဖြစ်ပါသည်။

ယင်းသို့လျှင် သူမ၏နေ့စဉ်နှင့်အမျှကြုံတွေ့နေရသော ဘဝသက်တာတွင် သူမ၏ အာရုံ၌ ကွဲကွဲပြားပြား သိရှိနားလည်နေခြင်း၊ မျက်မမြင် စာပေ သင်ကြား နည်းကို

ကျွမ်းကျင်ခြင်း အစရှိသည် များကား၊ တဦးတယောက် သည်ပင် သူမ၏ အရည်အချင်းကို အကောင်းဆုံးခန့်မှန်း နိုင်ပေသည်၊ သူမ၌ ညွှန်ပြမှု အတွက် အလွန် တရာ မရှိ လောက်သောအာရုံကလေးသာရှိဟန် တူပါသည်။ သူမ သည် လက်ပွန်းတတီး နေထိုင်ရာ အခန်းများထဲဝယ် အမှီ သဟဲပြုစရာမပါဘဲ စမ်းတဝါးဝါး သွားလာခြင်းပြုပေ သည်။မျက်မမြင်အများအပြားပင်အသံကိုမှတ်၍အကူအ ညီယူလေ့ရှိသည်။ထို့ကြောင့်ပင် သင့်တင့်လျောက်ပတ် သော နှိုင်းယှဉ်ချက်တခုထုတ်ဖော်ပြသရန် အခြား နား မကြားသူများ မပါဘဲ ခက်ခဲခြင်းဖြစ်ပါသည်။ သူမ၏ အသွားအလာကျင်လည်ခြင်း၊ ဥာဏ်ထက်မြက် ခြင်းမှာ နားကြားသူ လူကောင်းတို့လှုပ်ရှားချက်များက လမ်းညွှန် ပြသလို မှတ်သား ဘွယ်ရာမျိုးတော့ မဟုတ်ပါ။ ကျွန်ုပ် ကိုယ်တိုင် အခြား နားမကြားသူ များနှင့် စကားနှီးနှော ပြောဆိုခဲ့ဘူးပါသည်။ သူမသည် သူမ၏ လက်များဖြင့် အသုံးချရန် ပြုလုပ်နိုင်သော လက်မှုပညာ တစုံ တရာမျှ လေ့ကျင့်ခဲ့ခြင်း မရှိပါ၊ သူမ ၁၂ နှစ်သွီး အရွယ်ရောက် လာချိန်က သူမ၏ မိတ်ဆွေ ပန်းချီဆရာ-မစ္စတာအောလ် ဘတ် အိပ်ချ် မန်ဆဲလ်သည် သူမအားဖရောင်းစက္ကူတချပ် နှင့် ကညစ်တချောင်းကို စမ်းသပ်ရေးဆွဲရန် ခွင့်ပြုခဲ့ဘူး ပါသည်။ သူမသည် နှင်းဆီပန်းပွင့်ပုံနှင့် သစ်ရွက် များ၏ အနေအထား- သဘာဝတရား အလေ့ အထတို့ကို ပုံစံ သွင်းပြီးကာမှ ရေးဆွဲရန်စိစဉ်လျက် လှပကောင်းမွန်စွာ

ပြုလုပ်ခဲ့ဘူးကြောင်းကိုလဲသူက ပြောပြပါသည်။ သူမ၏ လက်များဖြင့် ကျွမ်းကျင်စွာ စိတ်တိုင်းကျ ပြုလုပ်ခဲ့ဘူး သည့် တခုတည်းသောအကြောင်းအရာတခုမှာ လက်နှိပ် စက်ရိုက်ခြင်းပင် ဖြစ်ပါသည်။ ၁၁-နှစ်သွီး အရွယ်မှစ၍ သူမသည် လက်နှိပ်စက်ကို စတင်အသုံးချခဲ့သော်လည်း သွက်သွက် လက်လက် မြန်မြန် ဆန်ဆန် ရိုက်နိုင်အောင် တော့ ဝိရိယ စိုက်ထုတ် ခဲ့ရ ပေသည်။

သူမသည် အမှန်အကန်စာလုံးမမှားဘဲ အထင့်အတင့် မြန်ဆန်အောင် ရိုက်တတ်ပါသည်။ သူမ၏လက် နှင့်ရေး သောစာမှာ တခါတရံ လက်နှိပ်စက် ရိုက်မဖြစ်မှု့အ မှားအယွင်းများပါသဖြင့် သူမသည် ထိုအမှားစာလုံးတို့ ကို လက်နှင့်စမ်းလျက် မစ္စဆူလီဗင်အား ပြင်ဆင်ဘတ် ပြရန် တောင်းဆိုရလေသည်။ သူမ၏လက်နှိပ်စက်သည်၊ အထူးတလည် ကိရိယာ တန်ဆာပလာတပ်ဆင်ထားခြင်း မရှိပါ။ တခါတရံ၌ သူမ၏ လက်ချောင်း ကလေးသည် စာလုံးများအပြင်အစွန်းဘက်သို့ မကြာခဏချော်ကျသွား တတ်သဖြင့် အညွှန်းခလုတ် အနေအထား များကို ထိန်း သိမ်းထားရပေသည်။

မစ္စကယ်လာ၏အာရုံကြောအသိဖြင့်မျက်မမြင်စာလုံး အက္ခရာများကို ဘတ်ခြင်းမှာ တချို့တလေ ရှုပ်ရှုပ်ထွေး ထွေး ဖြစ် ပေါ် စေ သည် ဟု ထင် ပါ သည်။ သူမ အား ကောင်း ကောင်း သိ ကျွမ်း သော လူ များ က တောင် မစ္စဆူလီဗင်၏ ‘ ကြေးနှ းပမာ လျင်မြန်စွာ သင်ကြားစေ

နိုင်ခြင်း’ကို သူ့တပည့်မ အကြောင်းနှင့် ပတ်သက်၍ မှတ်ဇင်းများတွင် ရေးသားခဲ့ကြ လေသည်။ အကန္ဓရာစဉ် လေ့ကျင့်နည်းမှာ အားလုံးသော ပညာတတ် နားမကြား သူများအတွင်းဝယ် လေ့လာအလုံးပြုကြသည့်ချည့် ဖြစ်သည်။ အဘိဓါန်စာအုပ် အများ အပြားတွင် နည်းနာ နိသျှည်းစာလုံးတွင်မှု စွဲမြဲစွာ မှတ်မိနိုင်မှုကို ထည့်သွင်း ဖေါ်ပြထားသည်။ မျက်မမြင်ပုဂ္ဂိုလ်၏အမြင်မှာ သူ၏အ ဖေါ်အဖြစ် အသုံးပြုသော လက်ချောင်းများဘဲဖြစ်သည် သို့ရာတွင် ထိုလက်ချောင်းများကပင်သောတအာရုံခံစား မှုကို အထောက် အကူ ပြုပေသည်။ မစ္စ ကယ်လာသည် သူမ၏လက်ချောင်းများကို မိမိအားစကားပြောသူတဦးဦး၏လက်ပေါ်သို့ ညင်သာစွာတင်ထားလိုက်ခြင်း အားဖြင့် စကားလုံးများကို မြန်နိုင်သမျှ မြန်စွာ စာလုံး ပေါင်းနိုင်ခဲ့ ပေသည်။ သူမသည် စာကြောင်း တကြောင်းကို ဖြစ်စေ သီးခြားစကားလုံးများကိုဖြစ်စေ သဘိမခဲ့ပါဟု ရှင်း လင်းပြောပြလေသည်။ မစ္စဆူလီဗင်နှင့်နားမကြားသူများ နှင့်အဘူတကွ နေထိုင်ဘူးသော တခြားပုဂ္ဂိုလ်များ မှာ ကား အလွန်လျင်မြန်စွာ စကားပြောနိုင်ကြပေသည်။ ဖြေး ဖြေး ဆေးဆေး သင် ကြား ခြင်း အစား လုံ လုံ လောက် လောက် မြန်မြန်ဆန်ဆန် နာယူမှတ်သားခြင်း ပြုနိုင် ပေ သည်။ လျင်မြန်စွာစကားပြောသူတဦး၏ စကားလုံးတိုင်း ကိုတော့ လုံလုံလောက်လောက် မြန်မြန်ဆန်ဆန်မှတ်သား ခြင်းငှာ မတတ်နိုင်ပေ။

မိနစ်အနည်းငယ်အတွင်း မျက်မမြင်စာ ရေးသားနည်း များကို သင်ကြားနိုင်သူတိုင်း ၎င်းတို့အား တရက်တည်း နှင့်ဖြေးဖြေး ဆေးဆေးတော့ စကား ပြောနိုင် ပါသည်။ ရက်ပေါင်းသုံးဆယ်လောက် လေ့လာသင်ကြားခဲ့လျှင် မူ မစ္စကာယ်လာကိုဖြစ်စေ၊ တခြားမျက်မမြင်ပုဂ္ဂိုလ်တဦးဦး ကို ဖြစ်စေ။ သူတို့၏ လက်ချောင်းများ မည်သို့ ပြုလုပ်နေ ကြသည်ဟု မလေ့လာဘဲ ချောချော မောမော စကား ပြောနိုင်ပါသည်။ ဤသင်ခန်းစာကို လူအများအပြား ပိုမို၍သိရှိလာလေလေ၊ နားမကြားသော ကလေးသူငယ် များ၏ ဆွေမျိုးသားချင်းများ၊ မိတ်ဆွေသင်္ဂဟများက ချက် တရက်ချက်ခြင်း မျက်မမြင်စကားပြောနည်း အက္ခရာစဉ် ကိုသင်ကြား တတ်မြောက် လာလေလေ၊ ကမ္ဘာပေါ်ရှိ မျက်မမြင် အားလုံးမှာ ပိုမို ပျော်ရွှင် လာသည့်နှင့်အချ ပညာရေးပါ ထူးထူးကဲကဲ တတ်ကျွမ်း လာ လိမ့် မည် ဖြစ်ပါသည်။

မစ္စကာယ်လာသည် မျက်မမြင်များအတွက် စီမံထား သော ဖေါင်းကြွ ပုံနှိပ်စာလုံးများကို ဖြစ်စေ၊ အမျိုးမျိုး အစားစား မျက်မမြင်သုံး ကျောက်သင်ပုန်း စာပေများကို ဖြစ်စေ ဘတ်ရှု လေ့လာခဲ့ပေသည်။ ရိုးရိုးဖေါင်းကြွစာ လုံးပါသော စာအုပ်မှာ–စာလုံးကြီးများရော စာကြောင်း ငယ်များပါ နှစ်မျိုးစလုံး (ရောမ)ဘာသာဖြင့် စီစဉ်ထား ၍င်းဖြစ်လေသည်။ ဤစာကြောင်းများမှာ ရိုးရိုးအနေအ ထား၊ လေးထောင့်ပုံသဏ္ဍာန်၊ ဒေါင့်မှန်ပုံသဏ္ဍာန်များ

ပါဝင်ကြပေသည်။ စာကြောင်းငယ်များမှာ တလက်မ၏ ၁၆-ပိုင်း ၃-ပိုင်း မြင့်၍၊ လက်မလက်သဲခွန်လောက် ထူသောစာမျက်နှာမှ ဖေါင်းကြွလျက် မြင့်နေပေသည်။ စာအုပ်များမှာ ဗဟုသုတ စာအုပ်ကြီး တအုပ်ကဲ့သို့ ထူထဲသော အုပ်တွဲ တတွဲ ပမာဏ လောက် ကြီးမားလှသည်။ ဂရင်း၏ အင်္ဂလိပ်လူမျိုးများ၏ ရာဇဝင်အတိုချုပ်စာအုပ်မှာ အုပ်တွဲကြီး ခြောက်တွဲ ရှိပေသည်။ စာအုပ်များမှာ မလေးသန်လှပါ။ အကြောင်းမှာ၊ လက်နှိပ်စက်ရိုက် စာရွက်များမှာ တခုနှင့်တခုမနီးကပ်သောကြောင့် ဖြစ်သည်။ မစ္စကယ်လာ၏ မိတ်ဆွေတယောက်သည် အမှောင်ထဲရှိ သူမထံသို့ ရုတ်တရက်ချက်ခြင်း ရောက်လာသောအခါ၊ သူမ၏လက်ချောင်းများဖြင့် စာမျက်နှာသွန်နေသည့် လှုပ်ရှားသံကိုကြားခြင်းကြောင့်သူမသည်ချက်မမြင်မကလေး ဖြစ်ကြောင်း ခိုင်ခိုင်မာမာ ယုံကြည်သိုက်လေသည်။

မျက်မမြင်များအတွက် အကြောင်းအသင့်ဆုံး ပုံနှိပ်ခြင်းမှာ မျက်မမြင်သုံး လက်နှိပ်စက် တမျိုးပင် ဖြစ်ပေသည်။ ၎င်းလက်နှိပ်စက်မျိုးတွင် အမျိုးမျိုး အစားစားရှိရာ၊ အင်္ဂလိပ်၊ အမေရိကန်၊ နယူးရောက်ပုံနှိပ်ဟူ၍ လွန်စွာပေါများပေသည်။ မစ္စကယ်လာမှာ ၎င်းတို့အားလုံးကိုပင်ဘတ်တတ်သည်။ ပညာဗဟုသုတ အပြည့်ဝဆုံး မျက်မမြင်များမှာ အမျိုးမျိုးအစားစား မျက်မမြင်ဘာသာရပ်များကို အသိဆုံးဖြစ်ပေသည်။သို့ဖြစ်ငြားသော်လည်း တဦးတယောက်သည် မစ္စကယ်လာ ကဲ့သို့ အများသုံး

အင်္ဂလိပ် မျက်မမြင်သုံး လက်နှိပ်စက်ကိုသာ ကျွမ်းကျင်နေပါမူ၊ ခဲခဲယဉ်းယဉ်း အကြပ်အတည်းတွေမှမှ ကင်းလွတ်ပေလိမ့်မည်။ ဤစာအုပ် တနေရာတွင် ဖော်ပြထားသော ပုံတူကူး စာအမှတ်အသားမှာ အစက်အပြောက်များဖြင့် အဘယ်ကဲ့သို့ ပေါ်လွင် အောင် စီမံထားသည့် ရည်ရွယ်ချက်တခု ဖြစ်ကြောင်း ထင်ရှားစေ ပါသည်။ စာလုံးတိုင်း—စာလုံးတိုင်း ( စာ တ စောင် ဖြစ်စေ၊ သို့မဟုတ် အသူး တလည် အကျဉ်းချုပ်ထားသော မျက်မမြင်သုံး လက်နှိပ်စက်တခုဖြစ်စေ ဖြစ်နိုင်သော အနေအထား ခြောက်လုံးတွင် နံပါတ်စဉ် ညွှန်ပြချက်များနှင့်နေရာပြောင်းလွှဲခြင်းအားဖြင့်ဆက်စပ်ပူးပေါင်းမှုတခုကို ပြုလုပ်ထားပေသည်။ မစ္စကယ်လာမှာ မိမိစုဆောင်းထားသော မှတ်တမ်းများကို သူမ၏မိတ်ဆွေများထံ စာရေးသားရန်မျက်မမြင်သုံးလက်နှိပ်စက်တလုံးရှိပေသည်ထိုလက်နှိပ်စက်တွင် ညွှန်ပြချက် ၆ မျိုးပါရှိသည်။ တချက် ရိုက်လိုက်ခြင်းဖြင့် အမျိုးမျိုး အစားစား ကွဲပြားသော စာလုံးများ ပေါ်ထွက် လာလေသည်။ စန္ဒယားပေါ်တွင် ညှိကြိုးတချောင်းကို တဦးတယောက်က တီးခတ်သောအခါ၊ ဂီတသံများ ပေါ်ထွက် လာသလို ဖြစ်သည်။ လက်နှိပ်စက်ရိုက်သူသည် စက္ကူထူ တချပ်တွင် အက္ခရာတလုံး ပြုလုပ်လျှင် ရိုးရိုး လက်နှိပ်စက်ရိုက်သူ မြန်သည်ထက် တဝက်လောက်နီးနီး မြန်အောင် ရေးသားနိုင်ပါသည်။ မျက်မမြင်သုံးလက်နှိပ်စက်မှာ အထူး

သဖြင့် စာအုပ်များထဲမှ စာမူများ ရေးကူးခြင်း အတွက် တခုတည်းသော အသုံးပြုဘွယ်ရာ ဝတ္ထုပစ္စည်းဖြစ်သည်။

မျက်မမြင်သုံးစာအုပ်များမှာ အရေအတွက်အားဖြင့် အလွန်တရာ နည်းပါးလှသည်။ ထုတ်ဝေဖြန့်ချိရန်လည်း စရိတ်စက အကုန်အကျ များပေသည်။ ထုတ်ဝေသူများမှာ အမြတ်အစွန်းအတွက် ရည်စူးလျက် လုံလုံလောက်လောက် ရောင်းချခြင်းမပြုနိုင်ပေ၊ သို့ရာတွင် မျက်မမြင် စာသင်ကျောင်းများအတွက် ဖေါင်းကြွ စာလုံးရိုက် စာအုပ်များ ထုတ်ဝေရန် အထူးတလည် ရံပုံငွေများ ရအောင်တော့ ရှာဖွေကြရသည်။ မျက်မမြင်အားလုံးအနက် မစ္စကယ်လာသည် သာလွန်ကံကောင်းသူ အမျိုးသမီးဖြစ်သည်။ စာအုပ်အများအပြားရှိသော သူမ၏မိတ်ဆွေများက သူမအလိုရှိလျှင် မဆိုင်းမတွဘဲ ဆန္ဒပြည့်ဝအောင် အထူးသဖြင့် ဆောင်ရွက်ပေးကြသည်။ 'ပင်ဆဲလ် ဗင်နီယာ မျက်မမြင်ကျောင်း' မှ မျက် မမြင် စာနည်းပြ ဆရာ 'မစ္စတာအီးအီးအောလင်း' ကဲ့သို့ လိုက်လျော ကူညီမှုပြုတတ်သောလူကြီးလူကောင်းများက သူတို့တွင် အခွင့်အခါရတိုင်း သူမအလိုရှိသမျှ စာအုပ်များကို တည်းဖြတ် ရိုက်နှိပ်ပေးကြလေသည်။

မစ္စကယ်လာသည် စာဘတ်ခြင်းကိုနည်းဥပဒေကျကျ အလွန်လျင်မြန်စွာဘတ်ရှုခြင်းမပြုပါ၊ သို့ရာတွင်သူမသည် ကျွန်ုပ်တို့မြင်ရသောစာလုံးများလောက် များများစားစား မတွေ့ရသဖြင့် ဖြေးလေးစွာ မှန်မှန်ဘတ်ကြားခြင်း ဖြစ်

သည်။ ထိုပြင်လည်း သူမ၏ပင်ကိုယ်စိတ်ခံတတ် အလေ့အကျင့်ကိုက အရာခပ်သိမ်းပင် စေ့စေ့စပ်စပ် ဘတ်တတ်ခြင်းကြောင့် ဖြစ်ပေသည်။ အကြောင်းအရာ တခုသည် သူမအဘို့စိတ်ပါဝင်စားမှု ဖြစ်လာလျှင် သို့မဟုတ် အနာဂါတ်အသုံးပြုရေးအတွက် ထိုအရာကို မှတ်သားလိုသောအခါ သူမသည် မိမိ၏ ညာဘက် လက်မှ လက်ချောင်းကလေးများကို လျင်မြန် သွက်လက်စွာ ပြာယာခတ်မျှ စမ်းသပ်သမှုပြုတော့သည်။ တခါတရံ ၅လက်ချောင်းဖြင့် စမ်းသပ်ခြင်းမှာ အာရုံနှင့်မတွေ့ထိဘဲ ဖြစ်တတ်သေးသည်။ မစ္စကယ်လာက အကျွရာစဉ်လက်စွဲစာအုပ်ထဲတွင် သူမကိုယ်တိုင်စမ်းသပ်၍ အခြားတပါးသို့ စိတ်ရောက် သွားတတ်ပေသည်။ သူမသည် ခမ်းမကြီးထဲတွင် ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်သည့် အခါ သော်၎င်း၊ ဝရံတာတလျှောက် အထက်အောက်ရောက်ချိန်၌သော်၎င်း၊ သူမ၏လက် နှစ်ဘက်မှာ သူမဘေးမှ ကပ်လျက် ၄က်တကောင်က လူးလာဆန်ခတ် အတောင်ခြင်းယှက်ခါ ပျံသန်း သွားနေ သကဲ့သို့ အသွင်သဏ္ဍာန် ရှိပေသည်။

ထိတွေ့မှုအသိဖြင့် မှတ်ဉာဏ်သည် ကြည့်မြင်ခြင်းနှင့် နားကြားခြင်းတို့၏ မှတ်ဉာဏ်ကဲ့သို့ တထေရာတည်းစွဲမြဲနေကြောင်းကို ကျွန်ုပ်အား မပြောပြဘူးပါသည်။ မိမိနှင့် မစ္စကယ်လာတို့နှစ်ဦးစလုံးပင် သူတို့ပြောပြသမျှကိုလက်ချောင်းများဖြင့် မှတ်မိကြပါသည်ဟု မစ္စဆူလီဗင်ကပြော

ဖြစ်ပါသည်။ အရာဝတ္ထု တခုကို အကြိမ်ပေါင်း များစွာ နားဖြင့် ကြားရသဖြင့် ထိုသို့သောအသံကြောင့် ကြားရခြင်းကိုကျွန်ုပ်တို့ပြန်လည်ပြောပြနိုင်သည့် မှတ်ဉာဏ်ကဲ့သို့သူမ၏ စိတ်မှတ်အရ မစ္စကယ်လာသည် အကျွရာစဉ် လက်စွဲစာအုပ်နှင့် ဝါကျတခုကို စာလုံးပေါင်း၍ ဖော်ပြနိုင်စွမ်းရှိပါပေသည်။

နားမကြား မျက်မမြင် သူတိုင်းကဲ့သို့ မစ္စ ကယ်လာသည်လဲ ထူးခြားသော အခြေအနေတရပ်ကို အနံ့ဖြင့် အာရုံခံ၍ သိရှိရန်နှာခေါင်းအားကိုး ပြုရပေသည်။ သူမငယ်ရွယ်စဉ်အချိန်ကလေးမဘဝက အရာခပ်သိမ်းကိုပင် အနံ့ခံ၍ ဘယ်နေရာသို့ သူမ ရောက်ရှိနေကြောင်း မည်သည့် အိမ်နီးချင်း အိမ်အနားသို့ ဖြတ် သန်း သွား လာ ခဲ့ကြောင်း စသည်တို့ကို အနံ့ဖြင့်ကွဲပြားခြားနားစွာ သိရှိခဲ့ပေသည်။ အသက်အရွယ်ကြီးရင့်၍ ဉာဏ်အမြော်အမြင် ကျယ်ပြန့်လာသောအခါ၊ သူမသည် ယင်းသို့သိမှုအတွက် အနံ့အာရုံခံစားခြင်းမှ လျော့ပါးလာလေသည်။ ယခုအချိန်အခါ၌၊ ၎င်းတို့၏ အ နံ့ ဖြင့် ကျယ် ပြန့် သည့်အကြောင်းအရာ ဝတ္ထုပစ္စည်းများကို ဆုံးဖြတ် ရန် မှာ ခဲခဲယဉ်းယဉ်း ဖြစ်လာပေသည်။ အနံ့ဖြင့်သိမှု အာရုံခံစားခြင်းမှာ ယုတ်လျော့သွားလေသည်။ နားမကြားသော ပုဂ္ဂိုလ်တယောက်သည်စကားပြောရာ၌ ဆွံ့အ နေတတ်သည် မစ္စကယ်လာ၏ စူးရှထက်မြက်သောအနံ့ဖြင့် အာရုံခံစားခြင်းမှာ အကြောင်းအချက် ထင်ရှားအောင် ရှာဖွေ

ဖော်ပြနိုင်ပါသည်။ အဘယ်မျှလောက် အနံ့ဖြင့် အာရုံခံစားနိုင်စေကာမူ၊ ထုံးတမ်းစဉ်လာအရဟူးထူးထွေထွေ အာရုံသိတခုကို ဂုဏ်ပြုချီးကြူးရန်ဖြစ်သော အရာဝတ္ထုများနှင့် လူပုဂ္ဂိုလ်များအား မှတ်သားရန် အချို့အဝက် ကျန်ရှိနေပေသေးသည်။ တဦးတယောက်အနီးသို့ ရောက်လာသောအခါ၊ အကျိုးအကြောင်းကို ကျွန်ုပ်တို့ ပြောပြလိုစိတ် ဆန္ဒ ပေါ်လာသကဲ့သို့ ထူးခြားသည့် စိတ်တံခိုးတရပ် ပေါ်ပေါက်လာမှုကိုလည်း အနံ့က သွေးဆောင်သမှုပြုပေသည်။

အာရုံခံခြောက်ပါးနှင့်ပါတ်သက်သောပြဿနာတရပ်ကို လူများ မှတ်ယူသည့် နည်းတူ မစ္စ ကယ်လာ သည်လဲ သေသေချာချာ နားလည်သူတဦးဖြစ်ပါသည်။ ဤသို့နားလည်စေကာမူ၊ သူမသည် အခြားလူများ အာရုံ မခံစား မထိတွေ့နိုင်သော အကြောင်းအရာများအဘို့ တစုံတရာ သိနိုင်သည်တော့ မဟုတ်ပါ။ ထူးထူးခြားခြား အာရုံတခု တည်း ရှိနေခြင်းသည် သူမအတွက်သော်၎င်း၊သူမကိုသိရှိသော ပုဂ္ဂိုလ်တဦးတယောက် အဘို့သော်၎င်း၊ ထင်ထင်ရှားရှားမရှိချေ။ မစ္စကယ်လာသည် ဖုံးကွယ်ထိမ်မြုပ်ခါ နားလည်ရန် ခက်ခဲသော နည်းလမ်းများ၏ တခုတည်းသက်သေပြချက်ကိုတော့ ရှင်းလင်းပြတ်သားစွာ မသိရှိပါချေ။ သူမ၏ နဂိုရ်အနေသို့ အံ့ကိုက်ဖြစ်အောင် တစုံတယောက်က ရှင်းလင်းပြောပြရန် ကြိုးပမ်းအားထုတ်စေကာမူ၊ ထိုနည်းအားဖြင့် သိရှိနိုင်ခြင်း မရှိချေ။ သူမသည်

အခြားလူတဦးတယောက်ထက်ပိုမို၍ ရှုတ်ထွေးခြင်း နားမလည် ခက်ခဲနေခြင်းမျိုးတော့ မရှိပါ။ သူမသည် သူမပြုလုပ်ခဲ့သမျှ၊ တွေ့ထိစမ်းသပ်ခဲ့သမျှ၊ အကြောင်းအရာအားလုံးကိုပင် လူတိုင်းလူတိုင်းအဘို့ ဘယ်အချိန်ကာလမှ ရှင်းလင်းပြောပြခြင်းငှာ မစွမ်းဆောင်နိုင်တော့သော အကြောင်းအရာမျိုးတို့မှ တပါး၊ တည့်မတ်ဖြောင့်တန်းစွာ ရှင်းလင်းပြောပြနိုင်ခဲ့ ပါသည်။ သူမသည် မသင့်မလျော်သောအမှု မွေးသန္ဓေပါ အယူအဆ များနှင့် အကြောင်းကိစ္စမပါဘဲ ဝိညာဉ်၏ ဖြစ်ပေါ် တည်ရှိမှုကို တခြား ပုဂ္ဂိုလ်များ ခိုင်ခိုင်လုံလုံ သက်သေ အထောက်အထားပြု၍မဖော်ပြနိုင်သကဲ့သို့သူမသည်လဲ အထောက်အထားမပြနိုင်ဟု တွေးထင် နိုင်စရာ ရှိပါသည်။ ရှေ့နောက် ကျိုးကြောင်း ဆင်ခြင် တတ်သူ များက သူမ၏ ဘာသာရပ်စာပေ မသင်ကြားမီ လက်ခံယုံကြည်ခဲ့သော အယူအဆ အကျဉ်းချုပ်ကို ရှာဖွေလေ့လာဘို့ ကြိုးပမ်းခဲ့ကြသည်။ အကယ်၍သူမတွင် တစုံတခုသက်ခံခဲ့သော စိတ် ကူး ချက် တ ခု ရှိ လျှင် ယ ခု အခါ၌ ထိုစိတ်ကူးချက်ကို ရှာဖွေရှုစမ်းရန် နည်းလမ်းမရှိပါပေ။သူမသည် ထိုအချိန်ကာလက ဖြစ်ပေါ်ခဲ့သောစိတ်ကူးကို ရှင်းရှင်းလင်းလင်းကြီး မှတ်သား မထားနိုင်သည်နှင့်အမျှ သဘောမရနိုင် ဖြစ်ခဲ့ပေသည်။ ထာဝရ ဘုရားသခင် ဟူသော စကားလုံးကို သူမ မကြားရမီ အချိန်က သူမသည် ထာဝရ ဘုရားသခင်နှင့်ပတ်သက်၍ စဉ်းစားတွေးတောချက်

မရှိကြောင်း သူမ၏ အနက်ကောက်ချက် များက အလွှတရာ ရှင်းလင်းအောင် ဖေါ်ပြခြင်း ပြုထားပေသည်။

သူမ၏အာရုံခံစား၍ အသိဉာဏ်ပွင့်ချိန်မှာအကောင်းဆုံးအချိန် ဖြစ်ပေသည်။ သို့ရာတွင် ထိုအချိန်မှာ ထူးထူးခြားခြား အစွမ်းသတ္တိ တရပ်ကို မသိရှိနိုင်သေးသော လူ့ဘဝ ထူထောင်ရန်အချိန် ဖြစ်ကောင်း ဖြစ်ပါလိမ့်မည်။ သူမတွင် အသက် ၇ နှစ်သို့အရွယ်ကထဲက နာရီတလုံးရှိခဲ့ပေသည်။

မစ္စကယ်လာမှာ နာရီ နှစ်လုံးရှိပေလည်။ ထိုနာရီ နှစ်လုံးတွင် ကျွန်ုပ်အထင်ကိုပြောရသော် တလုံးမှာ အမေရိကန်ပြည်လုပ် အမျိုးအစားဖြစ်သည်။နာရီ၏နောက်ဘက်အဖုံးတွင် လက်ျာဘက်မှ လက်ဝဲဘက်သို့ လွတ်လွတ်လပ်လပ် လှည့်ပတ်တွန်းရွေ့နိုင်သော ရွှေပြားအိမ်မြှောင်တချောင်းရှိပေသည်။နာရီအိမ်၏အထဲတွင် အပ်တချောင်းရှိသဖြင့် သော့ပေးသောအခါ၌ နာရီလက်တန်နှင့် ကိုက်ညီသည့်နေရာတခုကို ရောက်ရှိသွားပေသည်။ ၎င်းရွှေအိမ်မြှောင်၏ထိပ်မှာ နာရီအိမ်အစွန်းပေါ်သို့ ကွေးညွတ် ကျလျက် ဖေါင်းကြွသော အမှတ် (၁၁)လက္ခဏာ များကိုလှည့်ပတ်၍သွားသည်။ နာရီပင်မ ပုံသဏ္ဍာန်များမှာ အမှတ်(၁၂)ခုရှိသည်။ သို့ဖြစ်သောကြောင့်၍နာရီမှာရိုးရိုးနာရီတလုံးကဲ့သို့ လူများ၏ အမြင်တွင် မျက်နှာပြင်သည်ဖြူလျက်ရှိသည်။ မျက်မမြင်တယောက်အဘို့မှာမူ၊ တခုတည်းသော ဖေါင်းကြွမြင့်တက်သည့် နာရီလက်တန်နှင့်

ဖေါင်းကြွမြင့်တက်လျက်ရှိသည့် နံပါတ်များကို အထူး
တလည် ဤကဲ့သို့ တတ်ဆင်ထားခြင်းဖြင့်အချိန်နာရီသိရှိ
နိုင်ပေသည်။ အစက်ကွက်များ အကြားတွင် တလက်မ
ထက်ဝက်ထက်ပင် သေးငယ်၍ နေ ရာ ကွက် တခုသည်
(၆၀)မိနစ်အတွက် ကိုယ်စားပြု၍ ဖေါ်ပြထားသည်။မဂ္ဂ
ကာယ်လာကား အချိန်ကို တိတိကျကျ ပြောပြတတ်ပေ
သည်။ကျောက်စလင်းနှင့် အိခ်နှစ်ထပ် လုပ်ထားသော
နာရီသည် မျက်မမြင်တယောက်အတွက်ထိတွေ့စမ်းသပ်
ခြင်းအားဖြင့် လက်တန်များ ရွေ့လျားသော နေရာကို
ကောင်းစွာသိရှိရပေသည်။ နာရီအနေအထားက မျက်စ
မြင်တယောက်အား အနှောက်အယှက်မပြုချေ။

မစ္စကယ်လာ၏ချစ်မြတ်နိုးဘွယ်ရာထူးခြားသောအပြု
အမူများမှာ အလွန်ထင်ရှား ကျော်ကြားခဲ့ပေသည်။ ထို
အကြောင်းအရာ များကို တဦး တယောက်က သိရှိလို
သော်လည်း များများစားစားပြော၍ မဖြစ်နိုင်ချေ၊ ကောင်း
သောအသိ၊ ကောင်းသော စိတ်ဓာတ် ပျော်ရွှင် မှုနှင့်
တွေးတော ကြံစည်မှုများမှာ၊သူမ၏သဘောဖြူစင်၍ လှပ
ချောမောသည့် အကြောင်းအရာများကို ထိမ်းသိမ်းထား
ပေသည်။ သူမ၏အနိဋ္ဌာရုံလွဲမှားယူဆချက်များကို ဆိတ်
သုဉ်းစေရန် သို့မဟုတ် ကာကွယ် စောင့်ရှောက် ထားရန်
သူမ၏ပတ်လည်မှ ကြံစည်အားထုတ်မှုတို့ မရှိမချေ၊ သူမ
ငယ်ရွယ်စဉ် လိခ်မာရေးခြား မရှိချိန် နေရာတကျမစဉ်း
စားတတ်ချိန်ကဆိုလျှင်လည်း သူမအကျိုးအတွက် ထပ်

တလဲလဲ ထပ်မံပြောခဲ့ရ၊ အမြှော် အမြင် ကြီးစွာနှင့် သူမအား စောင့်ရှောက်ကူညီခဲ့သူ မစ္စဆူလီဗင်ကို ကျေးဇူးတင်စရာကောင်းတော့သည်။ ယခုလိုကြီးပြင်းလာချိန်၌ သူမသည် အခြားဉာဏ်ပညာ ထက်မြက်သော အမျိုးသမီးငယ် တဦးတယောက်ထက် အသိအလိမ္မာ နည်းပါသည်ဟု တဦး တယောက်ကမျှ မတွေးထင်တော့ပေ၊ သူမ၏မိတ်ဆွေကောင်းဖြစ်သော ချာလီး စ် ဒပ်ခလေဝါနာသည် ၁၈၉၆-ခုနှစ်တွင် သူမ၏အမှန် ဖြစ်စဉ်အကြောင်းအရာကိုဟာပါ မဂ္ဂဇင်း၌ ရေးသားဖော်ပြရာ ထိုအမှန်အကြောင်းအရာကား ယခုတိုင်ကျန်ရစ်လျက်ရှိပေသည်။

'သူမသည် လူ့ကျင့်ဝတ် မပျက်ဘဲ ဖြူစင်သောစိတ်နှလုံး သဘောထားတည်ရှိသူ အမျိုးသမီး ဖြစ်ကြောင်းကို ကျွန်ုပ်ယုံကြည်ပါသည်။ သူမအတွက် ကမ္ဘာကြီးသည် သူမ၏ပင်ကိုယ်စိတ်သဘောအတိုင်း ဖြစ်ပေသည်။ သူမသည် ဖြောင့်မှန်သော ကိစ္စနှင့်ပတ်သက်လျှင် ဘီးမခံတတ်ခြင်းဖြင့် ဂုဏ်ယူဘွယ်ရာအမြောက်အများကိုဖော်ပြခြင်းမှာ စာပေထင်ကြွားလေ့လာမှု မရှိချိန်ကဖြစ်သည်။'

'လွန်ခဲ့သော အချိန်တချိန်က ရဲသားတယောက်သည် သူမ၏နေ့စဉ်အဖော်ဖြစ်သည့် ချစ်မြတ်နိုးဘွယ်ရာ ခွေးတကောင်ကို သေနတ်နှင့် ပစ်သတ်လိုက်လေသည်။ အသဲနှလုံးကြေကွဲဘွယ်ရာ အဖြစ်မျိုးနှင့် တွေ့ကြုံသော်လည်း သူမသည် ထိုရဲသားအပေါ်တွင် ရန်သတ္တရုမပြုဘဲ 'တကယ်လို့ သည်ခွေးမ ကလေးဟာ ကောင်းတဲ့ ခွေးတ

ကောင်း ဖြစ်ကြောင်းသာ သူသိခဲ့ရင်တော့ ရက်ရက်စက်စက် သည့်လိုပစ်သတ်မှာ မဟုတ်ပါဘူးရှင်’ ဟူ၍သာ ပြောပြလေသည်။ အုပ်ချုပ်သူအရှင်သခင်က သူတို့အား ချမ်းသာခွင့် ပေးသော်လည်း သူမတို့မှာ ဘာလုပ်ကြရ မည်မသိကြဘဲ ဈေးကခိုရိုးစကား ရှိခဲ့ပေသည်။

‘ဟုတ်ပါသည် ဟယ်လင်ကာယ်လာမှာ မကောင်းမှု အသိပညာမှ ကာကွယ်စောင့်ထိမ်းခြင်း ရှိသည်ဖြစ်စေ။ မရှိသည်စေ၊ ယနေ့ သူမ၏ အခြေအနေ မည်သို့မည်ပုံ ဖြစ်ပေါ် လာလိမ့်မည် ဟူသော ပြဿနာကား၊ ပေါ် ပေါက်လာပေလိမ့်မည်။ သူမ၏စိတ်သည် အားနည်းချိနဲ့ ခြင်းနှင့် စာပေဗဟုသုတ နည်းပါးမှုကြောင့် မိန်းမလို မိန်းမရ စိတ်မျိုးမရှိခဲ့။ အခြေခံ အချက်အလက်များကို ဆွေးနွေးသုံးသပ်ခြင်းဖြင့် လွဲမှားချွတ်ချော်ခြင်းလည်းမရှိ ခဲ့ သူမ၏စိတ်ဓါတ်သည် အကျိုးသက်ရောက်မှုနှင့်ပါတ် သက်၍၊ စိတ်အားထက်သန်သည်သာမက စင်ကြယ်ဖြူ ဖွေးမှုလည်းရှိပေသည်။ သူမသည်မြင့်မြတ်၍ ဂုဏ်သရေ ရှိသောအမျိုးသွီးအမျိုးသားများ၏ အပြုအမူများအတိုင်း အထက်တန်း ကျကျ အရာဝတ္ထု များကို အထက်တန်း ကျကျ တွေးတောစဉ်းစားခြင်းကို နှစ်သက် မြတ်နိုးပေ သည်။

သူမသည် ကလေးတယောက်ကဲ့သို့ ယနေ့တိုင်အောင် ပူဆွေးဝမ်းနည်းဖွယ်ရာ အရေးအခင်းမျိုးကို မနှစ်သက် ပါ။ သူမ၏ စဉ်းစားတွေးတောချက်သည် အလွန်တချာ

လိုအပ်သော ဝတ္ထုဇာတ်လမ်းတခု၏ အသိအမြင်မှောက်မှားခြင်းအောက်ဝယ် အပြည့်အစုံ ပျောက်ကျ လိမ့်ဆင်းသွား၍၊ ၎င်း၏ကပ်ကန္တာထဲတွင်ဘဲ ချာချာလည်နေပေသည်။ မစ္စဆူလီဗင်သည် ၁၈၉၁-ခုနှစ်၏ စာတစောင်ထဲ၌ ထိုအကြောင်းကို ရေးသားဖေါ်ပြခဲ့သည်။

'ကျမသည်မနေ့က 'ချာလီးစ်နှင့် မေရီလင့်(ဘ်)တို့ ပြောပြချက်အတိုင်း၊ ရေးသားထားသောသူမ၏ 'မက်ချ်ဘက်သ်' ဝတ္ထုကိုဘတ်လိုက်ရသည်။ သူမသည်ထိုဝတ္ထုကြောင့်အကြီးအကျယ်ထကြွနိုးကြားမှုဖြစ်လာပါသည်။ သူမက 'အဲဒီဝတ္ထုဟာ ကြောက်စရာ ကောင်းတယ်၊ ဒီဝတ္ထုဟာ ကျမကို တုံလှုပ်ချောက်ခြားစေပါတယ်' ဟု ပြောပြပါသည်။ အနည်းငယ် တွေးတောပြီးသည်နောက် သူမကထပ်လောင်း ပြောပြပြန်ပါသည်။ 'ရှိတ်စပီးယားဟာ အဲဒီဝတ္ထုကို အလွန် ကြောက်စရာ ကောင်းအောင် ရေးသားထားတယ်လို့ ကျမထင်တယ်ရှင့်။ ဒါကြောင့်လဲ လူတွေက မမှန်တာကိုလုပ်ပြီး ဘယ်လောက် ကြောက်စရာ ကောင်းသလဲဆိုတာ ဘတ်ကြည့်ချင် ကြတာပေါ့'။

တကယ်တော့ ကန္တာလောကကြီးကိုမူ သူမသည် လူတွေအများဆုံးသိချင်ကြသည်ထက် ပို၍သိချင်ပါသည်၊သူမ၏ သိချင်စိတ်မှာ အဆိုးထက်အကောင်းက ပိုမိုများပါသည်။ သူမ၏ဆရာမသည် စိတ်ညစ်ညူးဘွယ်ရာ အသေးအဖွဲကလေးများကအစ သူမအားပင်ပမ်းနွမ်းနယ်အောင် မပြုလုပ်ခဲ့ပါ။ သို့ရာတွင် အရေးကြီးသော အခက်အခဲ

ဆုံဆီးမှုများကိုမူ နှစ်ယောက်အတူ ဖြတ်သန်းကျော်လွှား ခဲ့ကြသည်။ မစ္စကယ်လာသည် အကြောင်းမျိုးစုံ သိရှိ၍ အနိဋ္ဌာရုံများနှင့် ကြုံကြိုက်လျှင် သူမ၏ ခံစားချက်ကို မစ္စဆူလီဗင်သို့ဝေငှပေးကာသူမစိတ်ဓါတ်ကိုလဲပြသနာ ရပ် များထဲသို့ သွတ်သွင်း လိုက် လေ သည်။ သူမသည် သဘာဝယုတ္တိကျကျ သီးခံခြင်းတရားနှင့်ပြည့်ဝပေသည်။ ယုံကြည် စိတ်ချရဆုံး ကမ္ဘာ လောကကြီး တခု လုံး က သူမအပေါ်တွင် ကြင်နာယုယစွာ ပြုံးရိပ်ယူလေသည်။

တခါတုံးက တဦးတယောက်သည် သူမအား ချစ် မေတ္တာ၏ အဓိပ္ပါယ်ကိုစုံစမ်းမေးမြန်းသဖြင့် သူမကဒီလို ပြန်ပြောလိုက်ဘူးသည်။

'ဘာ့ကြောင့်များ ဒါကိုမေးရတာတုံးရှင်၊ ရှင်ဝမ်း သာအောင်ပြောပြဘို့ လွယ်ပါတယ်။ မေတ္တာတရား ဆို တာ လူတိုင်းလူတိုင်း ခံစားနိုင်ပါတယ်'။

တကြိမ်၌သူမသည် သူမ၏မိတ်ဆွေမစ္စကလောရင့်စ် ဟတ်တန်ထံသို့ အလည်အပတ်သွားရင်း....

'သီးခံခြင်းတရားဆိုတာ စိတ်ဓါတ်ရဲ့ အကြီးကျယ် ဆုံး လက်ဆောင်ကောင်း ပါဘဲရှင်၊ စက်ဘီး တစင်းကို စီးတဲ့အခါမှာ ဟိုဘက်သည်ဘက် ချိန်ဆရသလို သီးခံ ခြင်းတရားဟာလဲ ဦးနှောက်ကို အလားတူကြိုးစားပြီး အလုပ်ပေးရတာပါဘဲ'ဟုပြောပြခဲ့ပါသည်။

သူမတွင် ကြီးကျယ် ရက်ရောသော စေတနာ သဒ္ဓါ တရားနှင့် စိတ်ကောင်း နှလုံးကောင်း အပြည့်ရှိပေသည်။

အခြားလူများထံမှ တွေရလေးပါး အမျိုးမျိုးအစားစား မှတ်သားစရာ ဗဟုသုတ ပေါင်းစုံ လက်ခံရရှိခဲ့သည်နှင့် အမျှ တွေးတောကြံဆတည်ထွင်ခြင်းကိုမူစေ့စေ့ စပ်စပ် နယ်နိမိတ်ကန့်သတ်၍ ဆင်ခြင်သုံးသပ်မှု ပြုသည်၊ သူမ တွင် တိုက်ရိုက် ဥပမာအောင်ချက်များဖြင့် နှိုင်းယှဉ်ရန် သတ္တိရှိသည်။ကျွန်ုပ်တို့က မိမိကိုယ်ကို ယုံကြည်ချက်ဖြင့် စိုးရိမ်စွာ ဥပမာ အောင်ချက်များ တွေးတော စဉ်းစား သောအခါ၊ ရိုးရိုးစကားဆွေးနွေးမှုသည်ပင် အလွန်တရာ စာသဘောဆန်စေကာမူ သူမဆဘ္ဍို တမျှော်တခေါ်ကြီး ကောင်းကင်သို့ရောက်အောင်အတွေးရှည်လျားပေသည်။ သူမသည် အမှန်ဟုထင်မြင်ယူဆချက်ကိုစဉ်းစားပြီးသည် နှင့်တပြိုင်နက် စိုးရိမ်ကြောက်ရွံ့မှု မရှိဘဲ အစဉ်သဖြင့် တိတိကျကျ ပြောလိုက်တော့သည်၊ တဦးတယောက်မျှ သူမထက်ပို၍ ပျော်ရွှင်ဘွယ်ရာ မကောင်းသော • အမှန် ဖြစ်စဉ် တရပ်ကို နှလှန်ကာ နေရာတကျ ကျင်ကျင် လည်လည် ပြောင်မြောက်အောင် ပြောတတ်သူမရှိချေ။ သူမသည် အလွန်တရာအရေးကြီးစွာသော ပြုဘွယ်ကိစ္စ များကို ကလေးတယောက်ကဲ့သို့ ပြုလုပ်တတ်၍ အခါရုံ စားမှုအားလုံးမှန်သမျှကိုလည်း ကလေးပမာပြည့်ပြည့် ဝဝ မခံစားတတ်ပေ။ တခါတရံ၌ သူမသည် အလွန်တ ရာ ရှုဖြေ့သိမ်မွေ့စွာနှင့်တရားဟောဆရာတယောက်ကဲ့သို့ဖြစ် လာလေသည်။ ထိုနောက် သူမ၏ ဆရာမက သူမအား ပြင် ဆုံးမခက်သောတရားဟော စာရေးသားသူကလေး

ဘာယောက်ဟု ခေါ်သဖြင့်၊ မစ္စ ကယ်လာမှာ သူမကိုယ်
သူမ ရယ်မောနေဘော့သည်။ မကြာခဏပင် သူမ၏စိတ်
ပါဝင်စားခြင်းကိုယ်စားပြုသော ဆောင်ရွက်ချက်များကို
နားထောင်သူများသည်သူမ၏ နည်းလမ်း ကျကျ အတွေး
အခေါ် အယူအဆများကြားရချိန်၌ ရယ်မောခြင်း မပြု
တော့ပေ။ သူမဘာတဲပြောပြော အနည်းဆုံး အမှား အမ
ယွင်းဆို၍ ဘယ်တော့မျှထိခိုက်စရာ အကြောင်းများမပါ
ချေ။ သူမသည်ကိုးကားချက်များကို အလွန်စိတ်စောလျော်
အရာခပ်သိမ်း ချောချောရှုရှု ဖြစ်မြောက်အောင် ဆောင်
ရွက်ခဲ့သည်ချည့်ဖြစ်သည်။ သူမ-ဘတ်ရှုလေ့လာခဲ့သချျ
ထဲမှ ပဲ့တင်သံဘို့မှာ မူမှန်အကြောင်းရင်းထဲသို့ရိုက်ခတ်
လျက်ရှိပေသည်။

သူမ၏ သဘာဝယုတ္တိကျကျ အမှန် အကြောင်းအချ
ကိုသေ့လာခြင်းနှင့်ဂရုအာစေတသိက်ဘို့မှာ အကောင်း
ဆုံး ချင့်ချိန် နှိုင်းဆချက်ထဲတွင် ကိန်းအောင်းလျက် ရှိ
သည်။ သူမ၏ဂရုဏာတရားမှာ အခြားပုဂ္ဂိုလ်များထံမှ
ကာံအားလျော်စွာ မကြာခဏ ဆည်းပူးရရှိ၍ လျင်လျင်
မြန်မြန် စီစဉ် ရာထားမှု အချိုးချိုးကို ပေါက်ပွား စေပေ
သည်။ ၎င်းပြင် သူမ၏ဂရုဏာဘရားများသည် သူမ၏
အကြံဉာဏ်များအတိုင်း အချိုးသား လှုပ်ရှားမှုများနှင့်
နိုင်ငံရေးကိစ္စများတွင် ပုံသဏ္ဌာန် အချိုးချိုးဖြင့် ဆက်
လက်၍အသုံးချပြန်လေသည်၊သူမသည်'ဘိုးဝါး'ဝါဒကို
စိတ်ပါထောက်ခံသူဖြစ်သဖြင့် 'ဘိုးဝါး'လွတ်သပ်ရေး

အတွက် ရှေ့ရှုသော အချက်အလက် ငြင်းချက်တခုကို ရေးသား ခဲ့ပေသည်။ ရဲရင့်သော လူငယ် လူရွယ်များ လက်နက်ချကြောင်းကို သူမအား ပြောပြသည့် အခါ၊ သူမ၏မျက်နှာသည် တိမ်ဖုံးသောလပမာ အရောင်အဝါ ကင်းမဲ့ကာမိနစ်အနည်းငယ်မျှ တွေဝေငြိမ်သက်နေတော့သည်။ ထိုနောက်သူမသည် လက်နက်ချသော နည်းလမ်း စည်းကမ်းများ အကြောင်း မေးခွန်း အမျိုးမျိုး ထုတ်၍ ရှင်းကင်းပြတ်သားစွာ စုံစမ်းရင်း စတင် ဆွေးနွေးခြင်း ပြုတော့သည်။

သူမအတွက် ကောလိပ်ကျောင်းသို့ ရောက်ရှိအောင် စီစဉ်ပေးကြသူ မစ္စတာဂင်းလ် မင်နှင့် မစ္စတာကိ သ် ဆရာနှစ်ဦးစလုံးပင် သူမ၏အကြောင်း ယုတ္တိရှိရှိ အခြေခံသောတန်ခိုးသတ္တိအင်အားပြည့်စုံစမ်းမေးမြန်းမှုကြောင့် စိတ်ခေတ်ထိခိုက်သွားကြရသည်။ သူမသည် သင်္ချာ ဘာသာကို ဘယ်တော့မှုများများစားစားမိတ်ပါပျော်ရွှင်စွာ သင်ကြားခြင်းရှိဟန် မတူသော်လည်း တကယ်အတော် ဆုံး ဖြစ်နေပေသည်။ သူမ၏အကောင်းဆုံးစာပေ အရေးအသားအချို့မှာ သူမ၏တွေးတောကြံဆချက်နှင့် ခေတ်မှီသော လုပ်ငန်းတရပ်မှ ပေါ်ပေါက်လာခြင်း ဖြစ်ပေသည်။ ယင်းသို့ရေးသားခြင်းသည် စာမေးပွဲများနှင့် သီးခြားအဓိပ္ပါယ်ရှိသော ပြောဆို ရေးသားရာ အကြောင်း တွင် သူမ၏ ဖေါ်ပြချက်အပြင် အယူအဆ မလွဲမှားချန် ရှင်းရှင်းလင်းလင်း ရေးသားမှုနှင့် ပတ်သက်၍ အသုံးဝင်

စရာတွေရှိရသောစာအချို့–ထိုစာအချို့မှာ သာယာနာပျော်ဘွယ် အရှိန်ပြင်းစွာ ဆက်တိုက် စိကုံးမှု အတွက်ချဉ်းကပ် တွေးတောဘွယ်ရာ အကူအညီပေးသည့် ပုံစံစံနစ်များသာ ဖြစ်ပါပေသည်။

သူမသည် လောက မဒ္ဒတာတရားအရ အကောင်းသက်သက်ချည့်ဖြစ်သည့် အယူဝါဒရှိသူတဦးနှင့် စိတ်ကူးကောင်းသူတဦး ဖြစ်ပေသည်။

'အယ်လ်....ဟာလက်တွေ့သဘောတရားကိုများများစားစား မသုံးသပ်ဘဲ သူမဟာ ပျော်ရွှင်စရာတွေအများအပြားနဲ့ လွဲသွားမှာကို ကျမစိုးရိမ်မိပါတယ်။ မလွဲမချော်စေဘို့လဲ ကျမ မြှော်လင့်ပါတယ်' ဟု သူမသည် စာတစောင်ထဲတွင် ရေးသားထားပါသည်။

နယူးရောက် မြို့တော်ရှိ 'ဝရိုက်ဟူမေဆင်' ကျောင်းတွင်နေစဉ်၊သူမ၏နေ့စဉ်မှတ်တမ်းထဲ၌သူမသည် ၁၈၉၄ ခုနှစ် အောက်တိုဘာလ ၁၈–ရက်နေ့က ရေးသားခဲ့ပြန်သည်မှာ....။

'ကျမသည်ဤနေရာ ဤဌာန ကျမ၏ ကျောင်းသူဘဝ၌ အကြောင်းအရာ လေးချက်ကို သင်ကြားရန် တွေ့ရှိခဲ့ပါသည်။ ဘဝသက်တာဝယ် အမှန့်စင်စစ်ကား။ ရုပ်ရှဉ်တွေးထွေးမပါဘဲ မြန်မြန်ဆန်ဆန် မပြုလုပ်ဘဲ ရှင်းရှင်းလင်းလင်း တွေးတောစဉ်းစားရန် ရိုးသားသော မေတ္တာတရားဖြင့် လူတိုင်းလူတိုင်းကို ချစ်ခင်မြတ်နိုးရန်၊ အရာခပ်သိမ်းဟူသမျှ အမြင့်မားဆုံးသော အကြောင်းအကိုသာ

ပြုမူဆောင်ရွက်ရန်နှင့် ယုံမှားသံသယမရှိဘဲ ချစ်ခွာသော ဘဝရဘုရားသခင်အား ကိုးကွယ်ဆည်းကပ် ယုံကြည်ရန်တို့ဖြစ်သည် ’ဟု ဖော်ပြထားပေသည်။

ပညာသင်ကြားရေး။

ဒေါက်တာစမြူရယ်လ် ဂရစ်ဒ် လေဟောင်းစဲ့သည် သူမအတွက် ဥာဏ်ပညာ ထက်မြက်ရေးကို ‘ လောရာဘရစ်(ခ်)မင်၏ လက်ချောင်းများဖြင့် သင်ကြားနည်းအရ စီစဉ်ရန် သိရှိသည့် အချိန်မှစ၍ ယခုအချိန်ထိ ဆိုလျှင် နှစ်ပေါင်း (၆၅)နှစ် ရှိခဲ့ပါပြီ။ လောရာဘရစ်ခ်မင်နှင့် ဟယ်လင်ကယ်လာ တို့သည် အစဉ်သဖြင့် အတူတကွ ဆက်စပ်လျက်ရှိခဲ့ပေသည်။ ဒေါက်တာ ဟောင်းစဲ့သည် မစ္စဆူလီဗင်၏ ပညာသင်ကြားရေး တာဝန်နှင့် မရောက်လာမီကပင် သူ့တပည့်မ အတွက် မည်သို့ ပညာသင်ကြားပေးရမည့်ကို နားလည်ခဲ့သည်။ လိုအပ်မှုကို ကြံဆခဲ့သည်။ ဒေါက်တာ ဟောင်းစဲအဘို့မှာမူ၊ နားမကြား မျက်မမြင်များ၏ အလျင် အမြန် မှိုင်ဆိုအားထားရန် ဖြစ်သောအခြားဆရာများနှင့် မစ္စဆူလီဗင် အပါအဝင်တို့၏ ပညာသင်ကြားရေးစံနစ်တွင် ရှေးဦးစွာ လမ်းညွှန်သူကြီး ဖြစ်ပေသည်။

ဒေါက်တာစမြူရယ်လ် ဂရစ်ဒ်လေ ဟောင်းစဲ့သည် ၁၈၀၁–ခုနှစ် နိုဝင်ဘာလ ၁၀ ရက်နေ့တွင်ဘော့စ်တွန်မြို့၌ မွေးဘွား၍ ၁၈၇၆ ခုနှစ် ဇန်နဝါရီလ ၉ ရက်နေ့ ဘော့စ်တွန်မြို့၌ မွေးဖွား၍ ၁၈၇၆ ခုနှစ် ဇန်နဝါရီလ

၉ရက်နေ့တွင်ဘော့တွန်မြို့၌ပင် ကွယ်လွန်အနိစ္စရောက်ခဲ့ပေသည်။လူသားအချင်းချင်း ဆက်ဆံရာ၌ချစ်ခင်ကြင်နာတတ်ဆုံးပုဂ္ဂိုလ်ကြီးတဦးဖြစ်၍ စိတ်သဘောထားပျော့ပြောင်းကာနားမကြားမျက်မမြင်များအတွက် ပညာသင်ကြားရေး၌ နက်နက်နဲနဲတွေးတောကြံဆလျက် အလုံးတာလည် စိတ်ပါဝင်စားသောပုဂ္ဂိုလ်ကြီးတဦးလည်းဖြစ်ပါပေသည်။ သူ၏အတိတ်ဖြစ်စဉ်ကို ဖော်ပြရသော်။ သူသည် ဆင်းရဲ၍ အနာရောဂါထူပြောသူ များအား သက်သာရာ သက်သာမှုရစေရန် အများ အကျိုးကို သယ်ပိုးရွက်ဆောင်ခဲ့သူ ဖြစ်ပေသည်။ ယင်းသို့ကူညီသည့်အချိန်တိုင်း ရယ်ရယ်မောမောနှင့်နေတတ်ရှာ။ ဤသည်ကအစအဆုံးပါရမီ အကျင့် ရရှိလာတော့ခြင်း ဖြစ်ပေသည်။ ဘော့စ်တွန်မြို့ နားပင်း သူ များ ပညာ သင် ကြား ရာ ကျောင်း၌ ကျောင်းအုပ်တာဝန် ထမ်းဆောင်နေစဉ်၊ သူသည် လောရာဘရစ်ချ်မင်၏အကြောင်းကိုကြားရသဖြင့် ၁၈၃၇ ခုနှစ် အောက်တိုဘာလ ၄ ရက်နေ့တွင် သူမအား ကျောင်းသို့ ခေါ်ဆောင်လာခဲ့ပေသည်။

လောရာဘရစ်ချ်မင်သည် ၁၈၂၉ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့တွင် နယူးဟင့်ရှိုင်ယာနယ်–ဟာနိုဗာမြို့၌ မွေးဖွားခဲ့သည့် ဒေါက်တာ ဟောင်းဝဲလ်က သူမအား ခေါ်ဆောင်စမ်းသတ်၍ စတင်ပညာသင်ကြား ပေးချိန်၌ သူမသည် ၈ နှစ်သို့ ရွယ်မျှ ရှိပါသေးသည်။ ၂၆လသို့အရွယ်ကကပ်ရောက်သောပြင်းထန်သည့်အဖျားရောဂါ

သည် သူမအား နားမကြား မျက်မမြင်ဘဝသို့ပို့ဆောင် လိုက်လေသည်။ သူမသည်လဲ အနံ့နှင့် အရသာခံစားမှု အာရုံများ ကင်းကွာပျောက်ဆုံးခဲ့သူဖြစ်ပေသည်။ဒေါက်တာ ဟောင်းစဲသည် စမ်းသတ် တည်ထွင် သော လောကဓါတ်ပညာရှင်တဦးဖြစ်၍၊ သူ့တွင် ကြီးကျယ်သော ယုံကြည်ချက်သစ္စာတရားနှင့် အလျှူဒါနပေးကမ်းစွန့်ကြဲ တတ်ခြင်း အထူးပါရမီများအပြင် နယူးအင်္ဂလန် ဇာတိ စိတ်ဓါတ်ရှိသူတယောက် ဖြစ်ပေသည်။ လောကဓါတ် ဝိဇ္ဇာပညာနှင့် ယုံကြည်ချက်တို့က အတူတကွ သူ့အား လမ်းညွှန်ပြသကာ အခြားအခြားသော လူတိုင်းလူတိုင်း ၏ လူ့ဘဝကဲ့သို့ လူ့လောကထဲတွင် ' လောရာဘရစ်ခ်မင်' တယောက် မွေးဖွား လာခဲ့ပေသည် ဟူ သော ယုံကြည်ချက်ဖြင့် လောရာဘရစ်ခ်မင်၏ ဝိညာဉ်ထဲသို့ ဝင်စားလျက် သူမဘဝအား ကယ်တင်ဘို့ကြိုးစားခဲ့ခြင်း ဖြစ်ပေသည်။သူ၏အကြံသည် လောရာအား ဖေါင်းကြွ စာလုံးများ တပ်ဆင်ထားသော လက်နှိပ်စက်ဖြင့် သင် ကြားရန်ဖြစ်သည်။ သူသည် အကြောင်းအရာ စာလုံး များပေါ်တွင် ဖေါင်းကြွသောအမှတ်အသားများ ကော် ကပ်ပေး၍သူမအားထိုအမှတ်အသားများဖြင့် အကြောင်း အရာ စာလုံးများကို သိရှိစေပါသည်။ တဖန်အကြောင်း အရာများနှင့် အမှတ်အသားများကို ကိုက်ညီအောင်စမ်း သပ်စေပါသည်။ သူမသည် ဤနည်းအတိုင်း ဖေါင်းကြွ သောစာလုံးများဖြင့် ရေးသား ထားသည့် အကြောင်းအ

ရာတို့ကို သိရှိနားလည်အောင် သင်ကြားသော အခါ ဤနည်းအတိုင်းသာ ထပ်တလဲလဲ သင်ကြားရင်း ခွေးတကောင်ကို ပရိယာယ် အမျိုးမျိုးနှင့် သင်သလို သင်ရကြောင်း သူကပြောပြပါသည်။ သူသည် မျက်မမြင်များသင်ကြားသော စာလုံးများကို အစပြုခါ 'သော့' 'ဦးထုပ်' စကားနှစ်လုံးဖြင့် သူမအား ပူးတွဲ သင်ကြားပြုပါသည်။ ပညာသင်ကြားခြင်း မပြုခဲ့သေးသော မျက်မမြင် နားမကြား ကလေး တယောက်၏ စိတ်ခါတ်ကို လက်နှိပ်စက်မှတဆင့် ဘာသာစကား သင်ကြားပေးရန် ဖြစ်နိုင်ပြီဟု သူ့ကိုယ်သူ ယုံကြည်ခြင်းဖြင့် သူ၏အောင်မြင်မှုမှာသည်း ထင်ထင်ရှားရှားဖြစ်လာပါသည်။ သူ၏ အောင်မြင်ခြင်းမှာ မပြီကလာပြီကလာနှင့် ကလေးစကားပြော မသင်ကြားသေးသော ကလေးအရွယ် အဆင့်ဘဲ ဖြစ်ပါသည်။ ဦးကျောက်ဉာဏ်မှာမူ သဘာဝအရ ကူညီအားပေးမှုမပြုဘဲ အသက်အရွယ် ကြီးရင့်သည်နှင့်အမျှ ကြီးထွားလာပါသည်။

ဖေါင်းကြွသော စကားလုံးများဖြင့်အသုံးပြုကာ သင်ကြားခဲ့ရာ (၂)လအကြာတွင် 'သောရာ'၏ ပညာရေးတိုးတက်လာပြီးသည်နောက် ဒေါက်တာဟောင်းစဲသည် သူ၏ဆရာမတဦးအားနားမကြား ဆွံ့အ,သူ့ဘယောက်ထံမှ အက္ခရာနည်းစံနစ်အရ သင်ကြားပေးရန် 'သောရာ' ထံသို့ ပို့လိုက်လေသည်။ ဆရာမက ထိုနည်းအတိုင်း 'သောရာ'သို့သင်ပေး၍ ထိုအချိန်မှ စတင်လျှက်လည်း

အကျွရာစဉ် နည်းစံနစ်မှာ 'လောရအတွက် သင်ကြား ဘွယ်အချက်အလက်များဖြစ်လာပေတော့သည်။

ပဋ္ဌမ တနှစ် နှစ်နှစ် ကုန်လွန်ခဲ့သည်နောက် ဒေါက်တာ ဟောင်းစဲသည် 'လောရာ ဘရစ်ခ်မင်' အား သူ ကိုယ်တိုင်မှသင်ကြားတော့ပေါ့။ သို့ရာတွင်သူမ၏ဘာသာ သင်ခန်းစာများအတွက် သူနည်းလမ်း ညွှန်ကြားသလို လိုက်နာသင်ကြားရသော တခြားဆရာမများကဲ့ သူမှထံ ပို့ပေးပါသည်၊

ဒေါက်တာ ဟောင်းစဲ၏ လုပ်ငန်းစဉ်ကိုကား အထူး တလည် များများစားစားချီးကျူးထောပနာစကားမပြော ပြနိုင်ကြပါ။ သူသည် စုံစမ်း လေ့လာသူ တဦးအဖြစ် ထာဝစဉ် လောကဓါတ် ဝိဇ္ဇာရှင်၏ ဟန်ပန်အမူအရာ မျိုးကိုသာ ပြုလုပ်လျက်ရှိပေသည်။ သူသည် ဓါတုဗေဒ ဆေးခန်းတခန်းထဲသို့ ဝင်ရောက်လုပ်ကိုင်နေသော လူတ ယောက်အဖြစ်နှင့်ပင် 'လောရာ ဘရစ်ခ်မင်'၏ ပညာ ရေးနှင့် ပတ်သက်၍ မှတ်တမ်းရေးရန် ဘယ် တော့ မျှ သတိမေ့လျော့ခြင်းမရှိပါ။ သူမအကြောင်းနှင့်ပတ်သက် ၍ အဖြေကား အသိအလျောက် တိုးတက်လာခြင်းနှင့် သတိဝိရိယ ဖော့ရှုခြင်းများတွေ့ရသည်ဘဲ ဖြစ်ပါသည်။ ဝိဇ္ဇာပညာနည်းကျကျ အချက်အလက်ကို ရပ်တန့်ကြည့် ရှုသူတယောက်အဖြစ်နှင့် ကံကြမ္မာမကောင်းဟု ဆိုရပေ မည်ဖြစ်သည်။ အကြောင်းမှာ ဟယ်လင်ကယ်လာ၏ဘဝ စဉ့် တိုးတက်ထူထောင်လာမှု မှတ်တမ်းများကို အပြည့်

အစုံ စေ့စေ့စပ်စပ် မှတ်သားရန် မဖြစ်နိုင်ခဲ့တော့သော ကြောင့်ဖြစ်ပါသည်။ 'လောရာဘရစ်ခ်မင်' နှင့် ဟယ်လင် ကယ်လာတို့ အကြားတွင် အနက်အဓိပ္ပါယ် ကောက်ယူ ချက်အကြီးအကျယ် ကွဲလွဲမှုများတွေ့ရပေသည်။လောရာ သည် အစဉ်သဖြင့် ထူးထူး ဆန်းဆန်း လေ့လာမှု၏ အ ကြောင်းအရာတခုတွင် နောက်ချန်လျက် နေရစ်ခဲ့သည်။ ဟယ်လင်ကယ်လာမှာ ထူးခြားသော တဦး တယောက် နှင့်စပ်ဆိုင်ချက်ကို မြန်မြန်ထက်ထက် စဉ်းစားဆုံးဖြတ် လေ့ရှိသည်။ သူမအတို့ သူမ၏ဆရာမက အသင့်ရှိနေ၍၊ သူ့တပည့်မအတွက် လိုအင်ဆန္ဒ မှန်သမျှကို သူ့ဆရာမ သည် အချိန်ကုန်မခံဘဲ အလေသုံးဆယ် ဖြည့်စွက်ပေးခဲ့ သဖြင့် သူမတွင်ဝိဇ္ဇာပညာနည်းကျကျ လေ့လာမှုပြုရန် အချိန်မရ ခွန်အားမလို ဖြစ်ခဲ့ပေသည်၊

အချို့နည်းလမ်းများနှင့်ပတ်သတ်၍ ကံခကောင်း ဖြစ် သည်ဟု ဆိုရပေမည်။ဟယ်လင်ကယ်လာသည် လောရာ ဘရစ်ခ်မင်ထက်အစစအရာရာပိုမို၍အောင်မြင်လိမ့်မည်။ စိတ်ပါ ဝင်စားလိမ့်မည်ကို အစကထဲက မစ္စဆူလီဗင်မှာ သိရှိခဲ့ပြီးဖြစ်သည်။ မစ္စဆူလီဗင်သည် လိုအပ်လျှင်ရရန် သိမ်းဆည်းထားသော မိမိ၏မှတ်တမ်းများမှ စာတစောင် ကို ထုတ်နှုတ်ရေးသား ဖော်ပြထားပေသည်။ ၊သို့ရာတွင် မစ္စဆူလီဗင်သည် သူ့တပည့်မအား ကလေး၏ကြီးထွား ရင့်သန်မှုအသိဉာဏ်ကို အတူအညီမပေးသော လေ့လာ ခြင်းကိုရှင်း၍ တစုံတရာစမ်းသပ်ခြင်း အကြောင်းအရာကို

ဝှင်း၊ သင်ကြားစေခွပမဖြူသည့်နှင့်အမျှ စ်းသပ်မှုချက်
စိတ်ဓါတ် ပေါ်ပေါက်လာအောင်လဲ မကြိုးစား ခဲ့ပေ၊
အရာ ဝတ္ထု အကြောင်းအရာတခုကို ပြုလုပ်ပြီးစီးလျှင်
ပြီးစီးခြင်း သေချာသော ပန်းတိုင် တံတိုင်သို့ ဝင်ရောက်
ဖြတ်ကျော် သွားခဲ့သည်သာ ဖြစ်သည်။ ဆရာမကတော့
အမြဲဘဝစေ နောက်သို့ပြန်လည်ကြည့်ရှုခြင်းမရှိ၊ သူမရှေ့
ရှုချီတက်ရမည့် လမ်းကိုသာ ဖော်ပြခြင်း ပြုပေသည်။
အကြောင်းအရာအတွက် ရှင်းလင်းချက်ချာ ေးကြီး
သုတ်ပြာ အသိရှိခြင်းနှင့် ထိုလိုအပ်သည့် အကြောင်း
အရာ အချက်အလက်ကို နှိုင်းယှဉ်ရန်မှာ အရေးမကြီး
ကြောင်းကို ဖော်ပြ ပေသည်။ မစ္စဆူလီဗင်၏ မှတ်တမ်း
များ အဘယ်ကြောင့် ပြည့်ပြည့်စုံစုံ မရှိသည်မှာ အ
ကြောင်းနှစ်ချက် ရှိပါသည်။ ထိုအကြောင်း အရာ နှစ်
ချက်မှာ သူမ၏ မျက်လုံး များသည် စာ ရေး သား ရန်
ထာဝစဉ် ကြီးလေးသော တာဝန်တခုကို ထမ်းဆောင်
နေရသဖြင့် မှတ်သားချိန်မရခြင်း၊ရှေးဦးစွာမှတ်သားချက်
များ ရေးသားရန် တိတိကျကျ မရှိဘဲ အကြောင်းအရာ
တို့ကို ထုတ်ဝေဖြန့်ချီခြင်း၌ စောစောပိုင်းကာလက စိုး
ရွံ့မိခဲ့ခြင်း စသည်တို့ကြောင့် ဖြစ်ပါသည်။

သူမသည် ပဌမ ရှေးဦးစွာ တခွစ်ကမ်ဘီယာမှ နေ၍၊
သူ့တပည့်မ၏လုပ်ငန်းစဉ်အခြေအနေအလုပ်ဝတ္တရားကို
ပါကင်(စ်) မျက်မမြင်ကျောင်း အတွက် ဒါရိုက်တာလူ
ကြီးအဖြစ် စွမ်းစွမ်းတမန် ကြိုးစား ခဲ့ သူ ဒေါက် တာ

ဟောင်းစဲ၏သမက် မစ္စတာ မိုက်ကယ်လီ အနက်စ်နေ့စ် ထံသို့ စာတစောင် ရေးသားလိုက်ရာ၊ ရုတ်တရက် ချက် ခြင်း ဟယ်လင်ကယ်လာ၏ အကြောင်းအရာ အထုပ္ပတ္တိ များကို ဘော့စ်တွန်မြို့ထုတ် သတင်းစာအသီးသီး၌ ချဲ့ထွင် ရေးသားဖေါ်ပြခြင်း ပြုကြလေသည်။ မစ္စ ဆူလီဗင်က အပိုအမိုချဲ့ထွင်ထားချက်များကို ဖြေရှင်းကာကွယ် ပေးရ လေသည်။ ခရစ်သက္ကရာဇ် ၁၈၈၇–ခုနှစ်။ ဧပြီလ(၁၀) ရက်နေ့စွဲနှင့် စာတစောင်ကို သူမသည် ရက်သတ္တပါတ် (၅)ပါတ်မျှ ကြာပြီးနောက် ဟယ်လင်ကယ်လာ ထံသို့ ထွက်ခဲ့ခါ မိတ်ဆွေတဦးထံ ရေးသားပေးပို့ လိုက်လေ သည်။

'ဟယ်လင်ကယ်လာ အကြောင်း နှင့် ပတ်သက်၍ မဟုတ်မမှန် ရေးသားချက် အကြောင်းအရာတခု ပါဝင် သော 'ဘော့စ်တွန်ရှေ့ဆောင်' သတင်းစာတစောင်ကို ကျမထံသို့ ပေးပို့ပါ။ 'ဟယ်လင်'သည် စကားစမြီ ချောချောမောမောပြောရန်အသင့်ဖြစ်နေပြီဟု ရေးသား ခြင်းမှာ အဘယ်မျှလောက် အရူပ်ဆိုးအောင်မှားယွင်းနေ ပါသလဲ။ အဘယ်ကြောင့်တဦးတယောက် ပြောနိုင်သကဲ့ သို့ (၂)နှစ်ရွယ် ကလေးငယ်တဦးပြောသလို 'သစ်တော့ သီးပေးပါ' 'ကလေး လမ်းလျှောက် ထွက်သွား သည်' စသော အပြောအဆို အရေးအသားမျိုးကိုချောချောမော မော စကားပြောတတ် ရေးတတ်သည်ဟု ဖေါ်ပြထားရ ပါသလဲ။ အကယ်၍–ရှင်သည် သူ၏ ရေးသားချက်ထဲ၌

ချ်ဗန်ချဲခါ ကန်ကြော်ကျက်လိုက်သလို ငယ်သံပါအောင် စူးစူးရှရှအော်မြည်ခြင်း၊ တွန့်ကြူးခြင်း၊ဆယ်သံဟိမ်ကလေး နှင့် ငိုယိုခြင်း၊ ညီးတွားခြင်း၊ သီးထန်စွာ ငိုကြွေးခြင်း၊ စသည်များကို သရုပ်ဆောင်၍ ရေးသား ထားလေရာ၊ ထိုရေးသားချက်မှာ စကားကောင်းစွာ ပြောတတ်ပုံကို သက်ရောက်စေသည်—မသက်ရောက်စေသည် ဆိုခြင်းအ တွက် နိဂုံးချုပ် လေ့လာလျှင် ရှင်းလင်းသွားမည်ဟု ကျွမထင်ပါသည်။ ထို့အပြင် ကျွမအား ယုံကြည်အား ထားကြသော မိတ်ဆွေများ၏ အလုပ်ဝတ္တရားတာဝန်ကြီး အတွက် ကျွမ ဤသို့မျှသာ တပည့်တယောက်အား တတ် မြောက်အောင်သင်ကြားနိုင်သည်ထင်ကြလျှင် ဟယ်လင် ကယ်လာ စကားပြောပါပြီ ဆိုခြင်းမှာ ရယ်စရာဖြစ်နေ မည်မင်ဖြစ်ပါသည်။ မြင်ဆင်ရေးသားချက်တွင် စာလုံး ပေါင်းသင်ကြားနည်း မဖော်ပြခြင်းအတွက် ကျွမ-ဝမ်း နည်းဖူကျုံးမရ ဖြစ်မိပါသည်။ ဤအချက်ကို ဖော်ပြ လိုက်ပါမူ၊ ကြီးစွာသောဒုက္ခများမှ ကျွမအား ကယ်တင် ရာ ရောက်ပါလိမ့်ဦးမည်။

ခရစ်သက္ကရာဇ် ၁၈၈၈ ခုနှစ်၊မတ်လ ၄ရက်နေ့တွင် သူမသည် စာတစောင် ရေးသားပါသေးသည်။

'ဟယ်လင်ကယ်လာနှင့်ကျွမအကြောင်းကိုရေးသား သား ပြောကြားချက်များ အားလုံးကျွမ မသိရှိပါ။ဤစာ ကိုရေးရာ၌ အမှန်ပင်အရူးထိုက်သဲလှုပ်ကိုက် ကျွမဝမ်းမြောက် ကျေနပ်မိပါသည်။ ကျွမအကြောင်းစုံ ကောင်းစွာ သိရှိ

ပြီဖြစ်ကြောင်းကို ရှင့်ထံသိစေပါသည်။ စာပို့တိုက်တိုင်း လိုလိုပင် မှားယွင်းသော အကြောင်းအရာများ အချို့ကို ပုံနှိပ်စာလုံးနှင့်ဖြစ်စေ၊ လက်ရေးနှင့် ဖြစ်စေ သယ်ယူပို့ဆောင်ပေးခဲ့ကြပါသည်။ အမှန် အကြောင်းအရာကို သသတင်းစာများထံသို့ လုံလုံလောက်လောက် ရောက်ရှိသွားခြင်းမှာ အံ့ဩစရာမဟုတ်ပါ။ ထိုကြောင့်သူတို့သည် ရောက်ရှိလာသော သတင်းကို ချဲ့ထွင်၍ အမှား အယွင်းတန်ဆာဆင်ကာ စည်ထွင်ရေးသားခြင်းပြုကြပေသည်။ သတင်းစာ တစောင်ကမူ ဟယ်လင်ကယ်လာသည် က စားစရာပုံကားများဖြင့် ဂဲဩမေထရီကိုသင်သေသဏ္ဍာသာ ထုတ်၍ ပုံပြ နိုင်သည်ဟု ရေးသား ထားသေးသည်။ နောက်တကြိမ် သူမသည် သူမသည် နက္ခတ်တာရာများ၏ အနာဂါတ် ဖြစ်ပေါ်ရေး နိမိတ်နှင့် အစပြုရာ အကြောင်းအချက်တို့ပင် ရေးသားတတ်ပြီဟု ဖေါ်ပြမည့်ကို ကြားရရန် ကျမမျှော်လင့်မိပါသည်။

ခရစ်သက္ကရာဇ် ၁၈၈၇ ခုနှစ်၊ ဒီဇင်ဘာလထဲတွင် ဟယ်လင်ကယ်လာပညာသင်ကြားရာပါကင်စ်ကျောင်း၏ ဒါရိုက်တာထံမှ ပဌမဆုံး ထုတ်ပြန်ချက် ပေါ်ထွက်လာလေသည်။ ၎င်းထုတ်ပြန်ချက်နှင့်ပတ်သက်၍ မစ္စဆူလီဗင်သည် သူမ၏အလုပ်ပတ္တရားအတွက် မှတ်တာအနက်စ်နေ့စဉ်၏တောင်းပန်ချက်ကို လိုက်လျောကာ စိတ်မပါလှဘဲ ပြင်ဆင်ရတော့သည်။ ၎င်းအချက်မှာ ထုတ်ပြန်ချက်ကို အစအဆုံးလေ့လာရင်း သူမ၏စာများထဲမှ ထုတ်နုတ်ခ၊

ဖာယ်လင်ကာယ်လာ အကြောင်းနှင့် ပတ်သက်၍ ခိုင်လုံသော ပဋ္ဌမဦးဆုံး အကြောင်းရင်းပင်ဖြစ်ပေသည်။ ၅ျ ထုတ်ပြန်ချက်ကြောင့် မစ္စဆူလီဗင်သည် ၁၈၈၇ ခုနှစ် အောက်တိုဘာလ ၃၀ ရက်နေ့စွဲနှင့် စာတစောင် ရေးလိုက်လေသည်။

'ထုတ်ပြန်ချက်နှင့်ပတ်သက်၍ သတင်းစာတွင် ကျမရေးလိုက် သည့်ကို ၅င်တွေ့မြင် ပါရဲ့လား။ မစ္စတာ အနက်စ်နော့စ်မှာ ထိုသို့ရေးသားလိုက်ခြင်းအတွက်ဝမ်းမြောက်ကြည်နူးနေပါသည်။ သူထုတ်ပြန်ချက် အဆိုအရ ဟာယ်လင်၏ တိုးတက်မှုသည် အစကထဲက အောင်မြင်ခြင်း လမ်းကြောင်းပေါ်တွင် ရောက်ခဲ့ပြီးဖြစ်သည်။ သူ့တွင် ဟာယ်လင်၏ဆရာမအကြောင်းနှင့်ပတ်သက်၍ ပြောပြချန် ချီးမွမ်းစရာတွေအများကြီးရှိသည်ဟု ဖေါ်ပြထားပါသည်။ သူသည်လဲ ခွဲ့ဘွင်ရေးဘက်သို့ တိမ်းစောင်းနေသည်ဟု ကျမထင်ပါသည်။အားလုံးသော အဖြစ်အပျက်များ၌သူ့အရေးအသားသည်လွန်စွာတောက်ပြောင်လျှက်ရှိပေသည်။ရိုးသားသော အကြောင်းအရာများမှာ ဤကဲ့သို့ရေးသားလိုက်ခြင်း အားဖြင့် သူတို့တတွေ အဘို့ တခုခုတွင် ထင်ယောင်ထင်မှားနှင့် စိတ်ရှုပ်ထွေးသွားစေပါသည်။ လွန်ခဲ့သောလအနည်းငယ်ခန့်က သံသယကင်းရှင်းခဲ့သည့်အလုပ်မှာ သူ့အတွက်အောင်မြင်ခြင်း လမ်းမပေါ်သို့ ရောက်စေဟန်သဏ္ဍာန်တူပါသည်။ သို့ရာတွင် လူများက အခါတရံသော် အမ်ပြဿါယ်မရှိဆုံး အောင်မြင်

ခြင်းဖြင့် ပြီးစီးအောင် ပြုလုပ်သည့် ဝေဒနာလှေခါးထစ်များပေါ်သို့ ရပ်တန့်နေသည်ဟုမြင်ကြသည်’။

မစ္စတာအနက်စ်နေ့စ်မှာ မျက်မမြင်ကျောင်းကြီး တကျောင်း၏ ကျောင်းအုပ်ကြီးလည်း ဖြစ်လာ၍ သူပြောသမျှစကားများထဲတွင် အခြေခံ ဖေါ်ပြချက်များမှာ မစ္စဆူလီဗင်၏ရေးသားချက် အကြောင်းအရာများထက် ပိုမို၍ ရှုးရှထက်မျက်အောင် ပြောလေ့ပြောထရှိတော့သည့် သတင်းစာများသည် မစ္စတာအနက်စ်နေ့စ်၏ အာဘော်ကိုမှီကာ အကြောင်းတရာလောက် ချွဲတွင် ရေးသားခြင်း ပြုကြလေသည်။ မစ္စဆူလီဗင်သည် သူ့တပည့်မ ဟယ်လင်ကယ်လာထံသို့ထွက်လာခဲ့ပြီး နောက်တနှစ် မှာပင် သူ့တပည့်မမှာ အံ့ဘွယ်သရဲဖြစ်သော ပုံသဏ္ဍာန်တခု၏ အလည်ဗဟိုရှိသို့ရောက်ရှိနေတော့ကြောင်းကို တွေ့ရပေသည်။ ထိုနောက် ကမ္ဘာပေါ်ရှိ ပညာရှင်အားလုံးသည် အရေးကိစ္စများအတွက်အစိပ်အပိုင်းတိုင်းလောက်နီးနီး အကူအညီ မပေးခဲ့ကြကြောင်းကို ပြောဆိုကြတော့သည်။ လူအစုအဖွဲ့နှင့် အချေအတင် ငြင်းခုန် စကားပြောခြင်းကိစ္စမှာ ကျယ်ပြန့်များပြားလာသည်နှင့်အမျှ ယခုအချိန်၌ ဘတ်ရှုရန် ပျော်ရွှင်ကြည်နူးဘွယ်ရာဖြစ်နေပါသည်။ နားငင်းသူ၏ ဆရာ ဆရာမများသည်။ မလုပ်နိုင်သောကိစ္စကို ဘာကြောင့်မစ္စဆူလီဗင်က လုပ်နိုင်နေသည်ကို ဦးစားပေးသည့်စံပြအနေနှင့် သက်သေပြကြသည်။ မယုံကြည်သူ အချို့က သူမ၏ဖေါ်ပြချက်များကို ပြန်လည်စဉ်းစား

ကြသည်။ အကြောင်းမှာ မစ္စတာ အနက်စ်နေ့စ်၏ မတင်မကျ စကားပြောခြင်းက ပတ်ဝန်းကျင်တွင် သိုင်း ဝိုင်းနေသောကြောင့်ဖြစ်ပါသည်။ သို့အတွက် ဟယ်လင် ကယ်လာ၏အကြောင်းအရာ အထုပ္ပတ္တိမှာ အသင့်အတင့် ပြောပြရုံမျှနှင့် မယုံကြည်စရာ ဖြစ်နေပေသည်။ ချဲ့ထွင် ကြေငြာချက်များက ကံမကောင်းအကြောင်းမလှအောင် ပွဲဦးထွက်စေသည်။ ၎င်းပြင် သဘာဝအားဖြင့် နှိုင်းချိန် မှုမရှိသော မယုံကြည်ချက်ရော မယုံကြည် နိုင်စရာဆန့် ကျင်ဘက်အဖြစ်အပျက်များပါရောယှက်နေပေသည်။

၁၈၈၈–ခုနှစ် နိုဝင်ဘာလတွင် မစ္စဆူလီဗင်၏ ဒုတိ ယ အကြိမ်ထုတ်ပြန်ချက် တစောင်နှင့်အတူ ပါကင်စ် ကျောင်းမှ ကြေငြာချက်တစောင် ထွက်ပေါ်လာသော် လည်း ၁၈၉၁ ခုနှစ် နိုဝင်ဘာလသို့ ရောက်လာသည် တိုင်အောင် မစ္စတာအနက်စ်နေ့စ်က ဟယ်လင်ကယ် လာအကြောင်းနှင့် ပတ်သက်၍ ပါကင်စ် ကျောင်း၏ နောက်ဆုံး အကြောင်းကြားချက်တရပ် ထုတ်ပြန်လိုက် သည့်အချိန်အထိ၊ မည်သည့်အရာရှိ အရာခံ သက်ဆိုင် ရာ ပုဂ္ဂိုလ်များကမှ ထုတ်ဖော်ရေးသားခြင်း မပြုကြ စေ့ချေ၊ ဤထုတ်ပြန်ချက်၌ မစ္စဆူလီဗင်က ဟယ်လင် ကယ်လာမှာ စာပေ ရေးသား စိတ်ကူးတတ်ကြောင်းကို အပြည့်စုံ အကျယ်ပြန့်ဆုံး ရေးသားလိုက်ပါသည်။ ဤ ထုတ်ပြန်ချက်ထဲတွင် နောက် အခက်းတခက်း၌ ပြည့် ပြည့်စုံစုံ ဆွေးနွေးထားသော 'ဆီနှင်းဘုရင်' အကြောင်း

ကိုပါ ဖော်ပြထားသေးသည်။ ထို့နောက် အချေအတင် ဆွေးနွေးချက်မှာ အခါတိုင်းထက် ပိုမိုတိုးတက်လာပေတော့သည်။

သတ္တုချ၍ စိစစ်လျှင် အခြားလူများမှာ ဟယ်လင်ကယ်လာ၏ အကြောင်းကို သူမရေးသည်ထက် ပိုမို၍ များများစားစား သိလိုကြဟန်တူပါသည်။ မစ္စဆူလီဗင်မှာ ဟယ်လင်ကယ်လာ၏ ပဌမဆုံးတိုးတက်မှုကို သတင်းစာတွင် ရေးသားခြင်းမှတပါး ၁၀ နှစ်လုံးလုံးငြိမ်သက်နေခဲ့ပေသည်။ ထိုသတင်းစာ၌ရေးသားချက်မှာ ဒေါက်တာဘဲလ်၏တောင်းပန်မှုကြောင့် ၁၈၉၄ ခုနှစ်တွင်နားမကြားသူများအား စကားပြောသင်ကြားပေးရေး တိုးတက်မှု အမေရိကန်အသင်း 'ချောင်တောကွာယာ' အစည်းအဝေးအတွက် ပြင်ဆင်မှုရှိရန် ရေးသားသိုက်ခြင်းဖြစ်ပါသည်။ ဒေါက်တာဘဲလ်နှင့် အခြားပုဂ္ဂိုလ်များက လူတယောက်အား ကိုယ်ချင်းစာမတတ်သူ၏ အမြင်တရပ်တွင် တိတိကျကျဘူး၍ မည်သို့သော အမှန်ဖြစ်စဉ်ကို ရှင်းပြမည်လဲဟု မေးကြသောအခါ။ သူမ သိရှိသမျှ ပညာသင်ကြားရေး အကြောင်းကို ရေးသားရန် တာဝန်ရှိပါသည်ဟု ဆိုသည်။ သူမှာသည် သူမ၏ တပည့်မအတွက် စိတ်အားထက်သန်ချက် အားလုံးနှင့် အချိန်ကာလ အားလုံးကိုလဲ ဖော်ပြရန် တာဝန် ကျန် သေးကြောင်း အနူးအညွတ်ဖြေဆိုခြင်းပြုပါသည်။

မစ္စဆူလီဗင်သည် မိမိနှင့်မစ္စကယ်လာတို့အကြောင်း

ကိုရေးသားထားသောလွှမှားချက်များအား သူမ၏ မိတ်ဆွေ တဦးတယောက်က မေးမြန်းချိန်၌ ပူဆွေးဒုက္ခဖြစ်နေခြင်းထက် ပျော်ပျော်ရွှင်ရွှင် ရှိသလို မစ္စကယ်လာ၏ စာအုပ်တွင် ယခုအချိန်၌ ဆရာမသည်သာ ပြီးစီးအောင် ပြုလုပ်နိုင်ကြောင်းဖော်ပြရေးသားထားမှု ပါဝင်ခြင်းကို တွေ့မြင်ရသည့်အချိန်၌လဲ ကြည်နူး နှစ်သိမ့်နေပါသည်။ ထိုကြောင့် သူမသည်တပည့်မအားသင်ကြားပေးခဲ့သော ပဉ္စမ နှစ်ကာလအတွင်းက သူမရေးသားခဲ့သည့် စာများမှ ကောက်နှုပ်ဖော်ပြထုတ်ဝေရန်သဘောတူညီခြင်း ဖြစ်လေသည်။ ဤစာများမှာ မစ္စက် ဆိုဖိယာ–စီ–ဟော့ပ်ကင်စ် ထံသို့ မစ္စဆူလိဗင်က ထာဝစဉ် လွတ်လွတ်လပ်လပ် ရေးလေ့ရှိသည့်အတိုင်း ရေးသား ပေးပို့သောစာများဖြစ်ပါသည်။ မစ္စက်ဟော့ပ်ကင်စ်သည် အနှစ် ၂၀ လုံးလုံး ပါကင်စ် မျက်မမြင် စာသင်ကျောင်းတွင် အမျိုးသမီး အုပ်ချုပ်ရေးမှူးတဦးခဲ့၍ ထိုအချိန်ကာလ အတွင်းက မစ္စဆူလိဗင်မှာ ကျောင်းသူမတဦး ဖြစ်ရာ မစ္စက်ဟော့ပ်ကင်စ်အား မိခင်တယောက်ကဲ့သို့ဆက်ဆံရင်းနှီးမှုရှိခဲ့ပေသည်။

ဤစာများထဲတွင် ကျွန်ုပ်တို့သည် မစ္စဆူလိဗင်၏ အလုပ်တာဝန်မှတ်တမ်းကို ရက်တပါတ်လောက်နီးနီး ရေးသားချက်များ တွေ့ရှိရပေသည်။ အချို့အဝက် အသေးစိပ်များကိုမူ– သူမ သည်လဲ မေ့လျော့ နေတော့သည်။ သူမသည် တနေ့ထက်တနေ့ အသက်အရွယ် ကြီးရင့်လာ

ပေပြီး မြောက်များစွာသော လူတို့က သူမ၏စာပေပို့ချ သင်ကြားနည်းမှာ နောက် အချိန်တွင် သူမ၏ လုပ်ငန်းစဉ်အတိုင်း စာစီ စာကုံးနည်း တရပ် ဖြစ်ခြင်းမှ တပါး တခြားအဓိကအချက်အလက်များသိရှိရေးအတွက် ရှာဖွေ ကြိုးစားအားထုတ်ရန်မလိုဟု တွေးထင်ကြပေသည်။ သို့ရာတွင် သက်သေခံ တချက်မှာ ဤစာများထဲ၌ သူမသည် မိမိဘာလုပ်ခဲ့ကြောင်းကို တိကျပြတ်သားစွာ အမှတ်တရအဖြစ် လေးလေး နက်နက် ရေးသားထားပေသည်။ သူမတွင် ကိုယ်တိုင်ဝေဖန်ချက်ရှိသည်၊ နောက်ကျစွာထုတ်ဖော် ကြေငြာခြင်း ပြုမှုအစား သူမ၏ မရဲဝန့်ဝန့် မသေချာ ချက် ကြောင့် တိတိကျကျ နည်း နာနိသျည်း နောက် သို့ မှ လိုက် ဘဲ၊ သူ မ သည် အ ဘိုးအ နှ ထိုက် တန် သော ပ ညာ သင် ကြား ရေး အ ဓိက အ ချက် အ လက် များကို အချိန်မကုန်စေဘဲ ဝါကျပြုလုပ်ခြင်းနှင့် သူမ၏စာပေသင်ကြားပို့ချမှုမှ အလွန်တရာ ရှင်းလင်းပြတ်သားစွာ သင်ကြားရေးတွင် မျက်မမြင်များကိုသာမက ကလေးသူငယ်များ အားလုံးသို့ သင်ကြားသကဲ့သို့ သင်ကြားပေး ပေသည်။ သူမ၏စာချွန်းနှင့် အရေးကြီးသော စာပေသင်ကြားနည်း ပါဝင်သည့် ဝေဌချက်တစောင် ထုတ်ဖော်ချက် ပုံစံများမှ ကောက်နုတ်လျက် ဟော့ ပ် ကင် စ် ယူနီဗာစီတီ၏ ဥ က္က ဋ္ဌ ဖြစ်သော ဒေါက်တာ ဒင်နီးယဲလ် ကျွန်း စ် ဗိဂင်း လ် မင်၏ အကြံဉာဏ်များနှင့်နှိုင်းယှဉ်ကာ ရေးသားခြင်းဖြစ်သည်။

ဒေါက်တာဒင်နီယဲလ် စီးဂင်းလ်မင်မှ ၁၈၉၃ ခုနှစ်တွင် စာတစောင် ရေးသားခဲ့ပေသည်။

'ကျွန်ုပ်သည် ယခုတွင်ပင် သင်၏ အံ့ဘွယ် ကောင်းသော တပည့်မ၏ပညာရေးအတွက် အထူးထူး အပြားပြား စိတ်ဝင်စားစရာကောင်းဆုံး သင်ကြားချက်များကို ဘတ်ရှုခဲ့ပေသည်။ သင်၏တပည့်များအား အာရုံဝင်စားစေသော စိတ်ဓါတ်ဆွဲဆောင်ချက်နှင့် ညွှန်ပြသည့် သင်၏ သင်ကြားနည်း ထူးချွန်မှုအတွက် ကျွန်ုပ်ချီးကြူးချက်ကို ဖေါ်ပြရန် သင်ခွင့်ပြုလိမ့်မည်ဟု ကျွန်ုပ် မြော်လင့်ပါသည်။

မစ္စအင်နီမင် စ် ဖီး လ် ဆာလီဗင်သည် မာဆာချူဆက်နယ်စဗရင်း ဖီလ် မြို့၌ မွေးဖွားသည်။ သူမဘဝ၏အလွန်စောစွာသော အချိန်ကာလက သူမသည် စုံလုံးကန်းလုနီးနီးဖြစ်ခဲ့ပေသည်။ သူမအသက် (၁၄) နှစ်သို့အရွယ်တွင် ခရစ်သက္ကရာဇ် ၁၈၈၀ ခုနှစ် အောက်တိုဘာလ ၇–ရက်နေ့၌ သူမသည် ပါကင် စ် ကျောင်းသို့ ဝင်ရောက်၍ ပညာသင်ကြား ခဲ့လေသည်။ နောက်မကြာမီ သူမသည် တဝက်တပျက်နှင့် အလင်း ရောင်ခြည် ပြန်လည်ရရှိခဲ့ခြင်းဖြစ်ပေသည်။

မစ္စတာအနက် စ် နော့ စ် က သူ၏ ၁၈၈၇ ခုနှစ် အစီရင်ခံစာတွင် ဤသို့ဖေါ်ပြထားလေသည်။

'သူမသည် အောက်ဆုံးတန်းနှင့်အခြေခံသင်တန်းများတွင် သူမ၏ပညာရေးကိုစတင်သင်ကြားရန် ဝမ်းမြောက်

ပျော်မွေ့ရှင်ခဲ့လေသည်။ သို့ရာတွင် သူမသည် အောင်မြင်မှုအတွက် သေချာသော အတိုင်းအတွာနှင့် အင်းအားစုကို သူမကိုယ်တိုင် ရရှိအောင် စတင် ကြိုးစားကြောင်းဖော်ပြခဲ့ပေသည်။ သူမသည် အလွန်တရာ ရဲရဲရင့်ရင့်နှင့် ကြိုးစားအားထုတ်ခြင်းကြောင့် နောက်ဆုံးသော်ပန်းတိုင်သို့ ရောက်ရှိခဲ့ပေသည်။ ဒေါက်တာ ဟောင်းစဲသည် အသုံးဝင်သော လမ်းမပေါ်ဝယ် သူမကို ကူညီရင်း သူမ၏အသဲနှစ်လုံးနှင့် အတွေးအခေါ် များထဲသို့ဖြတ်သန်းထွက်ခွါခဲ့ကာ ဥပမာ ဥပမေယျ ထုတ်လျက်ကြွယ်ဝသော စကားလုံးများဖြင့် မြွက်ကြားခဲ့လေသည်။ ယခုအချိန်၌သူမသည် သူ၏ တန်ဘိုးရှိသော အောင်မြင်သူကဲ့သို့ ဘေးမှ ရပ်တည်လျက် သူ့လုပ်ငန်း၏ မြတ်နိုးဘွယ်ရာ အကောင်းဆုံး အကိုင်းအခက်တခု ဖြစ်လာပေသည်။ မစ္စဆူလီဗင်၏ ဉာဏ်ထက်မြက်မှု များကား အမြင့်ဆုံးအဆင့်တွင် ရောက်ရှိခဲ့ပေသည်။

၁၈၈၆–ခုနှစ်တွင် သူမသည် ပါကင် စ် ကျောင်းမှပညာရှင်တဦး ဖြစ်လာလေသည်။ ကပ္ပတိန် ကာယ်လာသည် ဆရာ တယောက် အဖြစ် တာဝန် ထမ်း ရွက်ရန်ဒါရိုက်တာအဖွဲ့သို့ လျှောက်လွှာတင်သောအခါ၊ မစ္စတာအနက်စ်နေဂ္ဂစ်မှာ သူမအား ထောက်ခံလိုက်လေသည်။ ကပ္ပတိန်ကာယ်လာက ၁၈၈၇–ခုနှစ် ဖေဖေါ်ဝါရီလတွင် စာရေးသားလိုက်သောအခါ၊ သူမသည် ၁၈၈၆–ခုနှစ်ဩဂုတ်လမှစ၍၊ သူမ၏ တပည့်အတွက် အလုပ်ဝတ္တရား

ဆောင်ရွက်ရန် သူမကိုယ်တိုင် ပြင်ဆင်ရသည့် အချိန်မှာ ထိုနေ့ထိုရက်သာ ဖြစ်လေသည်။ ဤအချိန်အတွင်း သူမသည် ဒေါက်တာဟောင်းစဲ၏ အစီရင်ခံလွှာကို ဘတ်ရှုခဲ့လေသည်။ သူမသည် လောရာဘရစ်ဒ်မင်နှင့် အိမ်ထဲတွင် အတူနေထိုင်ခဲ့ရသည့်(၆)နှစ်ကာလ၏ ကျောင်းသူမဘဝ အတွင်း အဖြစ်အပျက် အကြောင်းအရာများက သူမအား ဆက်လက်၍ အကူအညီပေးခဲ့လေသည်။ သူ့အလုပ် စတ္တရားကို လောရာဘရစ်ဒ်မင်နှင့်အတူ လုပ်ကိုင်ခဲ့သော ဒေါက်တာဟောင်းစဲသည်ပင် မစ္စဆူလီဗင်၏ လုပ်ငန်းကို ဖြစ်နိုင်သမျှ လုပ်ကိုင်ပြီးစီးအောင် ဆောင်ရွက်ပေးခဲ့လေသည်။ သို့ရာတွင် မျက်မမြင်များအား သင်ကြားရန် နည်းလမ်းရှာဖွေတွေ့ရှိခဲ့သော မစ္စဆူလီဗင်မှာ သူမတဦးတည်းသာ ဖြစ်ခဲ့လေသည်။

မစ္စဆူလီဗင်သည် သူမ၏ပြဿနာအခက်အခဲများကို ရှင်းလင်းရန် လွန်ခဲ့သော အတွေ့အကြုံများ အားဖြင့်၎င်း၊ အခြားတစုံတယောက်သောဆရာဆရာမအားဖြင့်၎င်း၊အကူအညီမယူဘဲ ဖြေရှင်းခဲ့သည်ကို သတိချရှိမည် ဖြစ်ပေသည်။ ဟယ်လင်ကယ်လာနှင့် အတူ နေထိုင်ခဲ့ရသော ပညာသင်ကြားရေး၏ ဂဠုမနှစ် ကာလအတွင်းဝယ် သူ့ တပည့်မအားပညာသင်ကြားပေးချိန်၌သူတို့သည် တခုစ် ကမ်ဘီယာတွင် နေထိုင်ကြလေသည်။ သူတို့သည်မြောက် ပိုင်းသို့ ရောက်ရှိလာသောအခါ၊ ပါကင်စ်ကျောင်းသို့ အလည်အပတ် သွားခဲ့ကြပါသည်။ ဟယ်လင်ကယ်လာ

သည် ကျောင်းစည်းကမ်း ဥပဒေအရ ရေးဆွဲထားသော အကြောင်းအရာကိုရင်း။ ကျောင်းသူတယောက်၏ မှန်ကန်သည့် စာပေသင်ကြားနည်းကိုရင်း။ ဘယ်တော့မျှ လိုက်လျောခြင်းမပြုခဲ့ချေ။ ဟယ်လင်ကယ်လာအား မစ္စတာ အနက်စ်နေ့ဝစ်၏ ညွှန်ကြားချက်အောက်ဝယ် ပညာတတ်မြောက်အောင် သင်ကြား ခဲ့သော မစ္စဆူလီဗင်၏ ဖေါ်ပြချက်မှာ မှားယွင်းခဲ့ပေသည်။ အထူးထူး အပြားပြားသော အချိန်ကာလများ၏ (၃) နှစ်အတွင်း မစ္စကယ်လာနှင့် မစ္စဆူလီဗင် တို့သည် ပါကင်စ် ကျောင်း၏ ဧည့်သည်တော်များ ဖြစ်ကြလေသည်။ ဆရာ–ဆရာမ များသည် မစ္စဆူလီဗင်အား အကူအညီ မပေးခဲ့ကြချေ။ မစ္စတာ အနက်စ်နေ့ဝစ်သည်လဲ စာပေဆက်သွယ်သင်ကြားနည်းတွင် လွယ်လင့်တကူဖြစ်အောင် အက္ခရာရေးပုံရေးနည်းကို အသုံးမပြုခဲ့ပေ။ ၁၈၈၈–ခုနှစ်။ နိုဝင်ဘာလ ၂၇–ရက်နေ့စွဲနှင့် ရေးသားသော မစ္စတာ အနက်စ်နေ့ဝစ်၏ ပါကင်စ် ကျောင်း အစီရင်ခံစာတွင် ဤသို့ဖေါ်ပြထားလေသည်။

ကျွန်ုပ်၏ အဆော တလျင် တောင်း ဆို ချက် ကြောင့် ဟယ်လင်သည် သူမ–မိခင်၊ သူမ–ဆရာမတို့နှင့် အတူ မြောက်ပိုင်းသို့လိုက်ပါခဲ့၍ မေလ နောက်ဆုံး ရက်ပါတ်ထိုင်အောင် ကျွန်ုပ်တို့နှင့်အတူ ကျွန်ုပ်တို့၏ ဧည့်သည်များအဖြစ် လပေါင်းများစွာ နေထိုင်ခဲ့ပေသည်။ ကျွန်ုပ်တို့သည် ဟယ်လင်အား ကျွန်ုပ်တို့၏ ဖေါင်းကြွစာသင်

ရိုက် စာအုပ်များထားသော စာကြည့်တိုက်၊ ကျွန်ုပ်တို့
စုဆောင်းထားသောတိရစ္ဆာန်များ၊ ပင်လယ်ခရု-ယောက်
သွားခွံများ ပန်းများနှင့် သစ်ပင်ငယ် ကလေး များ၏
ပုံသဏ္ဍာန် အမျိုးမျိုး နှင့် မျက် မ မြင် များအား ထိတွေ့
စမ်းသပ်မှုအားဖြင့် အဆန်းဇာကျယ် သင်ကြား ပေးရန်
အရာဝတ္ထု များကို ဝမ်းမြောက်စွာနှင့် လွတ်လွတ်လပ်
လပ် အသုံးပြုခွင့်ပေးခဲ့ပါသည်။ သူမသည် အနည်းငယ်
မျှသော ကျေးဇူးတရားကလေး ကိုမျှ မငဲ့ညှာဘဲ ပျော်
ရွှင် ကြည်နူးခြင်းအပြည့်နှင့် ထိုထိုသော ဗဟုသုတများ
မှ အသိဉာဏ်တိုးတက် ရရှိခဲ့သည်ကို ကျွန်ုပ်သံသယမရှိ
ပါ။ သို့ရာတွင် ဟယ်လင်သည် အိမ်မှာနေထိုင်သည် ဖြစ်
စေ၊ အခြားတိုင်းပြည် ကျေးလက်တောရွာ အသီးသီးသို့
အလည်အပတ် သွားသည် ဖြစ်စေ။ သူမ၏ ပညာအရည်
အချင်းမှာ သူ့ဆရာမ၏ သွက်လက်သော စီမံအုပ်ချုပ်
မှု စာပေသင်ပြညွှန်ကြားမှုအောက်ဝယ်။ ထာဝစဉ်ချော
မော ဖြောင့်ဖြူးခဲ့လေသည်။ မစ္စဆူလီဗင်၏အကြံအစည်
များကိုသော်၎င်း-လေ့ကျက်ရန်စာများ၏ဝေစုမျှတမှုကို
သော်၎င်း တဦးတယောက်ကမျှ အနှောင့် အရှက် မပေး
ကြပါ။ သူမသည် သူမ၏ကြီးကျယ်သော လုပ်ငန်းကြီးကို
ဆက်လက်ဆောင်ရွက်ရန်အတွက် နည်းနာနိသျည်း များ
ကို စိတ်တိုင်းကျ လွတ်လပ်စွာရွေးချယ်ခွင့်ရရှိခဲ့ပေသည်။
ပေါ်ထွက်လာသော ကျေးဇူးတရားအဖြေများကို ကျွန်ုပ်
တို့ ချင့်ချိန်ကြည့်ရှုရာ၌ သူမသည် ဤအခွင့် အရေးတွင်

အသံနေအသံထားမှန်မမှန် စမ်းသပ်သုံးစွဲရန် အချင့်ချိန်နိုင် ဆုံးဖြစ်ခဲ့ပါသည်။ ဤကဲ့သို့သော တပည့်မကလေးက လူ သိများအောင် ဘာကြောင့်များ ကြာဝေးသော အချိန်ကာ လအတွင်း အောင်မြင်ပြီးစီးအောင် စွမ်းဆောင် နိုင်ဘိသ နည်း။ သူမ၏ အံ့ဩဘွယ်ရာ ကောင်းသော အလိုပြည့်မှု များအတွက် အထွေထွေ ချီ ကြူး ထောပ နာ ပြု ကြ ပေသည်။ သို့ရာတွင် ခန့်ခန့်ငြားငြားပြီးဆုံးအောင်မြင်မှု ကို တိတိကျကျသိသော လူများကမူ ဉာဏ်ပညာ ထက် သန်မှု၊ ပညာကျွယ်ဝမှု၊ ထိုးထွင်းဉာဏ်ရှိမှု တာဝန် မလွှဲ သောကြိုးပန်းမှု၊ သင်ကြားသူ ဆရာမ၏ ဆန္ဒအတိုင်း ကွေ့ကောက် ယိမ်းယိုင်ခြင်းမရှိမှု စသည်တို့ကို ထာဝရ တည်မြဲလျက်ရှိသတိုကလေး ဘဝမှ ကယ်ဘင်ကာ သူမ ၏ စိတ်ဓါတ်ပြင်းထန်၍ စိတ်ပါဝင်စားစွာသစ္စာအဓိဋ္ဌာန် ပြုပြီး လူချင်းတူတူ သူချင်းမျှမျှ တိုးတက် လာပုံ အလုံးစုံ ပင် အခြေအနေအမျိုးမျိုးအစားစားဟူသမျှ စောင့်ဆိုင်း ကြည့်ရှုနေခဲ့ကြလေသည်။

ဤနေရာတွင် မစ္စဆူလီဗင်၏ စာများအတိုင်းသိရ၍၊ အစီရင်ခံစာများမှ အရေးအကြီးဆုံး အချက်အလက်များ ကိုသာ ဖော်ပြခြင်းပြုပါသည်။ ကျွန်ုပ်သည်ဘာမံဖော် ပြရန်မလိုသော ရှင်းလင်းဖော်ပြပြီးဖြစ်သည့် အောင်မြင် မှုအစီရင်ခံစာအသီးသီးမှ အချို့အဝက်ကိုချွင်းချန်ထားခဲ့ ပါသည်။ကျွန်ုပ်သည်စာဘတ်သူများလွယ်ကူရန်အတွက် မစ္စဆူလီဗင်၏ သဘောတူညီချက်အရ ဝါကျဖွဲ့နည်းနှ

လိုအပ်ချက်များကိုသာ ပြောင်းလွှဲ၍ တဆက်တည်းဆက် စပ်လျက်ရှိသော အကြောင်းအရာတို့မှ ထုတ်နုတ်ဖော်ပြ ခြင်းပြုပါသည်။ မစ္စဆူလီဗင်သည် သူမ၏အစီရင်ခံစာမှ ဝါကျများကို အနည်းငယ် ပြုပြင်ကာ အမှုမဲ့အမှတ်မဲ့ ရေးသားလိုက်သော စာများကိုလဲပြင်ဆင်၍ ရေးသားခဲ့ ပါသည်။ ကျွန်ုပ်သည်လဲ အနည်းငယ်အရေးကြီးသည့် အချက်အလက်များကိုသာ ဖော်ပြလိုက်ပါသည်။ မစ္စ ဆူလီဗင်သည် သူမ၏အကြံဉာဏ်များကို ပြန်လှန်ဆန်း စစ်၍၊ ချဲ့တွင် ရေးသားလိုပါသည်။ ယင်းသို့ ပြုလုပ်ရန် အတွက် နောက်တချိန်ကို သတ်မှတ်ထားရသည်။ ယခု လောလောဆယ်မှာကျွန်ုပ်တို့သည်အပြည့်စုံဆုံးမှတ်သား ချက်များ ရရှိနေပြီဖြစ်၍ ရေးသားဖြန့်ချိထုတ်ဝေသမှုပြု လိုက်ပါသည်။ ပဋ္ဌမဦးဆုံးစာမှာ သူမ–တာ့စ်ကမ်ဘီယာ သို့ ရောက်ရှိပြီး(၃)ရက်အကြာ ၁၈၈၇–ခုနှစ်။ မတ်လ (၆)ရက် နေ့စွဲဖြင့် ရေးသားထားခြင်းဖြစ်ပါသည်။

'ကျမ' တာ့စ်ကမ်ဘီယာသို့' ရောက်သော အခါ၊ ၆–နာရီ ၃၀–မိနစ် ရှိလေပြီ၊ ကျမအား စောင့်ကြိုနေကြ သော မစ္စကက်ကယ်လာနှင့် မစ္စတာကျိမ်းစ် ကယ်လာတို့ကို ကျမ တွေ့ရှိရပါသည်။ သူတို့သည် (၂) ရက်လောက်က မီရထားတိုင်းတွင် တွေ့ကြရသော လူတဦးတယောက် အကြောင်းကို ပြောဆိုနေကြပါသည်။ ဘူတာရုံမှ အိမ် သို့ သွားရာ ခရီးလမ်းမှာ တမိုင်လောက် ဝေး၍ လမ်းတ လျှောက်လုံး အလွန်လှပသော နားနေရန် စခမ်းများကို

တွေ့ရပါသည်။ ကျွန်မထက်ပိုရို၍ အသက်မကြီးသေးဟု ထင်ရသော အလွန်ငယ်ရွယ်နုပျိုနေသည့် အမျိုးသမီးတဦး ဖြစ်သူ မစ္စက်ကယ်လာကို တွေ့ရှိရသဖြင့် ကျွန်မအံ့သြမိပါ သည်။ ကပ္ပတိန် ကယ်လာက ကျွန်မတို့အား ကွင်းပြင်ထဲ တွင် လာရောက်တွေ့ဆုံ၍ ကျွန်မအားဆီးကြိုနှုတ်ဆက်ခါ အဲ့လိုက်သဲလိုက် လက်ဆွဲ ဘိတ်ခေါ်ပါသည်။ ကျွန်မ၏ ပဌမဆုံး မေးခွန်းမှာ ‘ ဟယ်လင် ဘယ်မှာလဲ ’ ဟု မေး လိုက်ခြင်းဖြစ်ပါသည်။ ကျွန်မသည်စိတ်အားထက်သန်ခြင်း ကို ထိန်းသိမ်းကာ ခွန်အားရှိသမျှ စိုက်ထုတ်၍ ကြိုးစား သော်လည်း လမ်းလျှောက်ရန် ပင်ပမ်းလာခြင်းက လွန်စွာ တုံလှုပ်ချောက်ချားလာစေပါသည်။ အိမ်အနီးသို့ကျွန်မတို့ ချဉ်းကပ် လာကြသော အခါ၊ တံခါးဝတွင် ကလေးတ ယောက် မတ်တတ်ရပ်နေသည်ကို ကျွန်မ မြင်ရပါသည်။ ‘ သူမ ဟိုမှာလေ ’ ဟု ကပ္ပတိန် ကယ်လာက ပြောလိုက် ပါသည်။ သူမသည်လဲ တနေ့လုံးလိုလို တဦးတယောက် ကတွေ့လိုနေကြောင်း သိခဲ့ပါသည်။သူ့အမေ ခင်ဗျား ကို ကြို ဘို့ ဘူ တာ ရုံ ထွက် လာ က ထဲ က သူ မ ဟာ ဧည့် သည် အ လာ ကို ကြို နေ ပါ တယ် ’ ဟု ကပ္ပတိန်ကယ်လာက ဆက်၍ပြောပြန်ပါသည်။ အကယ် ၍ ကပ္ပတိန် ကယ်လာသာ ကျွန်မနောက်တွင် မရှိပါမူ၊ အရှိန်နှင့်ပြေးလာသော သူမသည် ကပ္ပတိန်ကယ်လာ နေ ရာသို့ ရောက်လာမည် ဖြစ်ရာ၊ ကျွန်မက ခြေသံမကြားရ အောင် ခြေထောက်ကိုဖွ၍နင်းပါသည်။ သူမသည် ကျွန်မ

၏မျက်နှာ အဝတ်အထည်နှင့် အိပ်များကို စမ်းသပ်ခါ ကျမလက်ထဲမှအိပ်ကို ဆွဲယူ၍ ဖွင့်ရန် ကြိုးစားခဲ့ပါသည်။ အိပ်မှာ လွယ်လွယ်ကူကူ ဖွင့်၍မရပါ။ သူမသည်သော့ ပေါက်တပေါက် ရှိမရှိကို သတိနှင့်စမ်းသပ်နေပါသည်။ သူမသည် သော့ပေါက်ကို တွေ့ရှိသဖြင့် ကျမဘက်သို့ လှည့်လာကာ သော့ပေါက်ကိုညွှန်ပြ၍ သော့တချောင်း ပေးရန်အမူအရာဖြင့် ပြနေပါသည်။ သူမ၏မိခင်က ညှော် သည်၏အိပ်ကို ထိုသို့ ပိုင်စိုးပိုင်နင်း ကိုင်တွယ် စမ်းသပ် ခြင်းမပြုရန် အမူအရာဖြင့် သိစေလျက် ဟယ် လင်၏ အပြုအမူကို နှောက်ယှက် တား ဆီး လိုက် ပါ သည်။ သူမ၏ မိခင်က အိပ်ကို သူမ လက် ထဲ မှ ဆွဲ ယူ လိုက် သောအခါ။ သူမ၏မျက်နှာမှာ နီမြန်းလျက် အလွန်ဘရာ ဒေါသထွက်လာပါသည်။ကျမက ကျမ၏လက်ပတ်နာရီ ကို ပြပြီးဒေါသပြေအောင်လုပ်ခါ သူမအားကျမနာရီကို ကိုင်တွယ် စမ်းသပ်ခွင့် ပြုလိုက်ပါသည်။ ဒေါသရောင် မှာ ရုတ်တရက်ပြေပျောက်သွားပါသည်။ ကျမတို့အတူ တကွ အိမ်အပေါ်ထပ်သို့ တက်ခဲ့ကြပါသည်၊ ၄င်းနေရာ တွင် ကျမကအိပ်ကို ဖွင့်ပြလိုက်သဖြင့် သူမသည်။ စိတ် အားထက်သန်စွာ အိပ်ထဲသို့မွှေနှောက် ရှာဖွေပါသည်။ စားစရာ တခုခုကို မြှော်လင့်၍ ရှာဖွေဟန် တူပါသည်။ မိတ်ဆွေများသည် သူမအတွက် သူတို့အိပ်များထဲတွင် သကြားလုံးများထည့်၍ ယူလာတတ်ကြဟန်တူပါသည်။ ထိုကြောင့်ပင် ကျမ၏အိပ်ထဲ၌ တခုခုတွေ့ရမည်ဟု သူမ

က မြှော်လင့်ခဲ့ခြင်းဖြစ်ပါသည်။ ကျမသည် ခမ်းမထဲရှိ အဝတ်ထည့်သေတ္တာကြီးတလုံးကို ညွှန်ပြလျက် ကျမ၏ ဦးခေါင်းကိုလဲ ညိတ်ခဲ့ကာသူမအား နားလည်စေပါသည်။ ကျမတွင် ထိုကဲ့သို့ အဝတ်ထည့် သေတ္တာကြီးတလုံး ရှိကြောင်း အမှုအရာဖြင့်ပြကာ ထိုသေတ္တာထဲတွင် စားစရာများ ပါကြောင်း သူမယူစားနိုင်ကြောင်း အဓိပ္ပါယ်ပေါက်အောင် ပြောပြသဖြင့် သူမကတဖန် ခေါင်းညိတ်ပြပါသည်။ သူမသည် ချက်ခြင်း နားလည်သွားသည်နှင့် အမျှ သူ့အမေကိုပြောရန် အောက်ထပ်သို့ဆင်းသွားပါသည်။ သူမ ဆင်းသွားခြင်းမှာ သူမအတွက် ကျမ ယူဆောင်လာသော အဝတ်ထည့် သေတ္တာကြီးထဲတွင် သကြားလုံးအချို့ ပါလာကြောင်း သိခြင်းကြောင့် ဖြစ်ပါသည်။ မိနစ်အနည်းငယ်အတွင်း ကျမထံသို့ ပြန်လာပြီးနောက် ကျမ၏ ဝန်စည်စလယ်များကို နေရာတကျထားရန် သူမသည် ဝင်ရောက်၍ အကူအညီ ပေးပါသည်။ ကျမ၏ မိန်းမဆောင်းဦးထုပ်ကလေးကို သူမ၏ဦးခေါင်းပေါ်သို့ဆောင်းလျက် ဟိုဘက်သည်ဘက် ယိမ်းငဲ့ကာ မှန်ထဲသို့ ကြည့်နေပုံမှာ တော်တော်ကလေး ရယ်စရာကောင်းပါသည်။ သူမ၏ဟန်ပန်မှာ မျက်စိမြင်သူကဲ့သို့ ဖြစ်ပါသည်။ ကျမကတော့ ဘယ်နည်း နှင့်မဆို ညှိုးညှိုးငယ်ငယ်နှင့် ခွန်အား နည်းပါးသော ခလေးတယောက်ကို တွေ့ရမည်ဟုမျှော်လင့်ခဲ့ပါသည်။ ကျမသည် လောရာဘာချစ် ခ်မင် ကျောင်းသို့ပညာသင်ကြားစဉ်က ဒေါက်

တာပေါင်စဲ၏ ထုတ်ဖော် သင်ကြားချက်မှ အယူ အဆကို တွေးလိုက်မိသည်ဟု ထင်ပါသည်။ သို့ရာတွင် ဟယ်လင်နှင့် ပတ်သက်၍ စိတ်ပျက်ငြီးငွေ့ဘွယ်ရာ အလျဉ်းမရှိပါ သူမသည် ထွားထွားကြိုင်းကြိုင်း သန့်သန့်မာ မာနှင့် ငယ်ရွယ်သော ကလေးတယောက်ပမာ သူမ၏ ပြုမူချက်များမှာ ကန့်ကွက်ဆီးတားစရာမရှိဘဲ စင်းလုံး ချော ဖြစ်ခဲ့ပါသည်၊ သူမတွင် ဦးချောက် ကြောနှင့် ပတ်သက်၍ အကျင့်ဆိုးများလဲမရှိ၊ မျက်မမြင်ကလေး များတွင် ကြုံကြိုက်တတ်သော ဆင်းရဲဒုက္ခ ရောက်နေ သည့်စိတ်၊ သတိမေ့လျော့တတ်သည့် မှတ်ဉာဏ်မဲ့စိတ် မျိုးများလဲ မရှိပါ၊ သူမ၏ ခန္ဓာကိုယ်မှာ အချိုးအဆစ် ပြေပြစ်၍ ခွန်အားဗလနှင့် ပြည့်စုံပေသည်။ သူမသည် နားပင်း၍ မျက်စိနှစ်ကွင်း အလင်း မှ ရ အောင် ဖျား နာပြီးခဲ့သည့်အချိန်မှစ၍ နောက်ထပ်သော ခေါင်းခဲ လေ နာခြင်းပင်မရှိလာတော့ဟု မပွက်ကယ်လာကပြောပြပါ သည်။ သူမ၏ဦးခေါင်း အနေအထားမှာ ပခုံးနှစ်ဘက် နှင့်လွန်စွာအချိုးကျ အဆင်ပြေလျက် ကြည့်ရှု၍ ကောင်း သည်။ သူမ၏ မျက်နှာ အမူအရာမှာ ဇာခြေရ၍ ခန့်ငြား သည်။တစုံတရာ စိတ်ဝိညာဉ် ပြောင်းလဲလွယ်တတ်ခြင်း မှတပါး၊ အသိဉာဏ်ထက်မျက်ပေသည်။ သူမ၏ပါးစပ် မှာ ကြီးလော်လည်း အနေအထား လှပသည်။ သူမ မျက်မမြင် ဖြစ်နေသည့် ကိုပင် ၄င်းတို့မြင်က သိမြင်နိုင် ကြမည် မဟုတ်ချေ။ မျက်လုံး တလုံးမှာ အခြားမျက်

လုံး တလုံးထက် ပို၍ ကြီးသည်။ သိသိ သာ သာ ပင် ပေါ်လွန်း လှသည့် သူမသည် အကယ်ပင် ပြုံးရယ်ခဲ့၍ ကျမရောက်သွားကထဲက တကြိမ် နှစ်ကြိမ်လောက်သာ သူမပြုံးရယ်ခြင်းကို ကျမမြင်ဘူး ပါသည်။ သူမသည် သူမ၏မိခင်ကြီးမှတပေါ်း အစစအရာရာသီးခံခြင်း။ တာဝန် မလွှဲဘဲ ခေါင်း မ တိမ်းဘဲ ပြုမူသည်။ ကျမတယောက်သာဖြစ်သည်။ သူမသည် အလွန်တရာစိတ်တို၍ ပရိယာယ်များတတ်သည်။ သူမအား ကို ကျိမ်းမှတပါး သူမထား မည့်သူတဦးတယောက်ကမျှ ကြိုးကိုင်ချယ်လှယ်၍ မရပေ။ ကျမဖြေရှင်းပေးရသော အကြီးဆုံး ပြဿနာမှာ စည်းကမ်းစံနစ်ရှိမှုနှင့် စိတ်မတိုဘဲရှိဘဲဖြစ်ပါသည်။ ကျမသည်ပဋ္ဌမသော် ဖျောင်းဖျောင်းဖျဖျနှင့် တစတစသူမ၏ ချစ်မေတ္တာကိုရအောင်ကြိုးစားယူရပါသည်ဇွတ်အတင်း သူမအား နိုင်ထက်ကလူ ပြုရန် အားဘုတ်၍ ရလိမ့်မည် မဟုတ်ပါ။ သို့ရာတွင် ကျမသည် ကနဦး အချိန်ကထဲက အကျိုးအကြောင်းပြ၍ ရှိသေ ကိုင်းရှိုင်းမှု ရှိလာအောင် ပူးပေါင်းဆောင်ရွက်ရမည်ဖြစ်ပါသည်။လူတိုင်းလူတိုင်းအား နိုင်ထက်စီးနင်း ပြုမူသည့် ဟယ်လင်၏ တခုတည်းသောအချက်မှာ မမောနိုင် မပမ်းနိုင် ဇက်တိုက် ဆောင်ရွက်ချက်ဘဲဖြစ်ပါသည်။ သူမသည် ဘယ်တော့မျှ အနားမနေ ဤမှဟိုမှနေရာတွင်းတွင် ပဲခူးဆား ခတ်တိုင်းငံ ဖြစ်နေပါသည်။ သူမ၏ လက်များသည် အရာခပ်သိမ်းကို ယိတွေ့ ကိုင်တွယ် စမ်းသပ် သော်လည်း၊ ယင်းသို့

စမ်းသပ်တိုင်း သိမှုအာရုံတော့ ဘယ်အချိန်အခါမျှ မရခဲ့ပါ။ ချစ်စရာကောင်းသော သူငယ်မမှာ အမှောင်ထဲဝယ် စမ်းတဝါးဝါးနှင့် မနားမနေ ပြုလုပ်သည့်အကျင့် ရှိနေပါသည်။ သူမ၏ မသင်ကြားရသေးသော စိတ်ကြေနပ်ဖွယ် မရှိသည့် လက်များက မည်သည့် အရာ ဝတ္ထုကို ကိုင်တွယ် စမ်းသပ်ရ စေကာမူ ထင်ရှား သိမြင် နိုင်ခြင်း ငှာ မစွမ်းနိုင်ဘဲ ပျက်စီးခြင်းသို့သာ ရောက်ရှိ သွားလေတော့သည်။

သူမသည် ကျမ၏ မပြုပြင်မထားသိုရသေးသော အဝတ်ထည့် သေတ္တာကို ဝင်ရောက်၍ ကျူညီ သမှု ပြုပေးသည့်သူမအတွက်မိန်းကလေးများကပေးလိုက်ကြသော ယမင်းရုပ်ကို တွေ့ရှိသွားသောအခါ၊ ပျော်ရွှင် မြူးထူးသွားပါသည်။ ကျမက သူမအား ပဌမဆုံး စကားလုံးကို သင်ကြားရန် အခွင့်အခါကောင်းရလေပြီဟု တွေးလိုက်မိပါသည်။ ကျမက ' အရုပ် ' ဟူသောစကားလုံးကို သူမ၏ လက်ထဲတွင် ဖြေးညှင်းစွာ စာလုံးပေါင်း၍ အရုပ်ရှိရာသို့ ညွှန်ပြကာ ကျမ၏ ဦးခေါင်းကိုလဲ ညိမ့်လိုက် ပါသည်။ ကျမ၏ ဦးခေါင်း ညိမ့်ပြလိုက်ခြင်းမှာ ပိုင်ဆိုင်ခြင်းအတွက် သူမ၏ အမှတ် လက္ခဏာ ဖြစ်ဟန် တူပါသည်။ တဦးတယောက်က သူမအား တစုံတရာ ပေးသောအခါ ထိုပစ္စည်းအတွက် သူမကိုယ်တိုင် ညွှန်ပြမှုအတွက် ဦးခေါင်းညိမ့်ခြင်း ပြုလုပ်ပါသည်။ သူမသည် ကျမ၏လက်ကို ကိုင်တွယ်စမ်းသပ်ရင်း စိတ်ရှုပ်ထွေး နေ

ဟန့်တူပါသည်။ကျမက စာကြောင်းများကိုထပ်တလဲလဲ
လက်ချောင်းများဖြင့်ပေါင်းပြပါသည်။ သူမသည် အချပ်
ကို လက်ညှိုးညွှန်၍ ကျမလုပ်သလို အတုယိုက်လုပ် ပါ
သည်။ ထိုနောက် ကျမက အချပ်ကိုယူ၍ တဖန်ပြန်ပေး
ကာ အဓိပ္ပါယ်ပေါ်လွင်အောင် စာကြောင်းများပေါင်း
ပြသည်။ သို့ရာတွင် သူမသည် အချပ်ကို ကျမက သူမထံ
မှယူသည်ဟု အဓိပ္ပါယ်ကောက်ရန် တွေးထင်နေခဲ့သည်။
သူမသည် ရုတ်တရက်စိတ်တိုလာကာ အချပ်ကိုဆုပ်ကိုင်
ထားဘို့ ကြိုးစားသမှု ပြုတော့သည်။ ကျမက ကျမ၏
ခေါင်းကိုလှုပ်ရမ်းလျက် သူမ၏ လက်ချောင်းများကို စာ
ကြောင်းများဖြစ်အောင် စခဲ့းသပ် သင်ကြားသော်လည်း
သူမသည် ပိုမို၍ဒေါသဖြစ်လာပါသည်။ကျမသည် သူမ
အားကုလားထိုင်တလုံးပေါ်သို့ဇွတ်ထိုင်စေ၍ ကျမ ချွေး
ပြန်ကာမောပမ်းလာသည်အထိသင်ကြားခြင်းပြုပါသည်
နောက် ကျမအသိတရားပေါ်လာသည်မှာ ယင်းသို့ဆက်
လက် သင်ကြားခြင်းဖြင့် အရာ မရောက်နိုင်ကြောင်းပင်
ဖြစ်ပါသည်။ သူမ၏အတွေးအခေါ်များ ပြောင်းလဲသွား
အောင် ကျမတခုခု ပြုလုပ်ရဦးမည် ဖြစ်ပါသည်။ ကျမ
သူမကိုသွားခွင့် ပြုလိုက်သော်လည်း အချပ်နှင့်သင်ကြား
ခြင်းကိုတော့ လက်လျှော့လိုက် ပါသည်။ ကျမသည်
ကျမသည် အောက်ထပ်သို့ ဆင်းခဲ့၍ မုန့်အချို့ကို ယူပါ
သည်။ သူမသည် ချိုချဉ်များကို အလွန်တရာနှစ်သက်ပါ
သည်။ ကျမမှာ မုန့်ကိုပြ၍ သူမအား ကိုင်တွယ် စေကာ

'မုန့်' ဟူသော စကားလုံးကို ဟယ်လင် နားလည်လာ အောင် စာလုံးပေါင်းပြပါသည်။ သူမသည်မုန့်ကိုလိုချင်သဖြင့် မရရအောင်ကြိုးစား၍ယူငင်ပါသည်။သို့ရာတွင် ကျမက သူမ၏ လက်တဘက်ကိုပုတ်၍ စကားလုံးကိုတကြိမ် စာလုံးပေါင်းပြလိုက်ပြန် ပါသည်။ လူမသည် စာကြောင်းများကို လျင်မြန်စွာ အတုလိုက်၍ မုန့်ကိုယူကာ လျင်မြန်စွာကိုက်စားနေပါသည်။သူမထံမှမုန့်ကို ကျမက ပြန်လည်ယူဦးမည်ကို စိုးရိမ်သဖြင့် ဤသို့ မြန်မြန်ထက်ထက် စားနေခြင်းဟုကျမထင်ပါသည်။ ထိုနောက် ကျမသည် သူမသည် သူမအား မုန့်ပေးသကဲ့သို့ အချပ်ကို ပြန်၍ပြကာ စာလုံးပေါင်းရန် သင်ကြားပြန်ပါသည်။ သူမသည် 'အချ' ဟု ပေါင်းနေသဖြင့်၊ ကျမက အဓိပ္ပါယ်ပြည့်စုံအောင် 'ပ်' ကိုထည့်သွင်း၍ အချပ် ပေးလိုက် ပါသည်။ သူမသည် အချပ်နှင့်ပင်အောက်ထပ်သို့ ဆင်းပြေးကာ အချပ်ပြန်ပေးရမည်စိုးသဖြင့် တနေ့လုံး ကျမအခန်းထဲသို့ပြန်မလာတော့ပါ။

မနေ့ကသူမအား ကျမအပ်ချုပ်ရန် ကဒ်ဘခုပေးခဲ့ပါသည်။ ကျမသည် ပဌမရှေးဦးစွာ အလည်တည့်တည့် မျဉ်းကြောင်းများ ပြုလုပ်ပေး၍ ထိုမျဉ်းကြောင်းများကို စမ်းသပ် စေပါသည်။ အပေါက်ငယ် ကလေး များနှင့် အတန်းပေါင်းများစွာ ရှိသည်ကို သဘိပြုစေ ပါသည်။ သူမသည် ပျော်ရွှင်စွာနှင့် အလုပ်ကိုစတင်လုပ်ခါ မိနစ်

အနည်းငယ်အတွင်း ကန်ပြားကိုပြီးစီးစေ၍ သူမ၏လုပ်ပုံကိုင်ပုံမှာလည်း အလွန်တရာ သပ်သပ်ရပ်ရပ် ရှိပါပေသည်။ ကျွန်မကနောက်ထပ်စာလုံးတလုံးကို စာလုံးပေါင်းသင်ဘို့ စဉ်းစားမိသဖြင့် 'ကန်ပြား' ဟု စာလုံးပေါင်းပြလိုက်ပါသည်။ သူမက 'ကာ' ဟု ဆိုကာ ရပ်တန့်၍ စဉ်းစားနေပါသည်။ ပြီးနောက်သူမသည် စားသောက်လိုသောဆန္ဒကို အမူအရာပြကာ ကျွန်မအားအောက်ထပ်သို့ ဆင်းစေ၍ တခုခုစားစရာ ယူပေးရန် တံခါးမကြီးဆီသို့ တွန်းထိုးပို့နေပါသည်။ ကကြီးချေးချကာဟူသောစကားနှစ်လုံးမှာ ရှင်တို့သိသည်အတိုင်း သူမ၏ သောကြာနေ့သင်ခန်းစာကို သတိပေးလိုက်ခြင်း ဖြစ်ပါသည်။ မုန့်သည် တခုခု၏အမည် ဖြစ်ကြောင်းကိုတော့ သူမကတစုံတရာ တွေးတောမှတ်သားမိခြင်းမရှိပါ၊ သို့ရာတွင် ထိုအကြောင်းအရာ တခုသည် ဆက်စပ်နေသော အမှုကိစ္စတရပ်၏ရှိုးသားစွာ ဆင်မြင်မှုဟု ကျွန်မ ထင်ပါသည်။ ကျွန်မကသူ့ဩဇာအတိုင်းလိုက်နာ၍ 'မုန့်' ကိုယူကာ 'မုန့်' ဟု အင်္ဂလိပ်ပေါက်အောင် စာလုံး ပေါင်းပြလိုက်ရာ သူမမှာ ပျော်ပျော်ရွှင်ရွှင် ဖြစ်လာပါသည်။ ထိုနောက် ကျွန်မက 'ယခင်းရုပ်' ကို စာလုံးပေါင်းပြပြီး ထိုစာလုံးပေါင်းအတွက် သူမအားစတင်၍ လိုက်နာ ပေါင်းခိုင်းပါသည်။ ရှင်တို့ဘာသဲလုပ်လုပ် ရှင်တို့လုပ်သမျှ ပြောသမျှကို သူမ၏လက်များက လိုက်ပါ လုပ်ကိုင်လေ့ ရှိပါသည်။ သို့ကြောင့်ပင် ကျွန်မ အချပ်ကို ရှာဖွေနေကြောင်း

သူမက သိနှင့်ပြီးဖြစ်နေခြင်းဖြစ်ပါသည်။ သူမကအောက်ထပ်သို့ ညွှန်ပြပါသည်။ ဆိုလိုသည်မှာ ယမင်းရုပ်အောက်ထပ်တွင် ရှိကြောင်း သိစေခြင်းဖြစ်ပါသည်။ သူမ မုန့်စားချင်သောအခါ ကျမအား အမူအရာဖြင့်သိသာအောင် အသုံးချနိုင်အောင် စီစဉ် သင်ကြားပေးထားပါသည်။ သူ့ကိုလည်း တံခါးမကြီးဆီသို့ တွန်း၍ ပို့လိုက်ပါသည်။ သူမသည် ကျမသင်ကြားသည့်အတိုင်း၊ တိုးတက်၍စတင်ပြုလုပ်ခါ ခဏခဏ နားနေပြီးနောက် သူမဖါသာ စကားပြော၍ ဖြစ်မဖြစ်ကို စမ်းသပ်ကြည့်နေပါသည်။ သူမက ကျမထံသို့ပေးရန် ဆုံးဖြတ်လိုက်ပါသည်။ ကျမသည် ခေါင်းကိုလှုပ်ခါ၍ ရှင်းလင်း ပြတ်သားစွာ ပိုမိုနားလည်အောင် 'အရုပ်' ဟု စားလုံးပေါင်းပြကာ သူမအတွက် တံခါးမကြီးကိုလည်း ဖွင့်လိုက်ပါသည်။ သို့ရာတွင် သူမက ကျမစီမံထားသည့် အတိုင်းနာခံရန် ဆင်ကန်းတောတိုးပြင်းဆန်နေပါသည်။ ကျမက သူစာရေးနေသော မုန့်ကိုယူ၍၊ ကျမခိုင်းသလို 'အရုပ်' ကို ယူပေးမှ မုန့်ပြန်ပေးမည် ဖြစ်ကြောင်း သူမနားလည်အောင် အမူအရာ လက်ဟန် ခြေဟန်ဖြင့် ပြပါသည်။ သူမသည် အချိန်တော်တော်ကြာအောင် ရပ်ဆိုင်းနေပြီး မျက်နှာတွင် နှင်းဆီရောင် သန်းယှက်လာပါသည်။ ထိုနောက် သူမသည် မုန့်ကို ပြန်လည် ရလိုသဖြင့် အောက်ထပ်သို့ အပြေးဆင်း၍ အရုပ်ကိုသွားယူပါသည်။ ကျမကလဲ သူမ၏မုန့်ကို ပြန်ပေးလိုက်ပါသည်။ သို့ရာတွင်

ကျွမအခါခါးထဲသို့ နောက်တကြိမ် ပြန်၍ ဝင်လာအောင် သူမအား ကျွမ-မသွေးဆောင် နိုင်တော့ပါ။

ဤနေ့နံနက်၌ ကျွမစတင်၍ စာရေးသား နေချိန်တွင် သူမသည် အလွန်တရာ အနှောက်အရှက် ပေးလာပါ သည်။ သူမသည် ကျွမ၏နောက်တွင်ကပ်၍ သူမလက်ကို စက္ကူပေါ်သို့တင်ကာ မှင်အိုးထဲသို့လည်း နှိုက်ပါသည်။ ဤကဲ့သို့ တစုံတရာရေးသားခြင်းမှာ သူမ၏လုပ်မြဲဝတ္တရား ဖြစ်ပါသည်။ နောက်ဆုံး၌ ကျွမသည် ပုတီးစေ့ များဖြင့် ကလေးသူငယ်များအား သင်ကြားနည်းကို သတိရလာ ပါသည်။ ကျွမက သူမအား ပုတီးစေ့များကို ကြိုးသီဘို့ အလုပ်ပေးထားပါသည်။ ပဌမသော်-ကျွမသည် သစ် သားပုတီးစေ့ ၂-လုံးနှင့် ဖလ်ပုတီးစေ့ တလုံးကို စီစဉ် ပေးထားပါသည်။ ထိုနောက် ကြိုးငယ်ကလေးဖြင့် ပုတီး စေ့ နှစ်သွယ်တို့ကို စမ်းသပ်ရန်ခိုင်းလိုက်ပါသည်။ သူမ က ဦးခေါင်းညှိမ့်၍ ချက်ခြင်းပင် ကြိုးကလေးတွင် သစ် သား ပုတီးစေ့များဖြည့်ရန် စတင် လုပ်ကိုင်ပါသည်။ သူမသည် ပုတီးစေ့များကို စေ့စေ့စပ်စပ် ထပ်တလဲလဲ စစ်ဆေးနေပါသည်။ ဤအချိန်၌ သူမသည် ဖလ်ပုတီးစေ့ ကို ပဌမစီ၍ နောက်တကြိမ် သစ်သားပုတီးစေ့ နှစ်လုံး ကိုစီပါသည်။ ကျွမက သူမ စီနေသော ပုတီးစေ့များကို ယူ၍ သင်သားပုတီးစေ့ နှစ်လုံးကို အရင်စီကာ နောက်မှ ဖလ်ပုတီးစေ့ တလုံးစီဘို့ ပြောပြပါသည်။ သူမမှာ ကျွမ ပြောလိုက်သဖြင့် တစုံတရာမကြေနပ်မှုမပြဘဲ ကြိုးထဲသို့

ပုတီးစေ့များကို မြန်သည်ထက် မြန်အောင် ပြုလုပ်နေပါသည်။ ကြိုးတွင် ပုတီးစေ့များပြည့်သွားသောအချိန်၌ သူမသည် စိတ်မော လက်ညောင်း ဖြစ်သွားကာ ပုတီးကုန်းကို သူမ၏ လည်ပင်း ပေါ်သို့ ချွတ်လိုက် ပါသည်။ နောက်တကြိုး၌ ကျွမသည် အထုံးကြီးကြီးလုပ်မပေးပါ။ ပုတီးစေ့များကို သူမ မြန်နိုင်သမျှမြန်အောင် အစီခိုင်းပါသည်။ သို့ရာတွင် သူမသည် ပုတီးစေ့ တလုံးကို ကြိုးစ၌ချ၍ အခက်အခဲတွေ့သမျှရှင်းလင်းအောင်ထိုးတွင်းဉာဏ်ဖြင့် ပြုလုပ်ပါသည်။ သူမကား ပုတီးစေ့ စီခြင်းတွင် အလွန်တရာကျွမ်းကျင်ပြီဟု ကျွမတွေးထင်မိပါသည်။ သူမသည် ညနေစာ ထမင်းစားချိန် ရောက်သည် တိုင်အောင် ပုတီးစေ့များကို သီကုန်းကာ ပျော်ရွှင် မြူးထူးစွာနှင့် ကျွမထံသို့ သီကုန်းပြီး ပုတီးစေ့များယူလာ၍မှန်မမှန် မကြာခဏလာရောက်ပြသခြင်းပြုပါသည်။

ကျွမ၏မျက်လုံးများမှာ အလွန်တရာနာကျင်မှုဝေဒနာခံစား၍ အခိုးများ ယှက်သန်းလာပါသည်။ ဤစာကိုရေးသားခြင်းတွင် အထူးတလည် ဂရုတစိုက် ရေးသားသည်။ မဟုတ်ကြောင်း ကျွမသိပါသည်။ ကျွမပြောစရာတွေအများကြီးရှိပါသေးသည်။ ကျွမပြောလိုသော အကြောင်းအရာများကို ဘယ်ကဲ့သို့ ချောချောမောမောဖော်ပြရမည်ဟု စဉ်းစားရန် ရပ်တန့်မထားနိုင်ပါ။ ကျွမစာကို မည်သူတဦး တယောက်ကိုမျှကျေးဇူးပြု၍မပြပါနှင့်ရှင်။ အကယ်

၍ ကျမမိတ်ဆွေများအား ရှင်သိစေလိုလျှင် ပါးစပ်က တော့ ဘတ်ပြောနိုင်ပါသည်။

တနင်းလာနေ့ ညနေချိန်။

ကျမသည် ၅၅နေ့နံနက်ခင်း အချိန်ဝယ်။ ဟယ်လင်နှင့် အိမ်တွင်း စစ်ထုးပွဲတပွဲ ကျင်းပခဲ့ရပါသည်။ ကျမသည် ၅၅အကြောင်းအရာများကို ထုတ်ဖေါ်ရေးသားရန် ကျမ အလွန်တရာမျှိသိပ်ထားခဲ့သော်လည်း ထိုအကြောင်းအ ရာတို့ကိုရှောင်ကွင်းရန် လွန် ၄၁ ခဲ ယဉ်း ကြောင်း တွေ့ ရ ပါသည်။

ဟယ်လင်၏ထမင်းစားပုံအမူအရာများမှာတော်တော် ကလေး ကသီသင်တနိုင်လှပါသည်။ သူမက သူမ၏လက် များကိုကျမ၏ပန်းကန်ပြားများတဲသို့နှိုက်၍စားပါသည်။ ဟင်းပွဲများအသစ်ချလျှင် ဟင်းပွဲများကို ဆုတ်ကိုင်လျက် သူမသဘောကျ နှိုက်ယူစားသောက်ခြင်းပြုပါသည်၊ ၅၅ နေ့နံနက်တွင် ကျမသည် သူမအား သူမ၏ လက်များဖြင့် ကျမပန်းကန်ပြားထဲသို့ အနှိုက်မခံတော့ပါ။ သူမသည် ဆန္ဒ အ တိုင်း ယ ခင် က ကဲ့ သို့ ပြု လုပ် ရန် အား ထုတ် ပါသေးသည်။ သ ဘာဝ အား ဖြင့် တော့ အိမ် သား များ ကို ပင် ၅၅ သို့ ဟယ် လင် အ နှောက် အ ရှက် ပေး ခဲ့ ၍ အ ခန်း ထဲ မှ ထွက်သွား ခဲ့ကြသည်။ ကျမသည် ထမင်း စားခန်း တံခါးမကြီးကို သော့ခတ်၍ နံနက်စာကို ဆက် လက်၍ စားသောက်နေပါသည်။ စားသောက်နေရသော အစာအဟာရမှာ ကျမလည်ချောင်းတွင် နင်လုမတတ်ပင်

ဖြစ်ပါက်သည်။ ဟယ်လင်မှာကြမ်းပြင်ပေါ်တွင်လဲလျောင်း ရင်း ကျမအောက်မှ ကုလားထိုင်ကို ဆွဲရန်ကြိုးစားရင်း ငယ်သံပါအောင် အော်ဟစ်၍ ကန်ကျောက်နေပါသည် သူမသည် ဤသို့လျှင် နာရီဝက်မျှကြာအောင် အငေါ်ဘူး နေပါသည်။ ပြီးမှ ကျမ ဘာလုပ်နေသည်ကို ကြည့်ရန် ထထိုင်ပါသည်။ ကျမထမင်းစားနေသည်ကို သူမအား မြင်စေပါသည်။ သို့ရာတွင် သူမလက်ကိုတော့ ပန်းကန် ပြားထဲသို့ နှိုက်ခွင့်မပြုပါ၊ သူမက ကျမအား ဆွဲ၍ဆိတ် ပါသည်။ သူမ–ကျမကိုဆိတ်တိုင်း ကျမက သူမလက်ကို ပုတ်၍ချပါသည်။ ထိုနောက် သူမသည် စားပွဲပါတ်ပါတ် လည့်တွင် မည်သူ ရှိသေးကြောင်း ရှာဖွေ၍ကြည့်ရှုပါ သည်။ ကျမအပြင် တဦးတယောက်မျှ မရှိထော့သဖြင့် သူမသည် စိတ်ရှုပ်ထွေးနေဟန်တူပါသည်။ မိနစ်အနည်း ငယ်ကြာပြီးနောက် သူမသည် သူမ၏နေရာသို့ ပြန်လာ ကာ သူမလက်ချောင်းများဖြင့် နံနက်စာကို စားသောက် နေပါသည်။ ကျမ ပေးလိုက်သော ဇွန်းကို သူမသည် ကြမ်းပြင်ပေါ်သို့ လွှင့်ပစ်လိုယ်ပါသည်။ ကျမက သူမ အား ကုလားထိုင်ပေါ်မှ ဖွတ်ဆင်းစေကာ လွှင့်ပစ်သော ဇွန်းကို ကောက်ခိုင်းပါသည်။ နောက်ဆုံးသော်–ကျမခိုင်း သည့်အတိုင်း ဇွန်းကိုကောက်ယူသဖြင့် သူမအားကုလားထိုင် ပေါ်သို့ ပြန်၍ တင်ပေးလိုက်ပါသည်။ ကျမသည် သူမ လက်ထဲသို့ ဇွန်းကိုထည့်ပေး၍ ဇွန်းဖြင့် ထမင်းစားစေ ကာ သူမပါးစပ်ထဲသို့ ထမင်းရောက်သည်အထိ စောင့်

ကြွပ်ကြွည့်ရှုနေပါသည်။ မိနစ်အနည်းငယ်အတွင်း သူမ
သည် နံနက်စာကို ချောချောမောမောနှင့်အေးအေးသက်
သာပင် စားသောက်ပြီးသွားပါသည်။ ထိုနောက်ကျမတို့
သည်လက်သုတ်ပုဝါကိုလုံးထွေး၍ သုတ်ကြပြီးသူမအား
လုံးထွေးသုတ်ထားသော လက်သုတ်ပုဝါကို နေရာတကျ
ခေါက်ခိုင်းပါသည်။ ကျမခိုင်းသည့်အတိုင်း သူမလုပ်
ကိုင်ပြီးနောက် လက်သုတ်ပုဝါကို ကြမ်းပြင်ပေါ်သို့ ပစ်
ချကာ တံခါးမကြီးဆီသို့ ပြေးထွက်သွားပါတော့သည်။
တံခါးမကြီး သော့ခတ်ထားသည်ကို တွေ့ရသဖြင့်
သူမသည် တံခါးကို ခြေထောက်နှင့် ကန်ကြောက်ခါ
တကြိမ်ထပ်၍ ငယ်သံပါအောင် အော်ဟစ်ပြန်ပါသည်။
သူမအား လက်သုတ်ပုဝါကို ကြမ်းပြင်ပေါ်မှကောက်ယူ
ခိုင်း၍မရမိ နောက်ထပ်တနာရီလောက်အကြာ၌အရေး
ကိစ္စ ပေါ်လာခြင်းဖြစ်ပါသည်။ ထိုနောက် ကျမသည်
သူမအား နေပူရှိန်အောက်သို့ ထွက်သွားခွင့်ပြုလိုက်ပြီး
ကျမလဲ ကျမအခန်းသို့ ဝင်ခဲ့ကာ စိတ်မောကိုယ်မောနှင့်
အိပ်ရာပေါ်သို့ ပစ်လှဲချလိုက်ပါသည်။ ကျမသည် စိတ်
ညစ်ညူးသွားရာမှ သက်သာမှုရအောင် စိတ်ဖြေလိုက်ရ
ပါသည်။ ကျမက တွေးလိုက်မိသည်၊ သူမအားအရေး
ကြီးသော အကြောင်းအရာနှစ်မျိုးကို မသင်မီ ဤမိန်းမ
ငယ်ကလေးနှင့် ပတ်သက်၍ တိုက်ပွဲအမျိုးမျိုး တွေ့ရဦး
မည်ဖြစ်ပါသည်။ ချစ်ခြင်းမေတ္တာ တရားနှင့် ရိုသေလေး

စားခြင်းကို ကျမသည်သူမအား သင်ကြားပေးရမည် ဖြစ်ပါသည်။

ထောင်ဦးမည်ရှင်၊ ဘာမျှမစိုးရိမ်ပါနှင့် ကျမတို့မလုပ်နိုင်သည်ဟူမ ရှိရအောင် အစွမ်းကိုကျမကြိုးစားပါမည်။ မစ္စက် ကယ်လာကိုတော့ ကျမအထူးပင် ကြေနပ်နှစ်သက်ပါသည်ရှင့်။

တဲ့စ်ကမ်ဘီယာ၊အလာဘာမာ၊
မတ်လ (၁၁)ရက်၊ ၁၈၈၇-ခုနှစ်။

ကျမ ရှင့်ထံသို့ စာရေးပြီးသည်နောက် ဟယ်လင်နှင့် ကျမတို့သည် ကယ်လာ့နေအိမ် အိုင်ဗွီဂရိုင်းမှ အနည်းငယ်မျှသာဝေးသော သူမ, နေအိမ်နှင့် ၄-ပိုင်း ၁-ပိုင်း ခိုင်ဝေးကွာသည့် ဥယျာဉ်နှင့်အိမ်ကလေးသို့ နေထိုင်ရန် ထွက်ခဲ့ကြပါသည်။ ကျမသည် သူမ၏ အိမ်သားများက သူမပျော့ ရွှင်ရန်အတွက် စိတ်တိုင်းကျနေထိုင်ခွင့်ပြုထားသဖြင့် အိမ်သားများအနေလည်း၌ ဟယ်လင်နှင့်ပတ်သက်၍ ဘာတခုမျှ သွန်သင်ပြသခြင်း မလုပ်တော့ဘဲ လျစ်လျူရှုထားရန်မကြာမီ ဆုံးဖြတ်ချက်ချလိုက်ပါသည်။သူမသည် လူတိုင်းအပေါ်၌ နိုင်ထက်ကလူပြုမူနေတော့သည်။ သူမနှင့်အတူ ကစားနေသော အသားမဲကလေးများ၊ အစေခံများ၊ သူမ-ဖေဖေ-မေမေတို့မှာ သူမ၏ဆန္ဒကို ဆန့်ကျင်၍ တဦးတယောက်မျှ ဆီးတားနှောက်ရှက်ခွင့် မပြုကြပါ။ ကျမ ရောက်သွားချိန်အထိတော့ သူမအစ်ကို ကျွဲမဲကာသာ တခါတရံ ပင်ရောက်ဆုံးမခြင်း ပြုပါသည်။ သူမသည်

သူမစိတ်ကူးရသလို ပျော်ရွှင်မှုအတွက် အလျော့မပေးဘဲ လုပ်ကိုင်ခြင်းဖြင့်တပါး သူများအား နှိပ်စက်ကလူပြုရာရောက်နေပေသည်။ အကယ်၍ သူမဆန္ဒအတိုင်း လိုလားမှုကို ပျက်ကွက်သွားလျှင် စိတ်ချုပ်တည်းခြင်း မပြုဘဲ အစေခံများအား စော်ကားမော်ကား ပြုပြီဆိုလျှင် သူမဘာဖြစ်နေသည်ကို အိမ်သားများအားလုံး နားလည်ကြပါသည်။ ဘာမဆိုစိတ်တိုင်းမကျသော် ဖဗလာလုပ်ချင်သောစိတ်မှာ သီးခံခြင်းတရား ပေါက်ကွဲမှုတခုဝ၏ အမူအရာဖြစ်တော့ရာ၊ သူမ အသက်အရွယ်ကြီးရင့်လာသည်အထိ အကျင့်ပါလျက် ဇွတ်အဓမ္မ ပြုလုပ်မည်သာ ဖြစ်ပေသည်။

ကျွန်မအားစတင်၍ပညာသင်ချိန်၌ အခက်အခဲပေါင်းမြောက်များစွာကို ရင်ဆိုင်ခဲ့ရပါသည်။ သူမသည် ကျွန်မသင်ကြားပေးသမျှကို အစအဆုံးနားယူမှတ်သားခြင်းမပြုနိုင်ခဲ့ပါ။ ကျွန်မကလဲ သူမအား ချော့ကာ မော့ကာနှင့် မသင်ကြားနိုင်ခဲ့ပါ။ သူမအတွက် နေ့စဉ် ပြုလုပ်ရမြဲအမှုကိစ္စဖြစ်သော ဆံပင် ခေါင်းဖြီးခြင်း၊ လက်များကို ဆေးကြောခြင်း၊ ခြေနင်းများကြိုးတပ်ခြင်းစသည့် လိုအပ်ချက်တို့ကိုသာ ဇွတ်အတင်းသင်ကြားပေးခဲ့ပါသည်။ စိတ်အနှောင့်အယှက်ပေးသောအခါရံက ထက်ချပ် မကွာ လိုက်ပါနေခြင်းကြောင့်ဖြစ်ပါသည်။ အိမ်သားများမှာ ပင်ကိုယ်စိတ်ဓါတ်ကတော့ ဟယ်လင်နှင့်ပတ်သက်၍ မသင့်တော်မှုများကိုဆုံးဖြတ်ရန်ရဲလိုကြပါသည်။ သို့ရာတွင် အထူး

သဖြင့် သူမ ဖခင်ကြီးမှာ သူမငိုယိုမည်ကိုပင်မကြည့်ရက် မကြည့်နိုင် ဖြစ်ခဲ့သည်။ ထိုကြောင့် သူတို့ အား လုံး မှာ အေးချမ်းသာယာမှုကို လိုလားသည်အတိုင်းလိုက်လျော နေကြရပေသည်။ သည့်ပြင်လဲ သူမ၏အဘိတ်ကာသအ အတွေ့အကြုံများနှင့် အပေါင်းအသင်း များမှာ ကျမ အားဖြောင့်ဖြောင့်ကြီးဆန့်ကျင်စေပါသည်။ ထို့ကြောင့် ပင် သူမအားလိမ္မာရေးခြားရှိမှုအတွက် စာပေပညာသင် ကြားပေးရန် ကြိုးစားချက်မှာ အသုံးမကျတော့။ ကျမ တော့၊ ကျမစကားကိုနားထောင်အောင် တစုံတရာ သင် ကြားနေရသည့်တိုင်အောင်အချည်းနှီးသာဖြစ်ခဲ့ပသည် ဟုကျမမြင်လာပါသည်။ထိုအကြောင်းကိစ္စနှင့် ပတ်သက် ၍အများအပြားကျမတွေးတောမိခဲ့ပါသည်။ ဗိုမို၍ကျမ စဉ်းစားမိသည်မှာ ကလေး တယောက်၏ စိတ်ဓါတ်တွင် ချစ်မေတ္တာတရားနှင့် ရိုသေလေးစားမှုအသိသွင်းပေးခြင်း ကား ပညာသင်ကြားရေး၏တံခါးမကြီးဖြစ်ခြင်းပင်၊ ကျမ ရှင့်ထံသို့ ရေးသားခဲ့ဘူးသည့်အတိုင်း။ ကျမ ဆိုလိုသည် မှာ ပဋ္ဌမသော် ဖြေးဖြေးနှင့်မှန်မှန် လမ်းညွှန်ပြဘို့ဘဲဖြစ် သည်။ အကယ်၍ကျမ၏တပည့်မကလေးဟာယ်လင်သည် မျက်မြင်နားကြားဖြစ်လာလျှင်တော့တဖြေးဖြေးဖြောင်းဖျ ခြင်းဖြင့် သူမ၏ မေတ္တာ တရားနှင့် ယုံကြည် ကိုးစားမှုကို အောင်မြင်နိုင်ပါမူ။ ကျမဆန္ဒအတိုင်းဖြစ်ရမည်ဟု အယူ အဆတခုပေါ်ပေါက်လာပါသည်။ သို့ရာ တွင်မကြာမှီ ကျမတွေ့ရှိရသည်မှာ ခါတိုင်းကဲ့သို့ ကလေးမ၏ နှလုံး

သည်းပွတ်ကို ထိတွေ့ ချဉ်းကပ် ကြည့်ရှု၍ အမူအရာ ဟောင်းများ လွင့်စင် ပျောက်ကွယ်သွားခြင်းဖြစ်ပါသည်။ သူမအတွက် ကျမ စီမံ ပြုလုပ်ပေးသည့် အမှုကိစ္စတိုင်း သူမသည် လက်ခံလာပါသည်။မကောင်းသော အမူအရာ အကျင့်လက္ခဏာ များလည်း တွန်းလှန် ဖြင်းပယ် ပစ်ပါ သည်။ သူမအား စိတ်ထိခိုက်အောင် သနား ကြင်နာစိတ် ကိုန်းဝပ်လာအောင်၊ကလေး။တို့တွင် ရှိတတ်သောမေတ္တာ တရားကို အရသွေးဆောင်ရအောင် အထူး တလည် မကြိုးစားရတော့ပါ။ သူမသဘောကျသည် ဖြစ်စေ၊ သဘောမကျသည်ဖြစ်စေ ကိစ္စတခုကို ဆုံးခမ်း တိုင်ရောက် လုပ်ကိုင်ပါတော့သည်။ ထို့ကြောင့် ကျမတို့သည် လေ့ကျင့်ရန် သင်ခန်းစာတခုအတွက် အစီအစဉ်လုပ်၍ ဖြင့်ဆင်ကာ လေ့လာ သင်ကြားမှု ပြုကြပါသည်။ စာသင်ကြားချိန်ရောက်လာသောအခါ ကျမတို့သည် ရာသီဥတု မရွေး စည်းကမ်းအတိုင်းသင်ကြားကြပါသည်။ ကျမတို့ အချင်းချင်း တစုံတရာ ပညာရေးအတွက် အားကိုးအား ထားပြုချက်မှတပါး ဘာတခုမျှ အနှောင့်အသွက်မတွေ့ ကြရတော့ပါ။ကျမတို့ မသိလိုက် ကြဘဲ အာရုံ စူးစိုက်၍ သင်ကြားပေးနေသဖြင့်အလင်းရောင်ပျောက်ခါအမှောင် ရိပ်သန်းလာသောကြောင့် မီးရောင် ပေါ်လာသည်အထိ ကြိုးစားသင်ကြားနေခဲ့ကြပါသည်။

ကျမသည် မခွက်ကယ်သာနှင့် ပွင့်ပွင့်လင်းလင်း ချီချီ

သာသာ စကားဆွေးနွေးခြင်းပြုပါသည်။ လက်ရှိအချေ အနေအရ ဟယ်လင်အား ပညာ သင်ကြားပေးရန် အဘယ်မျှလောက် အခက်အခဲ တွေ့ရကြောင်းကို ကျမက မစ္စတ်ကယ်လာသို့ ရှင်းလင်းပြောပြပါသည်။ ကလေးအအား အိမ်သားများနှင့် ရက်သတ္တပါတ် အနည်းငယ်မျှ သီးခြားခွဲ၍ထားသင့်ကြောင်း အကြံဉာဏ်ပေးပါသည်။ ဤသို့သီးချားခွဲထားမှ တစုံတရာကျမဦးဆောင်၍ မသင်ကြားမီ သူမသည် ကျမဩဇာ နာခံကာ မှီခိုအားထား ပညာသင်ကြားလိုစိတ် ရှိလာမည်ဖြစ်ပါသည်။ မစ္စတ်ကယ်လာနှင့် အချိန်ကြာမြင့်စွာဆွေးနွေးပြီးနောက် မစ္စတ်ကယ်လာက ဤကိစ္စကိုပြန်လှန်စဉ်းစားပါဦးမည်။ ဟယ်လင်အား ကျမနှင့်ခွဲ၍ထားချလျှင် ကပ္ပတိန် ကယ်လာက မည်သို့တွေးမည်မသိပါဟု ပြောပြပါသည်။ ကပ္ပတိန် ကယ်လာကလဲ ကျမအစီအစဉ်ကို သဘောကျပါသည်။ နေရာဟောင်းတွင်ရှိသော ဥယျာဉ်နှင့် အိမ်ကလေးမှာ ကျမတို့အတွက် အဆင်သင့် ဖြစ်ကြောင်း ပြောပြပါသည်။ ဟယ်လင်မှာ ထိုနေရာသို့ မကြာမကြာရောက်ဘူးသဖြင့် မှတ်မိနိုင်ကြောင်းကိုသည်း ကပ္ပတိန် ကယ်လာက ပြောပြပါသည်၊ သို့ရာတွင် အိမ်ကလေး၏ ပတ်ပတ်လည်မှရှုခင်းများကိုတော့ သူမ မသိကြောင်း။ သူတို့လဲ နေ့တိုင်း လာရောက်တွေ့မည် ဖြစ်ကြောင်း။ သို့ရာတွင် သူတို့လာရောက်လည်ပတ်သည့်ကို သူမအား အလျဉ်း အသိမပေးရန် အကြောင်းစသည့်တို့ကို ရှင်းလင်းပြော

ဖြစ်ပါသည်။ ကျမက ကျမတို့ ထွက်ခွာ ပြောင်းရွှေ့ရေး အတွက် အမြန်းဆုံးပြင်ဆင်ရပါသည်။

အိမ်ကလေးမှာ နတ်ဗိမ္မာန်တမျှ သာယာလှပါသည်။ အိမ်ထဲတွင် မီးလင်းဖိုနှင့်အတူ လေးထောင့်စပ်စပ်အခန်း ကျယ်ကြီးတခန်းအနီရောင်ပြူးတင်းကျယ်ကြီးတပေါက် ကျမတို့အတွက် အစေခံ နီဂရိုးကလေးတဦး အိပ်ရန် အခန်းငယ်တခန်း ရှိပါသည်၊ အိမ်ရှေ့တွ ဥယျာဉ်တဘက်မှ မြင်ရသောစပျစ်နွယ်များ ယှက်သန်းတွယ်ဘက်နေသည့် အမိုးနှင့် စင်္ကြံလမ်းတလမ်းရှိပါသည်။ ကျမတို့သည် ရိက္ခာကိုအိမ်ခဲမှယူခဲ့၍ စင်္ကြံအောက်တွင် စားသောက်ကြပါသည်။ ကျမတို့အလိုရှိသည့်အခါ ရရှိနိုင်ရန် နီဂရိုးကလေးအား မီးကြည့်ခိုင်းထားသည် အတွက် ကျမမှာ ဟယ်လင်ကို တချိန်လုံးဂရုစိုက်၍ ကြည့်ရှုနိုင်ပါသည်။

ပဋ္ဌမသော် သူမသည် အကြီးအကျယ် အံ့သြနေပါသည်။ သူ့ကိုယ်သူ ထုံထိုင်းချမသားဟု ဒေါ်ပွကာ ငယ်သံပါအောင် အော်ဟစ်၍ ကန့်ကြွက်နေပါသည်။ ညစာ ထမင်း ရောက်လာသောအခါ သူမသည် မြိန်ရေရှက်ရေစားသောက်ပါသည်။ စိတ်ကြည်လင်လာဟန်တူပါသည်၊ သို့ရာတွင် ကျမအား သူမကို ထိကိုင်ချော့မော့ခွင့် မပြုပါ၊ ပဌမညနေခင်းတွင် သူမသည် တယောက်တည်းအရုပ်များနှင့် သီးချားနေထိုင်ပါသည်။ အိပ်ရာဝင်ချိန် ရောက်လာသောအခါ သူမသည်ညဝတ်အင်္ကျီ မလဲ

ဘဲ အလွန်တရာ ညြိမ်ညြိမ်သက်သက် နေပါသည်။ သို့ရာတွင် ကျမခန္ဓာကိုယ်ကို သူမ စမ်းမိသောအခါ အိပ်ရာပေါ်မှ ခုန်ထ၍တခြားဘက်သို့သွားပါသည်။ သူမအား ကျမနှင့်အတူအိပ်ရန် ထပ်မံ မခေါ်ဆောင်ဘဲ နေသော်လည်း သူမအအေးမိသွားမည်ကို စိုးရိမ်လာသဖြင့် အိပ်ရာပေါ်သို့ ကောင်းကောင်းအိပ်ရမည်ဖြစ်ကြောင်း ပြောပြလိုက်ပါသည်။ ကျမတို့မှာ ကြောက်မက်ဘွယ်ကောင်းအောင် ထွေးလုံးရစ်ပတ် ဖြစ်နေခဲ့ရပုံကို ရှင်းသိအောင် ကျမ ပြောပြနိုင်ပါသည်။ အချေအနေမှာ ၂ နာရီနီးပါး ကြာပါသည်။ ကလေးမ တယောက်မှာ ဤမျှ လောက်အားသန်သည်ကို ကျမဘယ်တော့မျှ မကြုံခဲ့ဘူးပါ၊ သို့ရာတွင် ကံအားလျော်စွာ ကျမတို့ နှစ်ဦးစလုံး အနက် ကျမက ခွန်အားဗလသာသဖြင့် သူမအား ညြိမ်ညြိမ်သက်သက်ဖြစ်အောင် ပြုလုပ်ပေးနိုင်ခဲ့ပါသည်။ နောက်ဆုံး၌ ကျမသည်သူမအား အိပ်ယာပေါ်သို့ နေသားတကျ အိပ်စေကာ စောင်ခြုံပေးပြီး အိပ်ယာစွန်း တဖက်အနီးတွင် ကောင်းကောင်းမွှန်မွှန် သိပ်ထားလိုက်ပါတော့သည်။

နောက်တနေ့နံနက်တွင် သူမသည်အလွန်တရာပညာအခြေခံရှိသူပမာ သင်ကြားမှုလွယ်ကူလာပါသည်။ အမှန်အားဖြင့် သူမတွင် အိမ်သားများကို လွမ်းစိတ် ဝင်ရောက်နေပါသည်။သူမသည် တဦးတယောက်ကို စောင့်မျှော်နေသလို တံခါးမကြီးဆီသို့သွား၍ ရပ်နေ ပါသည်။ မကြာခဏသူမသည်ပါးကိုထိတို့ကိုင်တွယ်ကြည့်သည်။

အမူအရာမှာ သူမမေမေကိုမျှော်သော်လည်း မပေါ်လာသဖြင့် ဦးခေါင်းရမ်းခါ၍ ဝမ်းနည်း ပူဆွေး နေဟန် ဖြစ်သည်။ သူမသည် အခါတိုင်းထက်ပိုမို၍ သူမ၏ အရုပ်များနှင့် ကစားနေပါသည်။ ကျမကိုလည်းဘာဘာစုမျှ အနှောင့်အယှက်မပေးလာပါ။ဟယ်လင်အား အရုပ်များနှင့် ကစားနေပုံကိုမြင်ရခြင်းမှာပျော်စရာကောင်းသလောက် သနားစရာလဲကောင်းပါသည်။ အရုပ်များနှင့် ကစားနေသော်လည်း တစုံတရာ ထူးထူးခြားခြားအာရုံခံစားသည်ဟု ကျမ မထင်ပါ။အရုပ်များကို ချော့မော့ ယုယနေခြင်းကိုလဲ ကျမဘယ်တော့မျှ မမြင်ဘူးပါ။သို့ရာတွင် သူမအမေနှင့် သူမ၏အထိန်းများက သူမအား အဝတ်အထည်များ လဲပေးသလို၊ အရုပ်များ ကိုတော့ နေ့တိုင်း အကြိမ်ပေါင်းများစွာ အဝတ်အစားလဲလှယ်ပေးပါသည်။

၅်နေ့နံနက်တွင် သူမ၏အချစ်တော် 'နင်စီ'အားနွားနို့တိုက်ရာ၊ နွားနို့ များဖိတ်ကျသဖြင့် ဟယ်လင်သည် ရုတ်တရက် နို့ခွက်ကိုချ၍ 'နင်စီ'၏ကြောပြင်သို့ရိုက်နှက်ခါ စာဖန် သူမ ဒူးပေါ်သို့'နင်စီ'အား တင်လိုက်ပြန်သည်။ထိုနောက် 'နင်စီအား လေးဘက်သွားစေ၍ တချိန်လုံးယုသနွာ ကြောကို ပုတ်ပေးနေပါသည်။ ၅်သို့ကစားခြင်းမှာမိနစ်အနည်းငယ်သာ ကြာပါသည်။ နောက် ညီးငွေ့လာသောအခါ 'နင်စီ'အား ကြမ်းပေါ်သို့လွှင့်ပစ်လိုက်၍ တစက်သို့ တွန်းရွှေ့ထားလိုက်လေသည်။ အိမ်သား တစုထဲ

တွင် မိခင်ကြီး၏ အလိုလိုက်ခြင်းခံရသူကလေးမို့ ခွဲသိုးဆိုးကာ အကျင့်ပါနေခြင်း ဖြစ်ပါသည်။

ယခုအခါ၌ ဟာယ်လင်သည် စကားလုံး အမြောက်အများပင်သိရှိနားလည်လာပါသည်။သို့ရာတွင် ထိုသိရှိပြီးစကားလုံးများကိုမည်ကဲ့သို့သုံးစွဲရေးသားရမည်ကိုတော့ မသိချေ။ အရာဝတ္ထု-သက်ရှိသက်မဲ့ တိုင်း အမည်တခုခု ရှိကြောင်းကိုလည်း နားမလည်ချေ။မည်သို့ပင်ဖြစ်စေကာမူ၊သူမသည် မကြာမီလျင်မြန်စွာ ပြည့်ပြည့်ဝဝသင်ကြားတတ်မြောက်လိမ့်မည် ဖြစ်ပါသည်။ ကျမအစဉ်ကပြောခဲ့သည်အတိုင်း သူမသည် ကြံ့ခိုင် ဖန်ရည်ရှိ၍ အံ့သြလောက်ဘွယ်ကောင်းလောက်အောင်သွက်လက်ချက်ချာသူကလေးဖြစ်ပါသည်ရှင့်—

မတ်လ ၁၃-ရက်၊ ၁၈၈၇-ခု။

ကျမ၏စမ်းသပ်ချက် ချောချောမောမောဖြစ်ကြောင်းကို ရှင်ကြားသိရသဖြင့် ဝမ်းမြောက် ပါလိမ့်မည်။ဟာယ်လင်နှင့်ပတ်သက်၍ ကျမအဘို့ ဆက်သက်ပြီး အနှောင့်အယှက်မတွေ့ရတော့ပါ။ မနေ့ကထက် ယနေ့သာ၍ အနှောင့်အရှက်မတွေ့ပါ။ သူမသည် စာလုံးသစ်သုံးဂျိုးကို သင်ကြားပြီး ဖြစ်နေပါသည်၊ ကျမက သူမ သင်ကြားပြီးသောအကြောင်း အရာ များကို ပြောပြလျှင် သူမသည် ထိုအကြောင်းအရာဟူသမျှ ထစ်ထစ်ငေါ့ငေါ့မရှိဘဲ စာလုံးပေါင်း၍ ပြပါသည်။ သင်ခန်းစာ ပြီးဆုံး သွားသောအခါ၊သူမ ဝမ်းမြောက်ဟန် ရှိပါသည်။

ဤနေ့နံနက်၌ ကျမတို့သည် ဥယျာဉ်ထဲဝယ် ပျော်ရွှင်
မြူးထူးလျက်ရှိကြပါသည်။ သူမသည်အသားဝင်းထ ရ
ဖြိုးရိုးကို တွေ့လျှင်တွေ့ခြင်း ကျမနားမလည်သော အချို့
အရာများဖြင့် ပြုလုပ်ပြပါသည်။ အိုင်ဗ္ဗိဂရင်းနေအိမ်
တွင် အိမ်သားများအား အမျိုးမျိုးလုပ်ပြသည့် နည်းအ
တိုင်း ပြသည်ကိုတော့ သံသယမရှိပါ။

ကျမသည် တစုံတခုကို ကြားလိုက်ရသဖြင့် လွန်စွာ
အံ့သြသွားမိသည်။ အကြောင်းမှာ မစ္စတာအနက်စ်နော့စ်
သည် လွန်ခဲ့သော နွေရာသီက ကပ္ပတိန် ကယ်လာထံမှ
စာမရရှိမှီ ဟယ်လင့်အကြောင်းကို ကြားပြီးဖြစ်ဟန် တူ
ပါသည်။ ကယ်လာ၏မိတ်ဆွေတဦးဖြစ်သူ ဖလောရင့်စ်
မှ ကျောင်းဆရာ တယောက်ဖြစ်သော မစ္စ တမီလ်ဆင်
သည် နွေရာသီမတိုင်မှီက ဟာဗွတ်၌ လေ့လာချင်း သူ့
မိတ်ဆွေတဦး၏ကလေးအတွက် တစုံတရာ စီစဉ်ပေးနိုင်
မပေးနိုင် စုံစမ်းရန် ပညာသင်ကြားရေးအဘို့ ပါကင်စ်
ကျောင်းသို့ သွားခဲ့ပါသည်။ သူသည် ဒါရိုက်တာလူကြီး
ဟု အတတ်သိသော လူကြီးလူကောင်း တဦးကိုတွေ့ရ၊
ထိုပုဂ္ဂိုလ်အား ဟယ်လင့်အကြောင်း မေးမြန်းခြင်းပြု
လိုက်သည်။ လူကြီးလူကောင်းမှာ စိတ်ပါဝင်စားစရာ
အကြောင်းမမြင်ဟု သူကဆိုသည်။ သို့ရာတွင် တစုံတ ဂ
အကျိုးထူး-မသူးကို စောင့်ကြရဦးမည်ဟု ထိုသူကပြော
ပါသည်။ မစ္စတာ အနက်စ်နော့စ်မှာ ဤသို့တွေ့ဆုံမှုကို

စမြုံ့မပြန်ဘဲ ထူးထူးဆန်းဆန်း သူဟာနဲ့တူသည်ဟု စွတ်စွဲရာ မရှိပါလား ရှင်။

မတ်လ(၂၀)ရက်၊ ၁၀၀၇-ခုနှစ်။

ဤနေ့နံနက်၌ ကျမ၏ အသဲနှစ်လုံးသည် ပျော်ရွှင်မှုဝိတဝယ် အခါရုံတွယ်လျက် သီးဆိုခြင်း ပြုနေပါသည်။ အထူးတလည် အံ့သြလောက် ဘွယ်၊ ကောင်း လောက်အောင်ဘဲ အကြောင်းဖြစ်ပေါ်လာပါသည်။ နားလည်မှုရောင်ခြည်သည် ကျမ တပည့်မလေးအပေါ်သို့ လွှမ်းခြုံထွန်းတောက်ခါ အရာခပ်သိမ်း ပြောင်းလဲခဲ့ပါပြီရှင့်။

လွန်ခဲ့သော ရက်သတ္တနှစ်ပတ်က အနိုင်း သတ္တဝါကလေးမှာ ယခုတော့ အင်မတန် နူးနယ် ယဉ်ကျေးသောအသွင်သို့ ပြုပြင် ပြောင်းလဲ လာခဲ့ပါသည်။ သူမသည် ကျမ စာရေးသည့် အနီးတွင် ထိုင်နေပါသည်။ သူမ၏ မျက်နှာကလေးသည် ရွှင်လန်းလျက်ချိုသာနေပါသည်။ သူမသည် ရှည်လျားသော သိုးမွေးကြိုးတကုန်းကို ထိုးနေပါသည်။ ဤခုက်ပတ်အတွင်း ဇာထိုးပန်းထိုး ပညာတတ်မြောက်လာသဖြင့် သူမသည် မိမိအောင်မြင်မှု အတူ ဂုဏ်ယူလျက်နေပါသည်။ သူမသည် ကြိုးတချောင်းကို ပြုလုပ်ပြီး စီးသောအခါ အခန်းထဲသို့ လှည့်ပတ်၍ သွယ်တန်းထားပါသည်။ သူမသည် လက်ပိုက်၍ လက်ဖေါင်း နှစ်ဘက်ပေါ်သို့ လက်ချောင်း ကလေးများဖြင့် ပုတ်လျက်မိတ်ဖြစ်နေပါသည်။ ယခုတော့ကျမအား သူမသို့ နမ်းခွင့်ပေးပါသည်။ စိတ်ခတ်တည်ငြိမ်၍ သာယာ

ထားသည့်အတိုင်း သူမသည် ကျမ၏ ပေါင်ခွင်ထက်သို့ တက်၍ တမိနစ် ၂ မိနစ်ကြာမျှ ထိုင်နေပါသည်။ ကျမ၏ ချော့မော့ယုယခြင်းကိုလည်း ကပ်ကော်ကလန် မလုပ်တော့ပါ၊ ဤထက်တိုးတက်၍သာ အကြီးအကျယ် လေးစားလာပါတော့သည်။ အနည်းငယ်မျှသောကိုယ်ချင်းစာတရားသိအောင် သင်ကြားမှုက သူမအားရှေးဦးစွာ ရိုသေလေးစားရမှန်း သိလာခြင်းဖြစ်ပါသည်။ သူမသည် ပညာသင်ကြားရေးတွင် လွယ်ကူမှု တွေ့လာလေသည်။ ယခုအချိန်၌ ကျမ၏ ကြည်နူးဘွယ်ရာ ကောင်းလာသော လေ့ကျက်ရန်သင်ခန်းစာက ကလေးမ၏အသိဉာဏ်ကို ထိတွေ့ လှုပ်ရှားတော့ကာ ကျမညွှန်ပြသမျှ စွဲထင်ကျန်ရစ်၍ အစွမ်းထက်အောင် ပုံသွင်းပေးပေ တော့သည်။ လူများကလည်း ဟယ်လင်၏ ပြောင်းလွှဲချက်ကို အသိအမှတ် ပြုကြပါသည်။ သူမ၏ ဖခင်ကြီးကမူ နံနက်တိုင်း ညနေတိုင်း သူရုံးသို့သွားချိန်တိုင်း ကျမတို့ကို အကဲခတ်ပါသည်။ သူမ၏ပုတီးစေ့များကို စိတ်ပါလက်ပါ သီကုန်းနေပုံ၊ လက်ချုပ်ကပ်ပြားမှာ တပြေးညီသော မျဉ်းကြောင်းများ စီတန်းအောင် ချုပ်လုပ် ထားပုံ များကို ကြည့်ရှုပြီး 'ခလေးမတယ်ညိမ်ချက်ကောင်းပါကလား' ဟု ထုတ်ဖော် မြွက်ဆိုလေသည်။ သူမ၏ လုပ်ပုံကိုင်ပုံများမှာ သဘာဝထက် လွန်ကဲလျက် စုံး နတ် တစ္ဆေများ ကူညီလေသလောဟု တွေးထင်ရလောက်အောင် စွဲတင်ကျန်ရစ်နေသည်ကို ကျမတွေ့ရပါသည်။ သူမအစား အ

သောက် နည်းလာ သည်ကိုလည်း ကျမ သတိပြုမိပါ သည်။ သူမဖခင်ကတော့ သူမသည် အိမ်ကိုလွမ်းဆွတ်၍ အိမ်သို့ပြန်ခေါ်ရဦးမည်လားဟု စိုးရိမ်ကြောင်း ပြောပြပါသည်။ ဤအချက်ကို ကျမက သဘောမတူပါ၊ သို့ရာတွင် ကျမတို့သည် ကျမတို့၏ ပန်းဥယျာဉ် ကလေးမှ မကြာမီ ခွဲခွာသွားရလိမ့်မည်ဟု ကျမ ထင်မြင်ပါသည်။

ဤရက် သတ္တပါတ်တွင် ဟယ်လင်သည် 'နာမ်'အများအပြားကို သင်ကြားတတ်မြောက်ခဲ့ပါသည်။ 'ခွက်ကြီး'နှင့် 'နွားနို့'နာမ်နှစ်လုံးမှာ သူမအား အခြားစကားလုံးများထက် ပိုမို၍ စိတ်အနှောက်အရှက် ဖြစ်စေပါသည်။ သူမသည် 'နွားနို့'ကို စာလုံးပေါင်းသောအခါ 'ခွက်ကြီး'သို့ညွှန်ပြလျက် 'ခွက်ကြီး'ကို စာလုံးပေါင်းသောအခါ၊ ရေသောက်ရန်နှင့် ရေသွန်းလောင်းရန် အမှတ်လက္ခဏာများ ပြုလုပ်ပြခြင်းအားဖြင့် ၎င်းမသည် စကားလုံးများ ရှုပ်ထွေးစေခြင်း ဖြစ်ပါသည်၊ အရာဝတ္ထုတိုင်း၌ အမည်တခု ရှိတတ်ကြောင်းကို သူမသည် မယူဆတတ်သေးပါ။

မနေ့ကကျမသည် ဟယ်လင်အား သင်ခန်းစာများကိုသင်ကြားနေစဉ်၊ နီဂရိုကလေးပါ ဝင်ရောက်ခါ စာသင် ပေးပါသည်။ ဤသို့ ပြုလုပ်ပေး ခြင်းမှာ သူမအား လွန်စွာပျော်ရွှင်စေ၍ 'ပါစီ'ထက် သာအောင် ပညာသင်ကြားမှု၌ အားသစ်တိုးလာခြင်းဖြစ်ပါသည်။ အကယ်၍၊ နီဂရိုကလေးကအကြိမ်ပေါင်းများစွာ အမှားအယွင်း

များကို ပြုလုပ်ပြောဆိုလျှင် သူမမှာ အလွန်ဝမ်းမြောက်ပျော်ရွှင် နေတတ်ပါသည်။ နီဂရိုကလေးသည် သူမနောက်သို့လိုက်၍ အတုယူလုပ်သဖြင့် အောင်အားသောအခါ၊ သူမမှာ သိုးမွေးကဲ့သို့ တွန့်လိမ်လောက်ကွေးနေသည့် ဆံပင်များ ပေါက်နေသော ခေါင်းကို တအားခေါက်လိုက်ပါသည်။ သူမ၏နှုတ်ခမ်းများမှာလည်း အသာရှုံ့ခံစားဖြင့်ပြုတတ်သည်ဟု ကျမတွေးမိပါသည်။

ဤရက်သတ္တပတ်တနေ့တွင် ကပ္ပတိန်ကယ်လာသည် ခွေးကလေး 'ဘယ်လီ' ကို ခေါ်လာပါသည်၊ ခွေးကလေးသည် ကျမတို့ကိုတွေ့ရသဖြင့် လွန်စွာအားကျကြေနပ်နေပါသည်၊ ဟယ်ကင်မှာ သူမ၏ကစားဘက်ပေါင်းကိုသတိမိနေသဖြင့် ကပ္ပတိန်ကယ်လာက အံ့သြတကြီး ဖြစ်နေလေသည်။ ဟယ်လင်သည် 'နင်စီ' ကို ရေချိုးပေးပါသည်။ ပဌမသော် သူမသည်ခွေးကလေးကို ဂရုမစိုက်ပါ။ သူမသည် ထုံးစံအတိုင်း နူးညံ့သိမ်မွေ့သော ချေလှမ်းဖြင့် သူမ၏ အနီးအနားတွင် မည်သူရှိမရှိ သိရသောင်လက်မောင်း များကို လှုပ်ရမ်း၍ စမ်းကြည့်ပါသည်၊ 'ဘယ်လီ'မှာ သူမ ဂရုစိုက်မှုကို သွေးဆောင်ရန် လုလွှမပြု စိုးရိမ်ခြင်း ရှိဟန်မတူပါ။ သူမသည် အခါတရံ သူမ၏ အချစ်တော် နင်စီကလေးကိုပင် ဆောင့်ဆောင့်အောင့်အောင့် လုပ်ခဲ့ဘူးသည်ကို ကျမတွေးမိပါသည်။ ခွေးကလေးမှာ အခန်းထဲတွင် တမိနစ်လောက်နေ၍ ထွက်သွားပါသည်၊ ဟယ်လင်ကအနည်းငယ်ခံ၍ကြည့်ရာ ခွေးကလေးမရှိ

မှန်းသိသဖြင့် အချပ်ကို ရေစည်ပိုင်းထဲသို့ နှစ်၍ အခွံ ပတ်လည်လှည့်ကာ ခွေးကလေးကို ရှာဖွေနေပါသည်။ သူမသည် ကပ္ပတိန်ကယ်လာ မတ်တတ်ရပ်နေသော ဖြူ တင်းပေါက်အနီးတွင် ဝပ်နေသည့် 'ဘယ်လီ'ကိုခလုတ် တိုက်မိသည်။ သူမသည် ခွေးမကလေး၏ လည်ပင်းကို လက်မောင်းများဖြင့် ရစ်ပတ်၍ ညှစ်ထားလိုက်ခြင်းဖြင့် ခွေးကလေးမှန်းသိပြီဖြစ်ကြောင်း နားလည်စေပါသည်။ ထိုနောက် ဟယ်လင်သည် ခွေးကလေးအနီးတွင် ထိုင်၍ ခွေးကလေး၏ လက်သဲခြေသဲများကို သူမလက်ဖြင့် ကိုင် တွယ် ပွတ်သပ် နေပါသည်။ သူမ ဘာလုပ် နေသည်ကို တစက္ကန့်မျှ အတွင်း ကျမတို့ မတွေးထင်နိုင် ခဲ့ ကြပါ။ သို့ရာတွင် သူမသည်ခွေးကလေး၏ လက်ချောင်းကလေး များကို 'ယမင်းရုပ်'ဟု စာလုံးပေါင်းနေပုံ တွေ့ကြရ သောအခါတွင်မှ ဘယ်လီအား စာလုံးပေါင်းသင်ကြား ပေးနေကြောင်း ကျမတို့သိကြရပါသည်။

ဧပြီလ ၂၄–ရက်၊ ၁၈၈၇–ခု။

ကျမ၏စနစ်သစ်မှာ အတော်ပင် ခရီးရောက်ပါသည်။ ယခုအချိန်တွင် ဟယ်လင်သည် စာလုံးတရာကျော်၏ အဓိပ္ပါယ်ကို ကောင်းစွာသိလျက်ရှိပြီ။ အလွန် ခက်ခဲသော ကြိုးပမ်းမှုကြီးကို သူမလုပ်ကိုင်လျက် ရှိသည်ကို သူမအနေ နည်းငယ်မျှပင် မရိပ်မိသေးပါ။ ငှက်ကလေး တကောင်မှာ အချိန်ကျလျှင်အပျံသင်သကဲ့သို့သဘာဝအလျောက် ဟယ်လင်မှာ အလိုလိုပင်တတ်သိလိုသောဆန္ဒဖြင့်နေ့စဉ်

သင်ကြားမှတ်သားနေခြင်းဖြစ်သည်၊ ထိုသော် သူမ သွက်သွက်လက်လက်ပြောကြားနေသည်ဟု ထင်မြင်ခြင်း မပြုစေလိုပါ။ သူမ၏ ဝမ်းကွဲညီမကလေး နည်းတူ 'နို့'ဟု ပြောကာ လက်ဟန် ပြခြင်းဖြင့် နို့ ယူခဲ့ ဟူ၍ ၎င်း၊ 'အမေ'ဟူသောစကားဖြင့် မျက်နှာမှုစုံစမ်းဟန်ပြသခြင်းဖြင့်'အမေ ဘယ်မှာလဲ' စသည်ဖြင့် လက်ဟန် ကိုယ်ဟန်ဖြင့် ဖြည့်စွက်ပြောခြင်းမျိုးဖြစ်ပေသည်။

မေလ ၂၂-ရက်၊ ၁၈၈၇-ခု။

ကျွန်မ၏လုပ်ငန်းမှာ နေ့စဉ်နှင့်အမျှ စိတ်ပါ ဝင်စားဖွယ်ရာ ပို၍ ဖြစ်လာသည်။ ဟယ်လင်မှာ အံ့သြစရာကောင်းသောခလေးဖြစ်သည်၊ ပညာသင်ကြားရန် အားထုတ်လိုလားနှစ်သက်ပါသည်၊ ယခုအချိန်ထွင် ဟယ်လင်မှာ စာလုံးသုံးရာကျော် ကျက်မှတ်ပြီးစီး၍ ဥပစာ စကားများကိုလည်း တော်တော်ကလေးအလွတ်ရနေပြီ၊ သုံးလအတွင်း တတ်မြောက်လာခြင်းဖြစ်ပါသည်။

ကျွန်မတို့မှာ နေ့စဉ် ဘတ်စာသင်ခန်းစာများကို သင်ကြားကြရသည်အများအားဖြင့် ဘတ်စာအုပ်ကလေးကို သစ်ပင်ကြီးတပင်အောက်ယူသွား၍တနာရီကျော်ကျော် သင်ကြားလေ့လာခြင်းဖြစ်၏။ ဟယ်လင်က သူမ၏လက်များဖြင့် စာလုံးများကိုရှာဖွေ၍ ကျွန်မက မျက်စေ့ဖြင့်ရှာသည်။ မည်သူက စာလုံးကို ပထမ ရှာတွေ့သည် အမြန်ဆုံးရှာတွေ့သည်ကို ယှဉ်ပြိုင်ကစားကြသည်။ ဟယ်လင်သိသော စာလုံးများအပေါ် လက်ချောင်း ရောက်သွားချိန်

ဝယ်၊ သူမမှာ ဝမ်းသာ သဖြင့် အော်ဟစ် မြူးဘူးကာ ကျမကိုဘက်၍ နမ်းတတ်သည်။ အထူး သဖြင့် ကျမထက် လျင်မြန်စွာ သူမက ရှာဖွေ အနိုင်ရသည်ဟုထင်လျှင် ဝိ၍ မြူးတတ်သည်။ ယခုကဲ့သို့ စံနစ်ဖြင့် တနှာရီမျှ အတွင်း သူမစာလုံးသစ်မည်မျှတိုးတက်မှတ်သားမိသည်ကို အံ့ဩ ခြင်းဖြစ်ပေသည်။နောက်ကျမက စာလုံးသစ် များကို စာ ပိုဒ်ကလေးများအဖြစ် ဘောင်သွင်း ပြသည်။ တခါ တရံ များကလေး ကြောင်ကလေး– ခွေး ငယ် က လေး အ ကြောင်း ပုံတိုကလေး လုပ်၍ စာပိုဒ်များ သင်ကြားပေး နိုင်သည်၊ လှုပ်ရှားသော စကားလုံးများ ဖြစ်သော သွား ခြင်း၊ လာခြင်း၊ ယူထားခြင်း၊ တံခါးပိတ်ခြင်း၊ တံခါးဖွင့် ခြင်း–စသည့် ကြီးယာ စာလုံး များကို သင်ကြား မှတ်သား ရခြင်းကို ဟယ်လင်ပို၍နှစ်ချိုက်သည်။ သူမသည် စာပိုဒ် တဲ့ပိုဒ်ကို ဆက်စပ်ဖန်တည်းနိုင်လျှင် စစ်အောင်နိုင်သော စစ်ဗိုလ်ကြီးကဲ့သို့ပင် ဂုဏ်တက်လေ့ရှိသည်။

ဟယ်လင်၏အကျင့်ဟောင်းအနက် အပြင်းထန်ဆုံး စွဲ လန်း၍ပြုပြင်ရန်အခက်ဆုံး အကျင့်မှာ သူမအားအတား အဆီးဖြစ်သော ပစ္စည်းကြီးယာများကို ခွဲခြေ ပစ်လေ့ရှိ ခြင်းဖြစ်၏။ အကယ်၍ သူမ၏ရှေ့တွင် တစုံတခု အတား အဆီးတွေ့ရလျှင် ဖလ်ခွက်ဖြစ်စေ၊ရေတကောင်းဖြစ်စေ၊ မီးအိမ်ပင်ဖြစ်စေ ကြမ်းပေါ် ပစ်ချ၍ ခွဲခြေ တတ်သည်။ ဟယ်လင်တွင် အရုပ်ကလေး များစွာရှိရာ၊ သူမ စိတ်တို သည့်အခါ၊ မကျေနပ်သည့် အခါ များ တွင် ခွဲ ခြေ ရိုက်

ချိုးတစ်၍ အကောင်းဟူ၍ မရှိသ လောက် ပင် ဖြစ် ၏။ ယမန်နေ့က မင်းဖိစ်မြို့က မိတ်ဆွေတဦးက ဟယ်ထံသို့ အရုပ်တခု လက်ဆောင်ယူလာသည်။ ကျမက ဟယ်လင်အား အရုပ်ကို ရိုက်မချိုးရန် နားလည်အောင် ပြောဆိုတားမြစ် နိုင်ပါမည်လောဟု ကြိုးစားသည်။ အရုပ်က လေးနားသွား၍ဆရာမက ဝမ်းနည်းသည်ဟုစာလုံးပေါင်းပြလျက် ကျမ၏ ဝမ်းနည်းသော မျက်နှာကို စမ်းသပ်စေလျက် အရုပ်ကလေးကို နမ်းရှုံ့စေသည်။ နောက်–အရုပ်ကလေးကို ချစ်ခြတ်နှိုးစွာ ဘက်ထားစေ၍ ‘ ဟယ်လင်က ကောင်းတယ် ဆရာမကပြောတယ် ’ဟု စာလုံးပေါင်းပြီး သင်ပြကာ ကျမ ချယ်မြှုံးနေသည်ကို သူမ၏လက်ဖြင့် စမ်းသပ်စေပါသည်။ ပဋ္ဌမတွင် ကျမက ပြုသသည်များကို သူမကလိုက်၍ လုပ်ယင်း တခါတွင် နှက်နဲသော မျက်နှာကလေးဖြင့် စဉ်းစားပြီး ပြုံးရယ်လာခါ၊ ဟယ်လင်က ကောင်းတယ် ’ဟု စာလုံးပေါင်းပြသည်။ နောက် အရုပ်ကလေးကို ညင်သာစွာဖြင့် ယူသွားလျက် ဘီရိုထိပ်တွင် ကျကျနန ထင်ထားလိုက်သည်။၎င်းသည့်နောက်တွင်ကား အရုပ်ကို ရိုက်ချိုးခြင်း မပြုဘော့ချေ။

ဟယ်လင်ကို စာသင်ရခြင်းအားဖြင့် အသက်ရှင် နေသောစိတ်၏ပထမအကြိမ်အားနည်းစွာဖြင့် ရှုံးကန် တွန်းထိုးထွက်နေသည်ကို မျက်မြင် ကိုယ်တိုင် ပြုရနေရခြင်း ဖြစ်သည်။ရခဲသောအခွင့်အရေးကို ကျမရရှိနေပါသည်။

ဤတောက်ပသောအသိဉာဏ်ကလေးကို နှိုးဆွ လမ်းပြ ပေးရပါမည်။

ဤကြီးကျယ်သောလုပ်ငန်းကြီးအတွက် ကျမမှာယခု ထက် ပို၍ပြည့်စုံစေချင်သည်။ နေ့စဉ် နေ့တိုင်းလိုပင် ကျ ရောက်သောတာဝန်အတွက် ကျမမှာမပြည့်မစုံ ရှိနေပါ ကလားဟုပင်တခါတခါ ထင်မိသည်။ ကျမ၏ အတွေး တွင် အကြံလစ်ဉာဏ်သစ်များ ပြည့်နေသည်။ သို့သော် လက်တွေ့တော့ တစတစ စမ်းသပ် သင်ကြား ပေးနေရ သည်။ကျမ၏စိတ်ဓါတ်မှာ စည်းကမ်းတကျမရှိလှဘဲ ပို ခုံ–ဒိလွှား ဖြစ်နေသည်။ ကျမ ကိုယ်တိုင် မသိနိုင်သော မလေ့လာနိုင်သောအချက်ပေါင်းများစွာရှိနေသေးသည် ဤသည်တို့ကို ကျမအစဉ်အလိုက် စံနစ်တကျ မည်မျှဖြစ် စေလိုသောဆန္ဒရှိသည်ကိုမဖော်ပြနိုင်ပါ။ ကျမကိုကူညီ မည့်သူတဦးကို တမ်းတမိသည်။ ဟယ်လင် ကလေး အ တွက် ဆရာမကောင်းလိုသလို ကျမကိုတဆင့် လမ်းညွှန် ရန် ဆရာလိုပါသည်။ဤခလေးမကလေးကိုစာသင်ကြား ပြသပေးရခြင်းသည် ကျမတသက်တာတွင်ထူးချွန်သော အောင်မြင်မှုကြီးဖြစ်သည်ကို ကျမနားလည်ပါ၏။ ကျမ တွင် ဦးကျောက်နှင့်စိတ်ရှည်စွာ ထားနိုင်မှသာ အောင်ပွဲ ပွဲကြီး ဆင်နိုင်စရာရှိသည်။ ကျမ တော့ ကိစ္စ တခုကို သန္နိဋ္ဌာန် ချထားသည်။ ဟယ်လင် ကလေးသည် စာအုပ် များ အသုံး ချ တတ် အောင် သင်ပြ ပေးမည်။ ဆရာကြီး မစ္စတာ အနာဂနော့စ်ထံက ပိရက်စ်နှင့် ဆာလီတို့ရေး

သွားသော စိတ်ပညာ ကျမ်းများကို ၄ားပေး စေလိုပါ သည်။၍စာအုပ်များက ကျမကိုအကူအညီရရှိလိမ့်မည် ဟုထင်ပါသည်။

မစ္စတာအနာဂနေ့စ်ကို လေးစားစွာသတိရကြောင်း ပြောပြပါ၊ကျမ၏စာကိုလဲ ဘတ်ရှုခွင့်ပြုပါ။တော်လတီမို ကျောင်းတွင် မျက်စေ့မမြင် နားမကြားသော ခလေးတ ဦးအားသင်ကြားနေသည့်ဟုကြားရပါသည်။

(အောက်ပါစာ၏ကောက်နှုတ်ချက်မှာ ၁ဂဂ၇ခုနှစ် ပါကင်စ်ကျောင်းအစီရင်ခံစာတွင်ဖေါ်ပြထားသည်။)

ဇွန်လ ၁၉–ရက်၊ ၁ဂဂ – ခု။

ကျမ၏ ဘပည့် ကလေးမှာ အစပဌမက အတိုင်းပင် စာ ပေသင်ကြားခြင်းကို လိုလားနှစ်သက်သည်။ နိုးကြား နေသည့် အချိန်ကာလတလျောက်လုံး သူမ၏ ပညာဗဟု သုတ ရှာဖွေ ရိုသော ဆန္ဒကို ပြည့်ဝချန် ကြိုးစားသည်။ ကလေးမ၏စိတ်မှာ အမြဲတန်း မရပ်မနား ပညာအသိကို ရှာနေခြင်းကြောင့် ကျမတို့ပင် သူမ၏ ကျန်းမာရေးကို ထိခိုက်မည်လားဟု စိုးရိမ်မိကြပါသည်။ သို့သော်–သူမ မှာယခုအခါတွင် စားနိုင်သောက်နိုင် ပြန့်၍ဖြစ်လျက် အိပ် စက်ရာတွင်လည်း နှစ်ချိုက်စွာ အိပ်နိုင်လာသည်။ ဇွန်လ ၂၇–ရက်နေ့တွင် ခလေးမကလေး၏ အသက်မှာ ၇-နှစ် တင်းတင်းပြည့်ပါမည်။ အရပ်လေးပေ တလက်မမြင့်၍ သူမ၏ဦးခေါင်းမှာ လုံးပတ် ၂၀ လက်မပင် ရှိပါသည်။

ကျမတို့ လမ်းလျှောက်ကြစဉ် ခလေးမမှာ စာလုံးသစ်

များကို လှုပ်ရှားယင်းဖြင့် သင်ကြားရသည့်ကို ဝမ်းသာအူမြူးခြင်းရှိသည်။ တခါထခါ အလှည့် သင့်သည့်အခါ လျောက် စာလုံးသစ် တော်တော်များများ သင်ကြားမှတ်သားစေရာ နောက်တနေ့တွင် ပြန်၍မေးက ကောင်းစွာ သတိရမှတ်သားမိသည်ကို တွေ့ရသည်။ ထိုစာလုံးပေါင်းများကို ရေးတတ်အောင် သင်ကြားပေးသည့်အခါ လျောက် ရေးလည်း ရေးတတ်သည်။ တနေ့တွင် စာတရွက်ကိုချ၍ ဒါးချွန်ဖြင့် ဖေါက်ခါ စာရေးနေသည်။ သူမ သိသမျှ စကားလုံးများကို ပေါင်းစပ်ခြင်းဖြင့် သူမ၏ ညီမပမ်းကွဲ အိဗါထံ စာရေးသည်။ နောက် စာတိုက်တွင်သွား၍ စာထည့်သည်။

သူမ၏ထူးခြားချက်မှာ တကြိမ်တွေ့ဘူးသော သူဖြစ်လျှင် မှတ်မိသည်။ ညှော်သည်၏အမည်ကို စာလုံးပေါင်းပြသည်။ လောရာဘရစ်ဂျ်မင်နှင့် မတူဘဲ သူမက လူကြီးလူကောင်းများကို ပို၍ခင်မင်သည်။ မိန်းမကြီးများထက် ယောကျ်ားကြီးများနှင့် ပို၍ခင်မင်လွယ်သည်။ မိတ်ဆွေဖွဲ့တတ်သည်။

သူမတွင် ချစ်စရာကောင်းသော အကျင့်ရှိနေပါသေးသည်။ သူမတွင်ရှိသော အရာဝတ္ထု ပစ္စည်း မှန်သမျှကို သူမအတွက် အနည်းငယ်သာ ချန်ထားလျက် အခြားသူများကို ခွဲဝေပေးကမ်းတတ်သည်။ အဝတ်အစားကောင်းကောင်း မွန်မွန် ဝတ်တတ်သည်၊ လှလှပပ ကြိုက်သည်။ သူမ ဝတ်ဆင်ထားသော အင်္ကျီအဝတ်အစားတွင် အ

ပေါက်တွေ့က အထူးစိတ်ပျက် ဝမ်းနည်း တတ်သည်။ ညအိပ်ရာဝင်ဆိုလျှင် ဆံပင်များတွန့်လိပ်ရန် ဆံညှပ်များကို တပ်ပေးစေသည်။ ယမန်နေ့ မနက်က သူမဝတ်ဆင်သောဘိနပ်မှာပေါက်ပြဲနေသည့်ကိုတွေ့ရသည့်တွင်ချက်ခြင်း သူမ၏သခင်ထံသို့သွား၍ စာလုံးပေါင်း ပြသည်။ 'ဟယ်လင် ဘိနပ်သစ် ဆင်မဆင် (သူမအစ်ကို) ဆိုင်သွားပါ'ဟု ရေးပြသည်။ သူမဆိုလိုယင်း အဓိပ္ပါယ်မှာ ရှင်းလျက်ရှိသည်။

ဂျူလိုင်လ ၃၁-ရက်၊ ၁၈၈၇-ခု။

ဟယ်လင်၏ခဲတန်ဖြင့် ရေးသားချက်များကား အလွန်ကောင်းသည် ပူးတွဲထည့်လိုက်သောစာအရ ကောင်းစွာ အကဲခတ်နိုင်ပါလိမ့်မည်။ ထိုစာကို ဟယ်သင်က အပြင်းပြေ ရေးသားခြင်းသာဖြစ်သည်။ ယခု ကျမ သူ့ကို မျက်မမြင် ဘရေးလ် စကားလုံးများကို သင်ကြားပေးလျက်ရှိသည်။ သူ့ကိုယ်တိုင် စမ်းသပ်ကြည့်နိုင်သော စာလုံးများကို ဖန်တည်းခွင့် ရရှိသဖြင့် ဝမ်းမြောက် ပျော်ရွှင်လျက်ရှိသည်၊

သူ၏ပညာရေး အခြေအနေမှာ ယခု (ဘာလဲ ဘာကြောင့် ဘယ်တုံးကလဲ)စသည့်မေးခွန်းကဏ္ဍသို့ ရောက်လျက်ရှိလေပြီ၊ သူမ၏ အသိဥာဏ် တိုးတက်ဖွံ့ဖြိုးလာလေ အရာရာကို 'ဘာကြောင့်' လဲဟူသော မေးခွန်းဖြင့်လေ့လာမှုတိုးတက်လာသည်။ ယခင်ကကျမ၏မိတ်ဆွေ သူငယ်ချင်းများ၏ ခလေးများက စပ်စပ်စုစု မေး မြန်း

တတ်သည်ကို နှာငြီးခဲ့ဘူးသည်။ ယခုမှ ခလေးများ၏ သဘာဝ သိမြင် မှတ်သား လိုမှု ဆိုသည်ကို နား လည် မိ ပါသည်။

လွန်ခဲ့သောတနေ့က လော်ရာဘရစ်ဂျ်မင် ထံမှစာတစောင်ရရှိပါသည်။ ကျမသတိရကြောင်းပြောပါ။ ဟယ်လင်ကလေးကလည်း မေတ္တာပို့ကြောင်းပြောပါ။ လော်ရာ၏စာကို ထမင်းစားပွဲတွင် ဘတ်ပြရာ ဟယ်လင်၏မိခင်က 'ဟင်—ဟယ်လင်ကလေးတောင် ဒါလောက်ကောင်းကောင်း ရေးတတ်နေမှာဘဲ ဆရာမရယ်'ဟု ပြောသည်။ မှန်ပါသည် ဟယ်လင်မှာ အတော်ပြေပြစ်အောင် စာရေးတတ်လျက်ရှိပါသည်။

(အောက်ပါစာမှာ ဟယ်လင်ကယ်လာ၏ဆရာမ မစ္စဆူလီဗင်က မစ္စတာ အနာဂ နေ့စ်ထံ ရေး သား လိုက်သော စာဖြစ်သည်။ ၁၈၈၇-ခု ပါကင် စ် မျက် မ မြင်ကျောင်း အစီရင်ခံစာတွင် ဤစာမှ ကောက်နုတ်ချက်အချို့ကို ပုံနှိပ်ထည့်သွင်း ထားလေသည်။)

အောက်တိုဘာလ ၁၈၈၇ ခု။

ဤစာကို မရဒ္ဒိကပင် ဟယ်လင်၏ မျက်မမြင်မိန်းခလေးများထံသို့ ပေးပို့သော ဒုတိယ စာကို ဘတ်ရှုပြီး ကောင်းပြီးပေးမည် ဤစာ ၂ စောင်အကြားတွင် သူမ၏ ပညာတတ်မြောက်မှု တိုးတက်လာပုံမှာ မယုံကြည်နိုင်လောက်အောင် ဖြစ်သည်။ သူမနှင့် အတူတကွ နေ့စဉ်နေထိုင်သူများသာလျှင် သူမ၏ပညာ တိုးတက်မှု လျှ

မြန်ပုံကို သိမြင်နိုင်ပါမည်။ သူမ၏စာတွင် နာဒ်စားချွား ကို မှန်ကန်စွာ ရေးသားထားသည်ကိုတွေ့ရပါလိမ့်မည်။ စကားပြောရာတွင်လည်း သူမ တခါမှ မှား၍ မသုံးဘူး ပါ၊ စာများရေးသားရန် ဆန္ဒမှာ သူမတွင် တနေ့တခြား ပြင်းထန်လာသည် ယခုအချိန်စိတ်ကူးဖြင့် ပြည့်နှက်ထား သော ပုံဝတ္ထုကလေးများကို သူမပြောတတ်သည်။ သူမ ၏ မျက်စေ့နှင့် သာမန်လူများ၏ မျက်စေ့တို့ ခြားနား သည်ကို ကောင်းစွာသိနေပါပြီ။ တနေ့တွင် ကျွန်မ၏မျက် စေ့ကို ကိုင်တွယ်လျက် ဆရာမမျက်စေ့တွေက ဘာ လုပ်သလဲဟု မေးရာ ကျွန်မကအရာဝတ္ထုများကို မျက်စေ့ ဖြင့်ကြည့်ရသည်ဟု ပြောသည့်နောက် ဟယ်လင် အဘိုး တော့ ပေက်များဖြင့်မြင်နိုင်သည်ဟု ကျွန်မက ထပ်မံရှင်း ပြလိုက်သည်။ ခဏကြာ တွေဝေပြီးနောက် ဟယ်လင်က ကျွန်မမျက်စေ့တွေ မကောင်းပါဟုပြောပြီး ကျွန်မ မျက် စေ့တွေ ဖျားနေပါသည်ဟု ပြောပြသည်။

မစ္စဆူလေဗင်၏ ပဉ္စမ အစီရင်ခံစာမှာ ၁၈၈၇ ခုနှစ် ပါကင်စ်ကျောင်း နှစ်ချုပ် အစီရင်ခံစာတွင် ဖော်ပြ ထားသည်၊ ဖော်ပြချက်များမှာ ဆရာမ မစ္စဆူလီဗင်က သူမ၏ တပည့်မကလေး ပညာရေးတိုးတက်မှုနှင့် ပတ် သက်၍ မကြာ ခဏ ရေးသား အစီရင် ခံသော စာများမှ ကောက်နုတ် ဖော်ပြခြင်းဖြစ်သည်။ထိုစာများတွင်ဟယ်လင် သည် ဩဂုတ်လ ကုန်လောက်တွင် စာလုံး ၆၂၅ လုံး

တတ်မြောက်ပြီးဖြစ်လျက် စာစီကုန်းများကို စတင်ရေးသားခြင်းပြုနိုင်သည်ဟု ဖော်ပြထားသည်၊

ဟယ်လင်ကလေးမှာ သူမ၏ ထင်မြင်ချက်များကို စာရွက်ပေါ်တွင် ရေးသားနိုင်ပြီးဖြစ်၍ ကျမက မျက်မမြင်များ အသုံးပြု ရေးသားသော ဘရေးလ် စံနစ်ကို သင်ကြားပေးသည့် သူမကဝမ်းမြောက်စွာ သင်ကြား နာယူပါသည်။ သူမရေးသော စာလုံးကိုပြန်၍ ဘတ်နိုင်သဖြင့် အမြဲတန်းဝမ်းသာ ရွှင်မြူးလျက်ရှိ၏ တခါတခါ ညဦးယံ တဈောက်လုံးတွင် ထိုင်လျက် သူမ၏ အလုပ်များသော ဦးနှောက်တွင်းဝယ် ပေါ်လာသည့်စာများကို ရေးသားခြင်းပြုသည်။ သူမရေသားချက်များကို ကျမ လွယ်ကူစွာဘဲ ဘတ်ရှုနိုင်ပါသည်။

သူမ၏ သင်္ချာ သင်ခန်းစာများမှာလည်း ထူးခြားစွာ တိုးတက်လျက်ရှိပါသည်။ ရာအထိလျှင်မြန်စွာအပေါင်း အနှုတ် တတ်မြောက်နေသည်သာမက အမြှောက်ကိန်းများကို ငါးအလီအထိ ရရှိနေပါသည်။

ဇန္နဝါရီလ ၂၆ ရက် ၁၈၈၈ ခု

ဟယ်လင် ရေးသားပေးပို့လိုက်သောစာကို ရရှိပြီးဖြစ်သည်ဟု ထင်ပါသည်။ သူပုံမကလေးက ခဲတန်နှင့် စာမရေးဟု ခေါင်းထဲတွင် စွဲလန်းနေသည်။ ယနေ့နံနက် သူမ၏ဦးလေး ဖရင့် ခ် ထံ ခဲဘန်နှင့်စာရေးရန် ကျမက တိုက်တွန်းရာ သူမကညင်းဆန်ပါသည်။ ခဲတန်နှင့် ရေးရတာ ခေါင်းထဲမှာ ပင်ပန်းသွပါတယ် ဦးလေးဖရင့်ခ် ထံ

ဘရေး လိ စာနှင့် ရေးမည်ဟု ပြောပါသည်။ ဦးလေး ဖရင့်ခ်က ဘရေး လိ စာပေကို ဘတ်တတ်မှာ မဟုတ် ဘူးဟု ကျမကပြောရာ သူကလေးက ကျမသင်ပေးမယ် ဟု ပြောပါသည်။ ဦးလေးဖရင့်ခ်မှာ အသက်ကြီးပြီဖြစ် ၍ လွယ်ကူစွာဘရေး လိ စာပေကို တတ်မြောက်နိုင်မည် မဟုတ်ဟုရှင်းပြရသည် နောက်ဆုံးမှ သူ့ကို အတော် ပြော၍ ရေးခိုင်းရာ ခဲတန် ၆ ခါလောက် ကြိုးပါသည်။ ကျမက တော်တော်ဆိုးတဲ့ ခလေးမကလေးဟု ပြောရာ သူမက မဆိုးပါဘူး ခဲတန်ကပြောလို့ပါဟု ပြောပါ သည်။ ခဲတန်နှင့်ရေးရခြင်းကို သူမသန့်နေခြင်းမှာ သူမ နှင့်တွေ့သော လူများက ခဏခဏရေးခိုင်းသဖြင့်ဟု ထင် ပါသည်။ မျက်မမြင်ကျောင်းမှ ခလေးများကလည်း ခဲ တန်ဖြင့် စာရေးရသည်ကို မည်မျှ ကြောက်ကြ သည်ကို သိပြီးဖြစ်ပါ လိမ့်မည် အထူးသဖြင့် ကိုယ်ရေးသောစာ ကိုယ်ပြန်မဘတ်နိုင်သည့်အတွက် သူတို့ မနှစ်သက်ခြင်း ဖြစ်ဟန်တူပါသည်။

မေလ ၁၅ ရက် ၁၈၈၈ ခု

ကျမနှင့် ဟယ်လင်ဘို့နားမကြားသောခလေးများအား ပညာသင်ကြားပေးသော ကျောင်းကလေးတကျောင်းသို့ သွားရောက်သည့်ပတ်ကြည့်ရှုသည်။ ကျမတို့ကို ကောင်း မွန်စွာ ဧည့်ခံကြလျက် ဟယ်လင်ကမူ လူစဉ်မရှိသော ခလေးများနှင့် တွေ့ရ၍ ပျော်ရွှင်နှစ်သိမ့်လျက် ရှိသည်။ ဆရာမ ၂ ဦးကလက်ဖြင့် အချက်ပြရေးသားသော နည်း

စံနစ်ကို နားလည်သဖြင့် ဟာယ်လင်အားစကားပြန်မထား ဘဲ တိုက်ရိုက်ပြောဆို ဆွေးနွေးခြင်းပြုနိုင်သည်။ ဟာယ် လင်ကလေးက ဖြေဆိုရာတွင် စကားကြွယ်သဖြင့် သူတို့ အထူးတလည် အံ့ဩလျက် ရှိကြသည်။ သူတို့ကျောင်း တွင် ပညာသင်ကြားနေသော ခလေးများအနက် ဟယ် လင်ကဲ့သို့ စကားအသုံးအနှုံးကြွယ်ဝသော ကလေး တ ဦးတယောက်မျှ မတွေ့ရကြောင်း ပြောပြသည်။ အချို့ ကလေးများမှာ ကျောင်းတွင် ၂ နှစ်သုံးနှစ်ပင် သင်ကြား ခဲ့သူများ ဖြစ်သည်။ ပဋ္ဌမတွင် ကျမမှာ မသုံကြည့်နိုင် အောင် ဖြစ်ရသည်နောက် လက်တွေ့ လေ့လာကြည့်မှ မှန်ကန်ကြောင်းသိရသည်။ ကျမအထင်တွင် စာသင်ပေး ပုံစံနစ် ကွာခြားသည့်အတွက်ဟုထင်သည်။ ကျမတပည့် မကလေးကို သင်ပြရာတွင် သူမသိလိုသောအရာဟူသမျှ ကျမဥာဏ်စွမ်းရှိသမျှ နားလည်အောင် ရှင်းပြပေးခဲ့ရာ ဟာယ်လင်အဘို့ တိုးတက်သိလိုသမျှ အရာများကိုကောင်း စွာ သိမှတ်နိုင်ခွင့် ရရှိခဲ့ပါသည်။ ကျောင်း တွင် ကား ကျောက်သင်ပုံး ကြီးပေါ်တွင် ကျောင်းစာ သင်ခန်း စာများကို သင်ကြားရသည်။ ထိုကြောင့် တိုးတက်မှုခြင်း ကွာခြားခြင်းဖြစ်သည်ကို တွေ့ပါသည်။

(မစ္စဆူလီဗင်၏ ဒုတိယ အစီရင်ခံစာတွင် ဟာယ်လင်၏ ပညာရေးနှင့် ပတ်သက်၍၊ ၁၈၈၈–ခု။ အောက်တိုဘာ လ ၁–ရက်နေ့အထိ ခြုံ၍ဖော်ပြထားသည်။)

လွန်ခဲ့သော၃နှစ်အတွင်းက ဟယ်လင်ကလေးမှာ ကျန်းမာရေးအခြေအနေ ကောင်းမွန်သည်။ သူမ၏မျက်စေ့နှင့် နားများကို မျက်စေ့ နား ပါရဂူများစစ်ဆေးကြည့်ရှုကြပြီးနောက် ဟယ်လင်မှာ အမြင်နှင့် အကြား လုံးဝ မရှိကြောင်း ထင်မြင်ချက်ပေးကြသည်။

ဟယ်လင်မှာ စာအုပ်များကို အတော်များများဘတ်ရှုသည်။ အထူးစိတ်ဝင်စားပွာဖြင့် စာအုပ်ပေါ်တွင် လက်ညှိုးဖြင့် စမ်းသပ်၍ ဘတ်ရှုရာ တဖြည်းဖြည်းနှင့်၊ လူကောင်းများ ကြည့်၍ဘတ်သကဲ့သို့ လျင်မြန်သွက်လက်လာသည်။

ဘာသာစကား တိုးတက်မှတ်သားခဲ့သလောက် သူမ၏ အတွေ့အကြုံ ဗဟုသုတများလည်း တိုးတက်လာပါသည်။ သူမ၏ ပတ်ဝန်းကျင် ကမ္ဘာ အကြောင်းကို ပို၍သိရှိလာသလောက် သူမ၏ ဆုံးဖြတ် ဝေဘန်ချက်များမှာ ပို၍ မှန်ကန်တိကျလာသည်။ ကျိုးကြောင်းဆင်ခြင်မှု စိတ်ဓာတ်ပို၍ အားကောင်း လာသည်၊ သွက်လက် နက်နဲမှု ရှိလာသည်။ သို့အတွက် သူမ ဘုတ်ဖေါ် ပြောကြားရာတွင် ပိုမိုသွက်လက်လျက် ကျိုးကြောင်း ဆက်စပ် ပါရှိလာသည်။

ကျမတို့မှာ မကြာခဏ ခရီးထွက်လေ့ရှိသည်။ ခရီးသွားသည့်အခါများတွင် ဟယ်လင်ကလေးမှာ အတွေးအခေါ်သာမက ကြားရသော စကား အသစ်အဆန်းဟူသမျှကို အာရုံစိုက် မှတ်သားသည်။ သူမဘေး၌ ထိုင်

လျက် မော်တော်ကား ပြူတင်းမှ မြင်ရသော ရှုခင်းများ ကို သူမအား ပြောပြရသည်။ တောင်ကုန်းတွေ၊ မြစ်တွေ၊ ဒါခင်းတွေ၊ ဥယျာဉ်တွေ၊ သစ်သီးတွေ၊ ဟင်းသီးဟင်း ရွက်တွေ၊ စိုက်ပျိုးထားပုံတွေ မြင်ရပုံကို ပြောပြရသည်။ တောင်နံဘေး သိုးအုတ်တွေအစာရှာစားနေပုံ ဘုရားရှိခိုး ကျောင်းတွေ စာသင်ကျောင်းတွေနှင့် မြို့များအကြောင်း ဟောတ်တယ်တွေ ကုန်လှောင်ရုံတွေ လူတွေမည်သို့ လုပ် ကိုင် စားသောက်ပုံတွေကို တိကျစွာဘဲ ပြောပြရသည်။ ဟယ်လင်က အထူး စိတ်ဝင်စားစွာ မှတ်သားထားသည်။ သို့ဖြင့် အထူးတလည် အားစိုက်ရခြင်းမရှိဘဲ စကားသစ် တွေကို လေ့လာမှတ်သားခြင်းပြုနိုင်ခဲ့လေသည်။

စက်တင်ဘာလ ၃၆–ရက်။ ၁၈၈၈–ခု။

‘ ယနေ့နံနက် ဆရာမနှင့်ကျမသည် ပြူတင်း တံခါးအနီး ထိုင်နေ ကြစဉ် လမ်းဘေး လူသွား လမ်းပေါ်မှ ကလေးတဦးလမ်းလျှောက်သွားသည် ကို မြင်ရပါသည်။ မိုးသည်းစွာ ဖြင်းထန်စွာ ရွာသွန်း လျက်ရှိရာ မိုးပေါက် မိုးစက်များမှ ကာကွယ်ရန် သူ့တွင် ကြီးသောထီးကြီးတလက် ရှိသည်။

ထိုကလေးမှာအသက်မည်မျှရှိပြီကိုကျမ–မသိ ပါ။ သို့သော်–၆ နှစ်သားလောက် ရှိပြီဟု ထင် ပါသည်။ သူ၏နာမည်မှာ ဂျို ဖြစ်ကောင်း ဖြစ် ပါလိမ့်မည်။ သူ မည်သည့်အရပ်သို့ သွားသည်

ကို ကျွမ–မသိပါ။ ထိုကလေးမှာ မျက်နှာမိန်း တဦးဖြစ်သည်။ သူ၏မိခင်က ညစာအတွက် ကုန် စုံဆိုင်မှ တစုံတခု ဝယ်ခိုင်းလိုက်ဟန် တူသည်။ လက်ထဲတွင် အိပ်တလုံးပါလာသည်။ သူ့မိခင် ထံ ယူသွားရန်ဖြစ်သည်ဟု ကျွမထင်ပါသည်’။

အောက်ပါစာပိုဒ်ကို ဟာယ်လင်က တနေ့သောနံနက် ခင်းတွင်ပြူးတင်းဘ်ခါးမှဖြတ်သွားသောခလေးငယ်တဦး အကြောင်း ရေးသားလိုက်ခြင်းဖြစ်သည်၊ သူမှအားသင် ပြရာတွင် မှည်သည့်စံနစ်နှင့်ဟု တိကျစွာထား၍ သင် ကြားခြင်းမပြုပါ။ ကျွမ၏ တပည့်မကလေး၏ စိတ်ခေတ် ထဲတွင် နိုးကြားပေါ်ပေါက်လာသည့် အချက်လက္ခဏာ ကိုအကဲခတ်၍ အလိုက်အထိုက်သင်ကြားပေးခြင်းဖြစ်၏။

ဤစံနစ်တခု မူတခုဖြင့် သတ်မှတ်သင်ကြားခြင်း မပြု ဘဲ သူမ၏အတွေ့တွေ့ ဗဟုသုတ အသိဥာဏ်တိုးတက်မှု အတွက် ကြိုးစား ဖြည့်စွက် ပေးသည်။ သူမ၏ ပတ် ဝန်း ကျင်မှ အရာဝတ္ထုများ အပေါင်းအသင်းများ တိုးတက် များပြားလာအောင် ဖန်တည်း၍ သင်ကြားမှတ်သားစေ သည်။ လူများနှင့်လွယ်ကူစွာ သဘာဝအတိုင်း ဆက်ဆံနိ ခြင်းပြုရန် အားပေးသည်။ ထို့ပြင်သာမက ဒိုင်ယာရီမှတ် တမ်းတခုထားရှိရန် သူမအား ကျွမက အားပေးခဲ့သည်။ အောက်ပါ ကောက်နုတ်ချက်မှာ ဟာယ်လင်၏ ဒိုယာရီမှ ဖြစ်သည်။

မတ်လ ၂၂ ရက်။ ၁၈၈၈–ခု။

ကြာသပတေးနေ့က မစ္စတာ အနာဂနေ့ခ့စ် ကျမထံ လာရောက်လည်ပတ်သည်။ သူ့အား ဘက်ရမ်းနမ်းရှုံ့နှုတ်ဆက်သည်။မစ္စတာအနာဂနေ့ခ့စ်မှာ မျက်မမြင် မိန်းခလေး ခြောက်ဆယ် ယောက်ျား ကလေး ခုနှစ်ဆယ်ကို ထိန်းသိမ်း သင်ကြား ပေးနေ ရသည်။ ကျမသူ့ကိုချစ်ပါသည်။မျက်မမြင်မိန်းခလေးများကကျမအား ပန်းထိုးအပ်ချုပ်ချင်းတောင်းတခုလုပ်ပေးသည်။ ကပ်ကြေးအပ်ချည်အပ်များထိုးထား သောစာအုပ်ငယ် ဇာထိုးပန်းထိုး အပ်ကောက်လက်စွပ် သေတ္တာ ပေတန့် ကြယ်သီးပင်ထိုးရန်ခေါင်းအုံးငယ်တခုပါသည်။ မျက်မမြင် မိန်းခလေးများထံ ကျေးဇူးတင်ကြောင်းစာရေးမည်။ နန်စီ အက်ဒလင်းအဲလီတို့အတွက်လှပသော အဝတ်အထည်များချုပ်ပေးမည် မေလတွင် စင်စင်နတီမြို့သို့သွား၍ ခလေးငယ်တဦး (အရုပ်ကလေး) ဝယ်ဦးမည် သို့ဖြင့်ကျမတွင် ခလေးလေးယောက်ရှိလာမည် ခလေးသစ်၏အမည်ကို ဟာရီဟုခေါ်မည် တနင်္ဂနွေနေ့က မစ္စတာ ဝိလျံနှင့် မစ္စတာမစ်ချဲလ် တို့ ကျမတို့ထံ လာရောက် လည်ပတ်သည်။ မစ္စတာအနာဂနေ့ခ့စ် ကတော့ တနင်္လာနေ့က မျက်မမြင်ကလေးများကို ကြည့်ရန် လူဝစ်ဗီလ် မြို့သို့ ထွက်ခွာသွားသည်။

× × ×

နောက် ၂ နှစ်ကာလ အပိုင်းအခြား အတွင်း၌ ကား မျက်မမြင်ကျောင်းအုပ်ကြီး မစ္စတာ အနာဂနော့ စ်က သော်၎င်း ဟယ်လင်ကယ်လာ၏ ဆရာမ မစ္စဆူလီဗင်က သော်၎င်း၊ သတင်းစာ ဂျာနယ်မဂ္ဂဇင်းများတွင်ဟယ်လင်နှင့် ပတ်သက်၍ရေးသားဖေါ်ပြရခြင်း မရှိချေ၊ ၁၈၉၂ ခုနှစ်တွင် ပါကင်စ်မျက်မမြင် ကျောင်း၏ ၁၈၉၁ ခုနှစ် အတွက် အစီရင်ခံစာ ထွက်ပေါ်လာရာတွင် ဟယ်လင် ကယ်လာနှင့်ပတ်သက်၍ အပြည့်အစုံ ဖေါ်ပြထားသည်။ သူမရေးသော စာများလေ့ကျင့်ခန်းများ စာစီစာကုံး များကို ထည့်သွင်း ပုံနှိပ်ထားလေသည်။ ပညာသင်စ မှစ၍ ၂ နှစ်အတွင်း တိုးတက်မှုများမှာ ဂချပြု မှတ်သား ထိုက်ပါပေသည်။ နောက်ပိုင်းနှစ်များတွင်ကား အခြေ ခံ ကောင်းသလောက် ဥာဏ် ကောင်းသလောက် တိုး တက် တတ်မြောက်လာခြင်းကို တွေ့ရသည်။

၁၈၉၁-ခုနှစ်တွင် တင်သွင်းသော ဆရာမ မစ္စဆူလီ ဗင်၏ အစီရင်ခံစာတွင် အောက်ပါ အချက်အလက်များ ပါရှိသည်။

လွန်ခဲ့သောသုံးနှစ်ကာလအတွင်း ဟယ်လင်မှာ လျင် မြန်စွာ ဘာသာစကား သင်ခန်း စာ များကို တိုးတက် လေ့လာမှတ်သားနိုင်ခဲ့သည်။ သာဓက ခလေးများထက် ဟယ်လင်ကအခွင့်အရေးသာ၍ သာအချက်တခုပ်ရှိသည်။

သူမ သင်ကြားလေ့လာခိုက်တွင် အာရုံဘခြား ပြန့်လွင့်ခြင်းမရှိမှု ဖြစ်သည်။

၌အခွင့်သာခိုက်မှာ တဘက်တွင် အကျိုး ယုတ်စေနိုင်သော အခြေဖြစ်စေသည်။ ထိုအခွင့်အရေးမှာ အဆီးအတားမရှိ ဦးနှောက်ကို အစဉ်အဆက် အသုံးပြုလျက်ရှိခြင်းဖြစ်သည်။ လေ့ကျင့်ခန်း တခုကို သူမ မသိသေးနားမလည်သေးသော အရာရှိသ၍ ရပ်ဆိုင်းခြင်း မပြုဘဲ ထောက်လျောက် မေးမြန်းစုံစမ်း မှတ်သား လေ့လာခြင်းပြုတတ်သည်။ တခါတခါခက်ခဲသော သင်္ချာပုစ္ဆာများကို သင်ခန်းစာအတွက် သတ်မှတ်ထားသော အချိန်အတွင်းဖြေဆိုပြီးဆုံးခြင်းမရှိလျှင်ကျမကနောက်တနေ့တွင်ဆက်၍ဖြေရန်ပြောသော်လည်း မရပါ၊ ယခုဆက်လက်ဖြေဆို ရှင်းလင်းရခြင်းဖြင့် ကျမ၏ စိတ်ဓာတ်ပိုမိုရင့်သန်အားရှိလာမည်ဟု ထင်ပါတယ်ဟု ဟယ်လင်က ဖြေဆိုတတ်သည်။

လွန်ခဲ့သော ညအနည်းငယ်က ကျမတို့အခွန်အကောက်များနှင့် ပတ်သက်၍ ဆွေးနွေးနေကြသည်။ ဟယ်လင်က အခွန်အကောက်အကြောင်းကို ပြောပြရန် လိုလားသည့်ကျမက ဟယ်လင်နားလည်နိုင်မှာမဟုတ်ဘူးဟု ပြောရာ ဟယ်လင်သည် ခေတ္တမျှတွေးတောငြိမ်သက်နေပြီးနောက် ကျမ နားမလည်နိုင်ဘူးဆိုတာ ဆရာမ ဘယ်နဲ့လုပ်ပြီး

သိနိုင်သလဲ။ကျွန်မမှာမှတ်ဉာဏ်ကောင်းတယ်၊ ဒီမှာဆရာမ ဂရိအမျိုးသားမိခင်တွေက သူတို့သားသမီးတွေကို အလွန် စေ့စပ်စွာ ပြုရသင်ကြားပေးတယ် လိမ္မာတဲ့ စကားတွေကို သွန်သင်ပေးတယ် ခလေးတွေက ဒီစကားတွေကို အားလုံးနားမလည်ပေမဲ့ တချို့တော့ နားလည်တယ်လို့ ကျွန်မထင်တယ်ဟု စောဒက တက်ပါသည်။ သူမ နားမလည်နိုင်ဟူသော စကားအသုံးအနှုန်းကို မပြောဘဲ ထားခြင်းမှာ အကောင်းဆုံးဖြစ်ပါသည်။

မကြာမီက သစ်သားတုံး ကလေးများဖြင့် မျှော်စင် ဆောက်လုပ်ပုံကို သူမအားပြသသည်။ သစ်သားတတုံးပေါ်တတုံးဆင့်၍ တည်ဆောက်သွားရခြင်းဖြစ်၍အနည်းငယ်လွဲ၍ ထပ်မိလျှင် ပြိုကျတတ်သည်။ အတော်ကြာအောင်မင် ဟယ်လင်သည် မျှော်စင်ကို ဆောက်လုပ်စမ်းသပ်နေရာမှ ကျလျက်ရှိ၍ကျွန်မကသူမအစားဆောက်ပေးမည်ဟုပြောပါသည်။ ဟယ်လင်က မျှော်စင်ကို မဖြစ်မနေ ဆောက်မည်ဟု ဆုံးဖြတ်ထားသည်။ ဖျက်၍ မရပါ။ သုံးနာရီနီးနီးကြိုးစားသီးခံ၍ ဆောက်လုပ်ရာတွင် အောင်မြင်သွားပါတော့သည်။ ဟယ်လင်၏စိတ်ဓာတ်မှာ မဖြစ်မနေ ကြိုးစားတတ်သော စိတ်ဓာတ်ဖြစ်သည်။

၁၈၈၈-ခု အောက်တိုဘာလမတိုင်မီ ဟယ်လင်အား သင်ခန်းစာ လေ့ကျင့်ခန်းများကို စံနစ်တကျ သတ်

မှတ်၍သင်ကြားစေခြင်းမပြုခဲ့ပါ။ ပဋ္ဌမ ၂ နှစ်တွင် သူမ၏ အသိဉာဏ်တိုးတက်မှုမှာ ဒေသသစ်တခုသို့ ရောက်ရှိနေသော ခလေးတဦးကဲ့သို့ သူ့အတွက်အားလုံးအသစ်အဆန်း ချည့်ဖြစ်နေတတ်သည်။ စကားပြောဆိုမှု တိုးတက်လာခြင်းမရှိသ၍ သင်ခန်းစာကို တသမတ်ထည်း ထား၍ သင်ကြားခြင်း ပြုရန် မဖြစ်နိုင်ပါ။

သို့မှုမက ဟယ်လင်၏ သိလို-မှတ်သားလိုသော စိတ်ဓါတ်မှာ ထိုနှစ်ကာလများအတွင်းဝယ် အင်အားအထူးပြင်းထန်သည်ဖြစ်ရာ၊ ဘာသာစကား ပြောကြားမှုတွင် တိုးတက်လာပါသည်။

၁၇၇၉-ခု၊ အောက်တိုဘာလက စ၍ ဟယ် လင် ၏ လေ့ကျင့်ခန်းများမှာ ပို၍ဘိကျ၍ သတ်မှတ်လေ့လာခြင်း ပြုစေနိုင်သည်။ သင်္ချာ-ပထဝီ-ဘိရစ္ဆာန်များ အကြောင်း ဝိုက်ပျိုးရေးအကြောင်းနှင့် ဘတ်စာများဖြစ်၏။

သင်္ချာဘာသာတွင်ထူးခြားစွာတိုးတက်တတ်မြောက်လာသည်။ အပေါင်း၊ အမြှောက်၊ အနှုတ်၊ အစားများကို သေချာကျနစွာ နားလည်တတ်ကျွမ်းလာသည်။ အပိုင်းလက္ခဏာများကိုလည်း တတ်လာသည်။ သူမ၏စိတ်မှာ လျင်မြန်လှပေရာ၊ တခါတခါ ပုစ္ဆာရေး၍မှ မပြီးမှီ ဟယ်လင်က အဖြေကိုပေးနိုင်လျက်ရှိသည်ကို ထူးခြားစွာ တွေ့

ရသည်။ တကြိမ်က ပုစ္ဆာတခုမှာ သူမအား အခက်အခဲ တွေ့နေရာ ကျမက ဟယ်လင်အား ပုစ္ဆာကိုထားခဲ့၍ ထမင်းစားပြီး ဦးနှောက် ရှင်းရန် ခေါ်ပါသည်။ ဟယ်လင်က ခေါင်းခါလျက် စိတ်ပိုင်းဖြတ်ထားဟန်ဖြင့် ကျမ ရန်သူတွေက ကျမ ထွက်ပြေးတယ်လို့ ထင်မှာပေါ့။ ဆရာမ ဒီပုစ္ဆာကို ကျမထိုင်ပြီး အောင်မြင်အောင် ရှင်းရမယ်' ဟုပြောသည်၊ နောက်ဟယ်လင်က ရှင်းလင်းနိုင်ပါသည်။

ပဉ္စမ ၂-နှစ်အတွင်းက စကားလုံးအသစ်များကို တိုးတက် သိကျွမ်း လာသလောက် သူမ၏ အတွေး အခေါ် စိတ်ဓါတ်မှာလည်း တိုးတက်လာသည်၊ စကားပြောရာတွင်လည်း စကားအသုံးအနှုန်း ကြွယ်ဝလာသည်။

တနေ့တနေ့လျှင် စကားလုံးသစ်ပေါင်း အတော်များများ သင်ကြား မှတ်သားနိုင်သည်။ အရာဝတ္ထုများနှင့် ပါတ်သက်သော စကားများသာမက အကြောင်းအရာ လက္ခဏာနှင့်ဆိုင်ရာ စကားအသုံးအနှုန်း များကိုပါ လေ့လာ မှတ်သားခြင်းပြုလာသည်။

ကျမက တပည့်ကလေးကို လွတ်လပ်၍ တက်ကြွလှုပ်ရှားသော သူ တဦး အဖြစ်သာ သဘော ထားလျက်၊ သူ၏ စိတ်နိုးကြွ ဖျော်ဆောင် မှုသာ အကောင်းဆုံးသော နည်းပေးလမ်းပြမှုဟု ယူဆထားသည်။ ကျမက ဆက်ဆံ

ရာတွင်လည်း မျက်စေ့မြင် နားကြားသော ခလေး တဦး နှင့် ဆက်ဆံသကဲ့သို့ ဆက်ဆံပြောဆိုခြင်းပြု၍ အခြားသူ များကလည်း ကျမနည်းတူ ဟယ်လင်အား ဆက်ဆံရန် ကျမက တင်းကြပ်စွာ မှာကြားထားပါသည်။ အချို့က ဤစကားနား လည်ပါ့မလား၊ ထိုစာလုံးအဓိပ္ပါယ် သိပါ့ မလားဟု မေးတတ်ကြရာ၊ ကျမက ပြောချင်ရာပြောပါ။ ဟယ်လင်က သူနားလည်သော စကားလုံးများနှင့် ဆက်စပ်၍ အဓိပ္ပါယ်ကောက်ယူခါ နားလည်နိုင်စရာရှိ သည် ဟု ပြောပြရသည်။

ဟယ်လင် ဘတ်ရှုရန် စာအုပ်များ ရွေးချယ် ရာ တွင် မျက်စေ့မမြင် နားမကြားသူများနှင့်သာ သင့်တော်သော စာအုပ်များကို ရွေးချယ်ခြင်း လုံးဝ မပြုပါ။ သက် တူရွယ်တူ မျက်စေ့မြင်နားကြားသော ခလေးများဘတ်သည့် စာအုပ်များကိုဟယ်လင်နှစ်ချိုက်စွာဘတ်ရှုလေ့ရှိသည်။ စာဘတ်ရာတွင် ပထမပိုင်းတွင် စာဘတ်သောခလေး သိ နားလည် ထားသော အကြောင်း အရာများ စိတ်ဝင်စား စေဘွယ်ရာများ ပါရှိရမည်။ အရေး အသား မှာသည်း ရှင်းလင်း ပြတ်သားရမည်။ ပထမဦးစွာ ပုံဝတ္ထုကလေး တပိုဒ်ကို ဟယ်လင် ဘတ်ရန် ကြိုးစား သည်ကို ကျမ ကောင်းစွာအမှတ်တရ ဖြစ်နေပါသည်။

ဟယ်လင် အင်္ဂလိပ်စာ အသုံးအနှုန်း ကောင်းခြင်းမှာ

စာအုပ်များနှင့် ပွန်းတည်းသဖြင့်ဟု ကျမထင်ပါသည်။ တခါတခါ ၂–နာရီ ၃ နာရီ ဆက်တိုက် စာဘတ်နေ တတ်၍ စာအုပ်ကို လက်မှ မချချင်ချချင်နှင့်ချသည်၊တနေ့ စာကြည့်တိုက်မှ ထွက်လာ ရာတွင် ဟယ်လင်တွင် ခါ တိုင်းထက် လေးနက်တည်ကြည်သော မျက်နှာထားကို တွေ့မြင်ရသဖြင့် ကျမက အကျိုး အကြောင်းကို စုံစမ်း ကြည့်ပါသည်။ 'စာကြည့်တိုက်ထဲကို မ ဝင် လာခင်က အသိဉာဏ်ရှိတာထက် ပြန့်ပြီး ထွက်လာတဲ့အခါ၊ ပိုပြီး တတ်သိလိမ္မာ လာတယ်ဆိုတာကို ကျမ တွေးမိလို့ပါ' ဟုဖြေပါသည်။

စာအုပ်တွေကို သူမ အဘယ်ကြောင့် အထူးတလည် မြတ်နိုးရပါသလဲဟု မေးမြန်းကြည့်ရာတွင် 'စာအုပ်တွေ မှာ ကျမ မမြင်မတွေ့ရတဲ့ အကြောင်းအရာတွေကို ဘတ် ရှုမှတ်သားရပါတယ်။ နောက်ပြီး စာအုပ်တွေက လူတွေ လို ပင်ပန်းညီးငြူခြင်း မရှိဘဲ၊ သိသလို လေ့ လာ မှတ် သားနိုင်ပါဘယ်း ကျမသိချင်သမျှကို ထပ်တလဲလဲ လေ့ လာသိရှိနိုင်ပါတယ်'ဟု ဖြေဆိုပါသည်။

စာဘတ်ရာတွင်လည်း စာသားအဓိပ္ပါယ်ကို မှန်ကန် တိကျစွာ ကောက်ယူနိုင်ပါသည်။

ဟယ်လင်မှာ ခန္ဓာကိုယ်နှင့်လုပ်ရသော အလုပ်ထက်

စိတ်ဖြင့် လုပ်ရသောအလုပ်ကိုပို၍နှစ်သက်သည်။ အခြား မျက်မမြင်ကလေးများကဲ့သို့လက်ဖြင့်လုပ်ရသော အလုပ် များကို လုပ်ချန်မလိုလားပါ။ သို့သော် အခြားမျက်မမြင် ကလေးများပြုလုပ်ကြံပမ်းနေသည့်အရာဟူသမျှကို သူမ ဝင်၍လုပ်ရန် စိတ်ဆန္ဒပြင်းပြသည်။ လွန်ခဲ့သော တလခန့် ကစ၍ လက်ပုံနှိပ်စက်တလုံးရရှိထားရာ၊ ယခုအခါပုံနှိပ် စက်ရိုက်တတ်နေပါပြီ။ စာများကို ပုံနှိပ်စက်ဖြင့် ရိုက်နိုင် ပါသည်။ တလမျှသာရှိသေး၍ ကောင်းစွာ သွက်လက် ခြင်းတော့ မရှိသေးပါ။

လွန်ခဲ့သော ၂-နှစ်ကျော်က သူမ၏ဝမ်းကွဲ ဆွေမျိုး တော်တဦးက ကြေးနန်းစာပို့သည့် စကားလုံးသင်္ကေတများ ကို သင်ကြားပေးသည်။ သူမ၏လက်ခုံပေါ်တွင် အစက် နှင့် အကြောင်း များကို ရေးသား ပြသည်။ ၎င်း စံနစ် ကို ကောင်းစွာ နားလည် တတ်ကျွမ်းသော သူများနှင့် တွေ့ လျှင် ကြေးနန်းရိုက်ကြသည့် စာလုံးဖြင့် ဆက်ဆံပြော ဆိုလေသည်။ ကျမအဘို့မှာလည်း ဟယ်လင် နှင့်ခပ်လှမ်း လှမ်းရှိနေခိုက်များ၌ ဟယ်လင်အား တစုံတရာပြောကြား လိုလျှင် ကြမ်းပေါ်တွင် ဖနောင့်နှင့် အချက်ပြ ပြောဆို ညွှန်ကြားခြင်း ပြုနိုင်ပါသည်။ ၎င်းသို့ အချက်ပြသည့်အခါ တွင် အသံလှိုင်း ပဲ့တင်သံများကို သူမ ခံစားဘမ်းယူ ပါသည်။

× × × ×

ဝရိုက်ဟူမေဆင်ကျောင်းမှ ဟယ်လင်၏ ဆရာတဦး ဖြစ်သူ မစ္စတာ ဂျွန်ဒီဝရိုက်က ကြမထံသို့ အောက်ပါ အတိုင်း စာတစောင်ရေးသား၍ ထင်မြင်ချက် ပေးပါ သည်။

မျက်မမြင်များအတွက် စာဘတ်ရန် စီစဉ် ထားသော ကုလားထိုင်နှင့် စာအုပ် တင်ရန် လက်တန်း ပေါ်တွင် မော်သိုင်လားရေးသားသော ' လီမဲဒီစင် မော်လဂရီလူ ' ခေါ်စာအုပ်ကို တယောက်ထည်း ရယ်မော ရွှင်ကြည် စွာဖြင့် သူမနေ့သိုင်နေကျ အခန်းဒေါင့်တွင် ထိုင်၍ဘတ် နေသည့်ကို မကြာမကြာ မြင်တွေ့ရပါသည်။ ထိုအချိန် က ဟယ်လင်မှာ ပြင်သစ်စာပေကို အနည်းငယ်သာ သင် ကြားတတ်မြောက်သော်လည်း သူမ၏ ဝေဘန် ဆင်ခြင် ပိုင်းဖြတ်ချက်ကို အသုံးပြုခြင်းဖြင့် စာအုပ်ထဲမှ ပြင်သစ် စာပေများ၏အဓိပ္ပါယ်ကို စခ်းဝါးနိုင်၍နားလည်ခြင်းဖြစ် သည်။ သို့ဘတ်ရှုခြင်းအားဖြင့် ရက်သတ္တပါတ် အနည်း ငယ်အကြာ၌ သူနှင့်ကျွန်ုပ်မှာ တည့်နေဘင်တွေ့ရာ ယ်။ ဟယ်လင်က ဝတ္ထုသွားကိုပြန်ပြောင်းပြော ပြ၍ ရယ်မော နှစ်သိမ့်ခြင်းဖြစ်ရသည်။အထူးသဖြင့် စာအုပ်ထဲတွင် ပါ ရှိသော ရယ်စရာနှင့် မှတ်စရာများကို စိတ်ပါ လက်ပါ ပြောပြသည်။ သူမအတွက် စာဘတ်ခြင်းမှာ သင်ခန်းစာ လေ့ကျင့်နေခြင်းမဟုတ်တော့ဘဲ။ သူမအတွက် အပြင်းဖြေ အာယ်ရှုခြင်းသက်သက်မျိုးကဲ့သို့သာဖြစ် သည်။

သို့ဖြင့် ဟယ်လင်၏ဘာသာစကားကို နှစ်သက်မြတ်နိုးခြင်းသည် သူမအဘို့ အထောက်အပန့်များစွာ ဖြစ်စေပါသည်။

ဟယ်လင်ကယ်လာ၏ ကြိုးပမ်းအောင်မြင်မှုများသည် သူမ၏သဘာဝ စွမ်းအားကြောင့်လော-သို့မှမဟုတ် သင်ကြား ပြသပေးသော စံနစ်ကြောင့်လော-ဟူသော ပြဿနာကို အမျိုးမျိုးဝေဘန်ကြသည်။

မစ္စဆူလီဗင်၏ ဉာဏ်စွမ်းထက် ဆယ်ပြန့်မှု အစွမ်းထက်သော ဆရာမတဦးဖြစ်စေကာမူ၊ သဘာဝအားဖြင့် ထိုင်းမှိုင်း၍ စိတ်ဓါတ်ချို့ယွင်းသောခလေးတဦးကိုသင်ကြားပေးရလျှင်ဟယ်လင်ကဲ့သို့ထူးခြားစွာတတ်မြောက်စေနိုင်မည်မဟုတ်ပါ။ ဟယ်လင်အား အစ ပထမပိုင်းကပင် သေချာကျနစွာ သင်ကြားပေးခြင်း မရှိခဲ့လျှင်၊ ယခုကဲ့သို့ အခြေရောက်နိုင်ဘွယ်ရာ မရှိသည်မှာ မှန်သည်။ သို့ဖြင့် မစ္စဆူလီဗင်၏စာများတွင်ပါရှိသည့်အတိုင်း မျက်မမြင် နားမကြားသူများကို ဘာသာစကားပေသင်ကြားပေးသည့် စနစ်တခုပ်ဖြင့် အောင်မြင်ခြင်းမှာ ထင်ရှား ပေါ်လွင်လျက်ရှိ၏။ သာမန် ကျန်းမာသော နားမကြားသည့်ခလေးငယ်များကို ဤစံနစ်မျိုး အသုံးပြု၍ သင်ကြားပြသပေးနိုင်သည်။ ကျယ်ပြန့်စွာ အခြေခံထား၍ စဉ်းစားလျှင် သာမန် ခလေးများကိုလည်း ဤသဘောတရား အခြေခံ

များဖြင့် သင်ကြားပေးခြင်းဖြင့် တိုးတက်မှု ရရှိလာစေနိုင်သည်။

ဤပြဿနာကို ဆွေးနွေးကြဲ ရာဝယ်။ ဟယ်လင်ကယ်လာသည် မွေးကထဲက ထူးချွန်သောအစွမ်းသတ္တိပိုင်ဆိုင်သူဖြစ်၍လော။ ဆရာမကပင် အသင်အပြစနစ်မှန်ဖြင့်သင်ပေးခြင်းကြောင့်လောဟူသောအရေးကို အမျိုးမျိုး ထင်မြင်ချက်ပေးကြသည်။ ဤအရေးတွင် ၂ ခုစလုံး မှန်ကန်ကောင်းမှန်ပေမည်။ အမှန်အားဖြင့် ဆရာမ မစ္စဆူလီဗင်ကိုယ်တိုင်ပင် ထူးချွန်သော တန်ခိုး သတ္တိရှိသူ ဖြစ်သည်။ သူမ အသုံ ပြုသော စံနစ်ကို အခြားသော သူတဦးဦး က အသုံးချလျှင် အောင်မြင်ချင်မှ အောင်မြင်မည်။ မစ္စဆူလီဗင်၏အင်အားကြီးသောစိတ်ဓါတ်သည် သူမ၏တပည့်မ စိတ်တက်ကြွ ထွန်းတောက်မှုကို အားပေး မြေထောင်မြှောက်မှု ပြုလုပ် ပေးနိုင်သည့် မစ္စကယ်လာသည့် ဘာသာ စာပေ သင်အံချန်နှစ်ချိုက်လျက် သင်္ချာဘာသာသင်ကြား၍ စိတ်မဝင်စားဘဲဆိုရာ။ သူမ၏ ဆရာမ ကလည်း ဤအတိုင်းပင် စိတ်ဓါတ်ရှိသည်ကို တွေ့ရသည်။ ဤသို့ တွေ့ရခြင်းဖြင့် မစ္စဟယ်လင်ကယ်လာသည်သူမ၏ဆရာမ အပေါ် အသူးတလည် မှီခိုနေရသည်ဟုအား မပြောသိပါ။ အသက် ၇ နှစ်ရွယ် ကလေးဘဝတွင် တစုံတဦးက ဟယ်လင်ကယ်လာ၏ အလုပ်ကိုဝင်၍ စွက်ဘက်ရာတွင် ခေါင်းမာငြိမ်နေပြီးတွေးတောနေရာ။ 'ဆရာမက မည်သည့်

အတွက် စိတ်အနှောင့်အယှက် တွေ့ရသလဲ မေးသည်။ ၌တွင် ဟယ်လင်ကယ်လာက ကျမရဲ့ သီးခြား အာဏာပိုင် လွတ်လပ်ခွင့်ကို ဖြန့်ဖြူးရအောင် လုပ်မလို့ ’ဟု ပြောသည်။ ယနေ့ကဲ့သို့ စိတ်ဓါတ် တက်ကြွ သူကလေး တဦးကား ဆရာမအပေါ်တွင်လုံးဝမှီခိုအားထားခဲ့သည်ဆိုသည်မှာ မဖြစ်နိုင်ပေ။

× × × ×

မစ္စကယ်လာ၏ နောက်ပိုင်း ပညာသင်ကြားရေးမှာ လွယ်လင့်တကူနားသည့်နိုင်ပေသည်။ငယ်စဉ်က အခြေခံကောင်းများရရှိသွားသည့်ပြင် မစ္စကယ်လာကိုယ်တိုင်ကပင် ပညာသင်ကြားရခြင်းကို အထူးလိုလားသဖြင့်။ တိုးတက် အောင်မြင်မှုများကို ဖြစ်ထွန်းစေကဲ့သည်။

## စကား။

မစ္စဟယ်လင်ကယ်လာမှာ ငယ်စဉ် ကပင် ဆွံ့အနားကဲ့ရာက ပြန်လည်လေ့ကျင့်သင်ကြား ပြသပေးခြင်းကြောင့် စကားပြောနိုင်သည်အထိ အောင်မြင် ကဲ့သည်။ မစ္စကယ်လာ စကားပြောနိုင်ခြင်းနှင့်ပါတ်သက်၍ မည်သို့

သင်ကြားလေ့လာခဲ့ရသည့် ကြိုးပမ်းရသည့် လေ့ကျင့်ရသည်များကို အခြေခံ ခိုင်မာစွာ ပြောနိုင်သူ ၂ ဦးကား ဘော့စ်တွန်မြို့ နားပင်သူများ၏ ဟော်ရေ့စ်မန်းကျောင်း ဆရာမကြီး မစ္စ ဆာရာဖူလာနှင့် ဟယ်လင်ကယ်လာ၏ ဆရာမ မစ္စဆူလီဗင်တို့ ဖြစ်သည်။ မစ္စ ဆာရာဖူလာက ဟယ်လင်အား စကားပြောရန် ပဌမ သင်ခန်းစာ များကို သင်ကြားပြသပေးသည်။ ထိုညွှန်ကြားချက်များအတိုင်း ဆရာမ မစ္စဆူလီဗင်က စည်းကမ်းတကျ သင်ကြား လေ့ကျင့်ပေးသည်။

မစ္စကယ်လာ၏ အသံမှာ တိုးတိုးသက်သာရှိ၍ နားထောင်ကောင်းသည်။ သူမ၏လေးသံမှာ သံတိုသံရှည် ခြားနားမှု မရှိဘဲ စာဘတ်နေစဉ် ခိုလျှင် အသံနိမ့်ဘု မြင့်တုံဖြင့် ဘတ်သွားတတ်သည်၊ စကားခပ်ကျယ်ကျယ် ပြောလျှင် အလယ်သံ ၃ မျိုးဖြင့်သာ ပြောတတ်သည်။ တခါတခါ အသံထွက်သင့်သည် ထက်လေကို အသံပြုသဖြင့် အသံမြင့်နေသည်၊ တခါတခါ သူမ ပြောသည့် အသံမှာဘူရိယာသံပမာရှိ၏။ ခလေးပုံပြင်များကို ပြောပြစဉ် အသံမှ လှပစွာတခုနှင့်တခု ဆက်စပ် သွားသည်ကို ကြားရသည်။ ရှည်လျားသောစကားလုံးများကို ခပ်ဖြည်း

ဖြည်းလေး ပြောသကဲ့သို့ ခလေးငယ်တဦးက စိတ်ဝင်စားစရာ ပုံပြင် တခုကို ပြောပြ နေသည့် သဘွယ် ဖြစ်သည်။

မစ္စကယ်လာသည့် စကားလုံးများကို နိုင်ငံခြားသား တဦးကဲ့သို့ စာအကြောင်းကို တွေး၍ ပြော နေ သ လို ပြောသည်။

ပြင်သစ်စကား ဂျာမန်စကားတို့ကို ပြောတတ်သည့် သူမ၏မိတ်ဆွေ ဂျာမန်ဇာတိရှိသူ ဆရာကြီး မစ္စဘာဂျွန်ဟာစ် စ် ကမူ မစ္စကယ်လာ၏ဂျာမန်စကားပြော လေသံမှာ ကောင်းလှသည်ဟု ပြောပြသည်။

နယူးရော့မြို့ ဝရိုက်ဟူမေဆင် ကျောင်းတွင် ဇာတ်ရောက် သင်ကြားနေခိုက်တွင်၊ ဒေါက်တာ ဟူမေဆန်က ဟယ်လင်ကယ်လာ၏ အသံထွက် တိုးတက် ကောင်းမွန်အောင် ကြိုးစားပြုပြင်ပေးသေးသည်။ အသံ ထွက်ပေါ်လာပုံသာမက အသံကိုပါ သင်ကြားပြသပေးသည်။

မစ္စကယ်လာ ပြောသော စကားကို လွယ်ကူစွာ နားလည်နိုင်–နားမလည်နိုင် ဆိုသော အချက်ကိုမူ၊ တထစ်ချ

ဖြော်ပြရန် ခက်သည်။ အချို့ကမူ လွယ်လင့်တကူ နားလည်သိရှိ၍ အချို့မှာ နားမလည်ဘဲရှိသည်။ သူမ၏ မိတ်ဆွေများ အပေါင်းအသင်း များကား နားထောင်နေကျဖြစ်၍၊ အခြားသူနှင့်ပင်ခြားနားသည်ဟု ထင်မြင်ခြင်းမရှိတော့ချေ။





 

ဟယ်လင်ကယ်လာမှာ၊ လူစဉ်မမှီသည်မှာ မှန်သည်။ ချို့ယွင်းချက်မရှိသူ-အဘယ်သူရှိသနည်း၊၊ သူမ၏ထူးခြားချက်ကား–သူမ၏လူစဉ်မမှီမှုမဟုတ်ဘဲ၊ လူစဉ်မမှီ ဖြစ်ရသည့်ဘဝကိုကျော်လွှားနိုင်ခဲ့သည်သာမက၊ အမြတ်ထုတ်နိုင်ခြင်းဖြစ်သည်။ သူမအကြောင်းကို လေ့လာသူတိုင်း ချီးကျူးစရာကျေးဇူးတင်ဘွယ်ရာများသာ တွေ့ရပေမည်။

ရော့ဗဲသာတွန်ပဲရီ၏
နိဒါန်းမှကောက်နှုတ်ချက်။

ဟယ်လင်ကယ်လာမှာ။ ကမ္ဘာတွင် တဦးတည်းသာရှိ၏။ လူ့လောကတွင်၊ ဂရုဏာစိတ်ထားရှိနေသမျှ၊ မော်ကွန်းတွင်ရစ်ပေမည်။သူမသည်-ကမ္ဘာလောကတွင်း၌-မမြင်ရသူ-မကြားရသူ-ဆွံ့အ နေသော သူများအတွက်။ အသက်ကိုအပ်၍၊ မရပ်မနားကြိုးပန်းကူညီလျက်ရှိသော၊ ကိုယ်တိုင်– မျက်စေ့မမြင်-နားမကြားဆွံ့အနေရှာသော အမျိုးသမီးကြီးဖြစ်သည်။ ကမ္ဘာ့ လူစဉ်မမှီချို့တဲ့သူတို့၏မိခင်ကြီးပင်ဖြစ်သည်။



 

တော်ဝင်ပုံနှိပ်တိုက် ၄၆ ဘုရားလမ်းမှာ ရိုက်နှိပ်သည်။